သာသနာရေးဝန်ကြီးဌာန

အဘိဓမ္မာ၊ ဝိသုဒ္ဓိမဂ်နှင့် ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်း

# အဘိဓမ္မာ ပို့ချစဉ်

ဘဒ္ဒန္တ ဝါယာမဗလာရ

(သင်တန်းမှူးဆရာတော်)

အဂ္ဂမဟာဂန္ထဝါစက ပဏ္ဍိတ

သာသနဓဇ ဓမ္မာစရိယ၊ M.A(Q)

ဦးဘတော ဝိဘာဂ်ဓရ စီစဉ်သည်။

(အဘိဓမ္မာကို အချိန်တိုအတွင်း ရှင်းလင်းလွယ်ကူစွာ လေ့လာနိုင်မည်)

သာသနာနှစ် - ၂၅၅၆ (၄-၅-၂၀၁၃) ကောဇာနှစ် - ၁၃၇၅

သာသနာရေးဝန်ကြီးဌာန

အဘိဓမ္မာ၊ ဝိသုဒ္ဓိမဂ်နှင့် ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်း

# အဘိဓမ္မာ ပို့ချစဉ်

နှင့်

# မေးခွန်းဟောင်းနှင့် အဖြေမှန်များ

နောက်ဆုံးနှစ်အထိ ပါဝင်သည်

**ဘဒ္ဒန္တဝါယာမသာရ**

(သင်တန်းမှူး ဆရာတော်)

မဟာဂန္ထဝါစက ပဏ္ဍိတ

ဓမ္မာစရိယ၊ M.A(Q)

ဥဘာတော ဝိဘင်္ဂရေ- စီစဉ်သည်

အဘိဓမ္မာကို အချိန်တိုအတွင်း ရှင်းလင်းလွယ်ကူစွာ လေ့လာနိုင်မည်။

1 A

သာသနာနှစ်- ၂၅၄၇ (၁၅၊ ၅၊ ၂၀၀၃) ကောဇာနှစ် - ၁၃၆၅

တတိယအကြိမ်
၂၀၀၃ ခုနှစ်၊ မေလ
ဓမ္မဒါန၊ အုပ်ရေ - ၁၀၀၀

အဘိဓမ္မာ ယဉ်ကျေးမှုသင်တန်းသုံးအဖြစ် ရိုက်နှိပ်သည်။

## ကွန်ပျူတာစာစီ

မြင့်မြတ်စိုး၊ ဝင်းနိုင်၊ မျိုးဇော်အောင်
သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန
နှင့်
ဒေါ်သီတာကျော်
ပုလဲကွန်ပျူတာ
၁၀၊ ပုလဲလမ်း၊ ရွှေတောင်ကြား ၂-ရပ်ကွက်
ဗဟန်း၊ ဖုံး- ၅၅၃၄၄၉

## အတွင်းဖလင်

ဦးမောင်မောင်သိန်း၊ သူရိယအလင်း
ကာလာခွဲနှင့် အော့ဖ်ဆက်ဖလင်လုပ်ငန်း
အမှတ် ၁၁၇၃၊ သုဓမ္မာ ၂လမ်း၊
၂-ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊

## အဖုံးနှင့်အတွင်းစာသားပုံနှိပ်သူ

ဒေါ်ရှုခင်၊ ဝင်းလိုက်မိတ် အော့ဖ်ဆက်
၁၅၂၊ စရည်းပင်လမ်း၊ သုဝဏ္ဏ၊
သင်္ဃန်းကျွန်းမြို့နယ်၊ ဖုံး- ၅၇၉၀၁၉

# နိဒါန်း

သိပ္ပံပညာ အဲ့မခန်း တိုးတက်နေသောခေတ်တွင် လူတို့သည် သိပ္ပံပညာ၏ စွမ်းဆောင်နိုင်မှုကို တအံ့တသြ ဖြစ်နေကြရသည်။ သိပ္ပံပညာရှင်တို့သည် စကြဝဠာအတွင်းရှိ ရုပ်သဘာဝတရားတို့ကို သာမာန်ပုဂ္ဂိုလ်များ မြင်သလိုမဟုတ်ဘဲ စူးစိုက်နက်နဲစွာ မြင်နိုင်ကြသည်။ သိပ္ပံပညာသည် အကြောင်းတရားကို ရှာဖွေ၍ ကြောင်း + ကျိုး ညှိယူသော ပညာရပ်ဖြစ်၍ သဘာဝကျလှသည်။

မိုးရွာခြင်းကို သာမန်လူတို့သည် မိုးတွင်းဖြစ်၍ မိုးရွာသည်ဟူ၍သာ သိသည်။ သိပ္ပံပညာရှင်တို့ကား ထိုသို့မဟုတ်၊ မိုးရွာခြင်းသည် ပင်လယ်မြစ်ချောင်းများမှ ရေခိုးရေငွေ့များ ပျံတက်၍ လေထုနှင့် ထိတွေ့သောအခါ အေးခဲပြီး တစ်ဖန်အရေပျော်ကျသဖြင့် မိုးရွာခြင်းဖြစ်ကြောင်း ကြောင်း+ကျိုးဆက်ပုံကို သက်သေပြနိုင်သည်။ မည်သည့်ရုပ်ဓာတ်နှင့် မည်သည့်ရုပ်ဓာတ် ပေါင်းစပ်လျှင် မည်သည့်ရုပ်ဓာတ်တစ်မျိုး ဖြစ်လာသည်ဟု ရုပ်ဓာတ်သဘာဝ ဖြစ်ပေါ်ပုံကို တိတိကျကျ သိနိုင်ကြသည်။ ရေတွင် $H_2O$ဟု ဟိုက်ဒြိုဂျင်နှစ်ဆနှင့် အောက်စီဂျင်တစ်ဆပါရှိကြောင်း တိတိကျကျပြောနိုင်သည်။ ပြောနိုင်သည့်အလျှောက် ရုပ်ဓာတ်စွမ်းအင်နှင့် ပတ်သက်သည့် တီဗွီ၊ ရုပ်မြင်သံကြား၊ ကွန်ပျူတာ အစရှိသဖြင့် အဆန်းတကြယ် ရုပ်ဝတ္ထုပစ္စည်းများကို ဖန်တီးနိုင်ကြသည်။

ပကတိလူသားတစ်ဦးသည် ကမ္ဘာကြီးတစ်ခုလုံးသို့ တစ်ချိန်တည်း တစ်ပြိုင်တည်းမှာပင် ကြားနိုင် မြင်နိုင်အောင် တစ်နေရာတည်းမှ နေ၍

ကြားစေနိုင် မြင်စေနိုင် နေပြီဖြစ်သည်။ ဘာသာတစ်မျိုးတည်းဖြင့် ပြော လိုက်ရုံဖြင့် ဘာသာအမျိုးမျိုးသို့ ပြန်ဆိုပြီးသားကို ကွန်ပျူတာ၏ စွမ်းအား ဖြင့် နားဆင်နိုင်ကြပြီ ဖြစ်သည်။ အံ့စရာပါပေ။

ဗုဒ္ဓဘုရားရှင်၏ ဉာဏ်တော်စွမ်းတွင်လည်း ဘုရားရှင်သည် ကုဋေ ပေါင်းများစွာသော နတ်ပြဟ္မာအမျိုးမျိုး၊ လူအမျိုးမျိုး၊ တိရစ္ဆာန်အမျိုးမျိုး တို့အား တရားဟောရာတွင် တစ်နေရာတည်းမှနေ၍ မာဂဓဘာသာ တစ်မျိုးတည်းဖြင့် ဟောကြားလိုက်ရုံဖြင့် တရားနာသူအပေါင်းတို့သည် မိမိနားလည်သောဘာသာဖြင့်သာ ကြားနာကြရကုန်၏။တရားနာသူ အသီး သီး၏ အနီး၌ ဟောကြားနေသကဲ့သို့ လည်းကောင်း၊ မိမိတစ်ဦးတည်းကို သာ ရည်ရွယ်၍ မိမိနားလည်သောဘာသာဖြင့် ဟောကြားနေသည်ဟု လည်းကောင်း ထင်ရပေသည်။ ဤဉာဏ်တော်စွမ်းကို ယခင်က စိတ်အာရုံ တွင် များစွာ ကြည်လင်မှုမဖြစ်ခဲ့၊ ဘုရားရှင်၏ အစိန္တိယဂုဏ်တော်စွမ်းဟုသာ ယုံကြည်ခဲ့ရသည်။ ယခုခေတ် သိပ္ပံပညာ၏စွမ်းဆောင်ချက်ကြောင့် ရုပ်မြင် သံကြား၊ ကွန်ပျူတာ စသည်တို့၏ စွမ်းဆောင်မှုကို မြင်ရသောအခါ သိပ္ပံပညာရှင်များပင် ဤမျှစွမ်းဆောင်နိုင်လျှင် ဗုဒ္ဓ၏ဉာဏ်တော်စွမ်းကား အဘယ်ဆိုဖွယ်ရာ ရှိမည်နည်းဟု ဗုဒ္ဓဉာဏ်တော်စွမ်းကို ပို၍ သဘော ပေါက်ရပေသည်။

ရုပ်ဓာတ်စွမ်းအင်သက်သက်ကိုသာ သိရှိသဘောပေါက်သော သိပ္ပံ ပညာရှင်များပင် ဤမျှ စွမ်းဆောင်နိုင်၍ အံ့မခန်း ဖြစ်နေလျှင် ရုပ်ဓာတ် စွမ်းအင်ကိုသာမက နာမ်ဓာတ်စွမ်းအင်ကိုပါ သိရှိအသုံးချနိုင်သော ပုဂ္ဂိုလ် တို့သည် မည်မျှ ဆန်းကြယ်၍ အံ့ဩစရာ ကောင်းလိမ့်မည်ကို မှန်းဆ ကြည့်နိုင်ပေသည်။

ဗုဒ္ဓဘုရားရှင်သည် ရုပ်ဓာတ်စွမ်းအင်+နာမ်ဓာတ်စွမ်းအင် နှစ်မျိုး လုံးကို ကိုယ်တိုင်ကျင့်ကြံ သိရှိ၍ ၃၁-ဘုံရှိ လူနတ်ပြဟ္မာ သတ္တဝါတို့ အတွက် ခွဲခြမ်းစိတ်ဖြာ၍ အသေးစိတ်ဟောကြားခဲ့သည်။ ထိုတရားကား

အဘိဓမ္မာတရား ဖြစ်သည်။ အဘိဓမ္မာတရားတွင် ရုပ်ဓာတ်+နာမ်ဓာတ် တို့၏ ဖြစ်ပုံ ပျက်ပုံ အပြီးတိုင် အဆုံးသတ်ပုံတို့ကို နည်းအမျိုးမျိုးဖြင့် အသေးစိတ် ဟောကြားထားသည်။သိပ္ပံပညာသည် ပစ္စုပ္ပန်ဘဝ၏ ရုပ်နာမ် ချမ်းသာရေးကိုသာ အဓိကဆောင်ရွက်သည်။ အဘိဓမ္မာတွင် ပစ္စုပ္ပန်ဘဝ အတွက်ရော တမလွန်ဘဝများစွာအတွက်ပါ ချမ်းသာသုခရအောင် မည်သို့ လုပ်ဆောင်ရမည်ကို ဟောကြားထားသည်။

သိပ္ပံပညာတွင် "**စကြ ဝဠာတစ်ခုလုံးရှိ ရုပ်ဓာတ်စွမ်းအင်များ သည် မည့်သည့်အခါမှ လျော့သွားသည်ဟူ၍မရှိ၊ အမြဲတမ်း နဂိုရှိ သလောက်ပင် တည်ရှိကြသည်၊ စွမ်းအင်တစ်မျိုးမှ တစ်မျိုးသို့ ပြောင်းလဲသွားခြင်းသာ ရှိသည်၊ လျော့သွားခြင်း မရှိ**"ဟု ဆို၏။ ထိုအဆိုသည် အတိုင်းအတာတစ်ခုအထိ မှန်သော်လည်း ရုပ်ဓာတ် စွမ်းအင် ကြီး ပြန်မဖြစ်အောင် အပြီးတိုင်ချုပ်ငြိမ်းစေသည့်နည်း မရှိသေးကြောင်း၊ မပြည့်စုံသေးကြောင်း ဝန်ခံ ပြောကြားလျှက် ရှိသည်။

အဘိဓမ္မာတွင် ရုပ်ဓာတ်စွမ်းအင်ကြီးကို အပြီးတိုင် ချုပ်ငြိမ်းစေသည့် နည်းများ ရှိသည်။ ရုပ်ဓာတ်ကြီးကို အပြီးတိုင်ချုပ်ငြိမ်းစေချင်လျှင် ရုပ်ဓာတ် ခန္ဓာကိုယ်ကြီးတွင် ကိန်းတည်နေသော ရုပ်ဓာတ်+နာမ်ဓာတ်တို့ကို ထပ် တလဲလဲ ဖြစ်ပေါ်စေတတ်သော အနုသယကိလေသာဓာတ်ကို ပယ်ထုတ် ပစ်ရမည်။ မပယ်နိုင်လျှင် ရုပ်ဓာတ်စွမ်းအင်ကြီး ထပ်တလဲလဲ ဖြစ်နေအုန်း မည်။ထိုအနုသယကိလေသာဓာတ် ချုပ်ငြိမ်းစေနည်း အမျိုးမျိုးကိုလည်း အဘိဓမ္မာ၌ အသေးစိတ် ဟောကြားထားသည်။ ကိုယ်တိုင် လေ့လာ မှတ်သား ကျင့်ကြံပွားများ ကြည့်နိုင်ကြပေသည်။ သိပ္ပံပညာထက် အဆ များစွာသာလွန်၍ အံ့သြစရာကောင်းလှသည်။သိမ်မွေ့ခက်ခဲ နက်နဲလှသည်။

ထိုသို့ သိပ္ပံပညာရှင်များ ဉာဏ်မမီနိုင်လောက်အောင် ဗုဒ္ဓဘုရား ရှင်သည် ရုပ်ဓာတ်+နာမ်ဓာတ် အသေသတ်နိုင်သည့် နည်းများကို မည်မျှ ရင်းနှီးရှာဖွေခဲ့ရသည်ကို ကြည့်ပါဦး၊ ယခုခေတ် အံ့သြစရာအကောင်းဆုံး

ဖြစ်သော သိပ္ပံပစ္စည်းအမျိုးမျိုးကို သိပ္ပံပညာရှင်တို့သည် ဘဝများစွာ လက်ဆင့်ကမ်း၍ ရင်းနှီးခဲ့ရသည်။ နောက်နောက်ပညာရှင်တို့သည် ရှေးရှေး ပညာရှင်များ ရှာဖွေခဲ့သည့် မှတ်တမ်းများကို အဆင့်ဆင့်ကြည့်ရှု၍ ပညာမျှင် လေးငါးဆက်ခန့် အဆင့်ဆင့် နှစ်ပေါင်း လေးငါးခြောက်ရာ ကြာညောင်းအောင် စူးစမ်းရှာဖွေမှ အကြောင်းအရာတစ်ရပ်ကို တီထွင် ဆောင်ရွက်နိုင်ခဲ့ကြသည်။ ကမ္ဘာ့ကျေးဇူးရှင်ကြီးများ ဖြစ်ကြသော သိပ္ပံ ပညာရှင်တို့၏ ဇွဲလုံ့လ ဝီရိယ အရင်းအနှီးကား အံ့သြလောက်အောင် ကြီးမားလှပေသည်။

သိပ္ပံပညာရှင်တို့၏ ဇွဲလုံ့လ ဝီရိယတို့ မည်မျှအရင်းအနှီးကြီးမား သည်ဆိုစေ၊ ဘုရားရှင် ရင်းနှီးခဲ့ရသော အရင်းအနှီး အတိုင်းအတာနှင့် စာလျှင် **ဆီးသီးနှင့် မြင့်မိုရ်၊ နှိုင်းဆိုဖွယ်မရ၊ ကွာခြားလွန်းလှသည်၊** ဘုရားရှင်သည် လောကသားတို့အတွက် အမှန်တရားကို ရှာဖွေခဲ့ရာတွင် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းတိုင် ပါရမီမျိုးစုံတို့ကို ဖြည့်ကျင့်ပြီး ရင်းနှီး ခဲ့ရသည်။ ထိုမျှကြာညောင်းသော အချိန်ကာလအတွင်းဝယ် ပန်းခင်းလမ်း ကို လျှောက်၍ ရှာဖွေခဲ့ရသည် မဟုတ်၊ခရောင်းလမ်းကို ဖြတ်၍ ရှာဖွေ ခဲ့ရခြင်း ဖြစ်သည်။ကိုယ်လက်အင်္ဂါ အစိတ်အပိုင်းတို့ကို စွန့်၍လည်းကောင်း၊ လိုအပ်လျှင် အသက်ကိုပါ စွန့်လွှတ်၍လည်းကောင်း၊ ထိုမှတစ်ပါး ဇနီးမယား သမီးသားနှင့် တိုင်းကားပြည်ရွာ ဥစ္စာပစ္စည်း ရတနာတို့ကို စွန့်လွှတ်၍လည်းကောင်း၊ ဘဝများစွာ **ခရီးကြမ်းနှင်၍** ရင်းနှီးခဲ့ရသည်။

လောက၌ အရင်းအနှီးများလျှင် များသလောက် အကျိုးအမြတ် လည်း များသည်ဖြစ်ရာ ဘုရားရှင်သည် အတုမရှိ ရင်းနှီးခဲ့ရသော အတိုင်းအကာ များလှသည်ဖြစ်၍ ရရှိလာသော အကျိုးအမြတ်လည်း အပယုမရှိ အလုံးစုံကို သိသည့် လူနတ်ပြဟ္မာ သတ္တဝါအပေါင်းတို့တွင် အမြတ်ဆုံးဖြစ်သော သဗ္ဗညုတဉာဏ်တော်ပိုင်ရှင်ကြီး အဖြစ်ကို ရရှိခဲ့ခြင်း ဖြစ်သည်။ ထိုဉာဏ်တော်စွမ်းဖြင့် အဘိဓမ္မာတရားတော်ကို ဟောကြား တော်မူခဲ့ခြင်း ဖြစ်သည်။

ရုပ်တရား နာမ်တရားတို့ကို အပြီးတိုင် ချုပ်ငြိမ်းစေနိုင်သောနည်းသည် တစ်ခုတည်းသော ဗုဒ္ဓအဘိဓမ္မာတရားတွင်သာ ရှိသည်။ဗုဒ္ဓအဘိဓမ္မာကို သင်ယူခြင်းဖြင့် ပစ္စုပ္ပန်ဘဝတွင်သာမက ဘဝအဆက်ဆက် ကောင်းကျိုးပေးနိုင်သည့် နာမ်တရားစွမ်းအင် မျိုးစေ့+မကောင်းကျိုးကို ပေးနိုင်သည့် နာမ်တရား စွမ်းအင်မျိုးစေ့တို့ကို သိရှိမည်၊ မိမိသန္တာန်၌ ကောင်းကျိုးပေးမည့် နာမ်တရားစွမ်းအင်မျိုးစေ့များသာ များများရှိအောင်၊ တိုးပွားအောင် ပြုလုပ်ကြရမည်။ တိုးပွားနည်းများကိုလည်း ပေးထားသည်။ မကောင်းကျိုးပေးမည့် နာမ်တရားစွမ်းအင်မျိုးစေ့များကို တဖြည်းဖြည်း အသိတရားဖြင့် ပယ်ရှားသွားနိုင်သည်။ ပယ်ရှားနည်းများကိုလည်း ပေးထားသည်။ ရုပ်တရား နာမ်တရား စွမ်းအင်တို့ကို အပြီးတိုင် မချုပ်ငြိမ်းစေနိုင်သေးသည် ရှိစေဦးတော့၊ ဤမျှလောက် ကောင်းကျိုး+မကောင်းကျိုးစွမ်းအားတို့ကို ဆင်ခြင် သတိပြုနိုင်ကြလျှင်ပင် များစွာ အကျိုးကြီးလှသည်။

ကောင်းကျိုးပေးမည့် နာမ်တရားစွမ်းအင်မျိုးစေ့ + မကောင်းကျိုးပေးမည့် နာမ်တရားစွမ်းအင်မျိုးစေ့ - ဤနှစ်မျိုးလုံးကို ပယ်သတ်နိုင်လျှင်ကား ကောင်းကျိုး+မကောင်းကျိုးတို့ကို ခံစား + စံစားမည့် ရုပ်နာမ်နှစ်ရပ် အသေရပ်၍ အပြီးတိုင် ချုပ်ငြိမ်းသည့် အငြိမ်းတရား သန္တိသုခ နိဗ္ဗာန်ကို ရရှိမည်။ တကယ့်အငြိမ်းတရား နိဗ္ဗာန်ကိုလည်း အဘိဓမ္မာတရားတွင်သာ ရှာဖွေနိုင်လေသည်။ သိပ္ပံပညာ၌ စွမ်းအင်များ ကုန်ဆုံးသွားမှုမရှိ၊ ပုံစံပြောင်းသွားခြင်းသာ ရှိသည်ဟု ဆိုထားလျက်ရှိသောကြောင့် ရုပ်တရား ကာယစွမ်းအားဖက်တွင် ဥရောပနှင့် အမေရိကား စသော သိပ္ပံပညာ ထွန်းကားလှသည့် နိုင်ငံများသည် သာလွန်သော်လည်း ဉာဏစွမ်းအား ဖက်တွင် ဗုဒ္ဓအဘိဓမ္မာရှိသော အရှေ့တိုင်းသားများကို မမှီနိုင်ကြပေ။

မြန်မာနိုင်ငံသည် အဘိဓမ္မာတရားတော်နှင့် ပတ်သက်၍ အစဉ်အလာကောင်းခဲ့သော နိုင်ငံဖြစ်သည်။ပုဂံခေတ် ထေရဝါဒသာသနာ စတင်ထွန်းကားလာစဉ်အခါက သားသည်မိခင်များပင် အဘိဓမ္မာ၏ အခက်ခဲ

ဆုံးဖြစ်သော ပဋ္ဌာန်းကျမ်းကြီးကို သင်နိုင် ဆောင်နိုင်ကြသည်။ ရေခပ်ရင်း ထင်းခွေရင်းပင် အဘိဓမ္မာကို ဆွေးနွေးမေးမြန်းကြသည်။ ပါဠိသဒ္ဒါ အလင်္ကာစာပေတို့ကို ငြင်းခုံကြသည်။ ဘုရင်ကိုယ်တိုင်ကလည်း ပိဋက စာပေကျွမ်းကျင်သည်။ကျစွာမင်းကြီးသည် ရဟန်းတော်များကို တစ်နေ့လျှင် စာဝါ ၁၂-ဝါ=(၁၂)ကြိမ် ပို့ချသည်။ သံဗျင်မင်းသမီးသည် ကန့်လန့်ကာ (လိုက်ကာ)အတွင်းမှ ရဟန်းတော်များကို နေ့စဉ် စာဝါပို့ချပေးကြောင်း သိရသည်။ တိုင်းပြည်ကို ဗုဒ္ဓတရားတော်နှင့်အညီ အုပ်ချုပ်နိုင်ခဲ့၍ တိုင်းပြည် အေးချမ်းသာယာ တိုးတက်ခဲ့သည်။ မြန်မာ့သမိုင်းတွင် မဟာဂန္ထဝင် ခေတ်ကြီးတစ်ခေတ်ကို ထူထောင်နိုင်ခဲ့သည်။

လူပုဂ္ဂိုလ်များပင် ပိဋကစာပေဖက်တွင် ဤမျှ ကျွမ်းကျင်နိုင်နင်း ကြလျှင် ရဟန်းပုဂ္ဂိုလ်များမှာ ပြောဖွယ်မလိုတော့ပြီ၊ ပုဂံ+ပင်းယ+အင်းဝ+ တောင်ငူ+ညောင်ရမ်း+ကုန်းဘောင်ခေတ်ဦးနှင့် ကုန်းဘောင်ခေတ်နှောင်း- ခေတ်အဆက်ဆက်-မင်း+မင်း၏အမတ်+မိဖုရား+မင်းသား+မင်းသမီး မှူးမတ်အပေါင်းတို့နှင့် တိုင်းသူပြည်သား အများအပြားပင် ပိဋကပညာ ရှင်များ ဖြစ်ခဲ့သည်ကို တွေ့ရသည်။ ကုန်းဘောင်ခေတ်နှောင်းပိုင်း သီပေါ ဘုရင်သည်ပင် **ပထမကျော်** အောင်မြင်ခဲ့သော မင်းတစ်ပါးဖြစ်သည်ကို အများအသိပင် ဖြစ်သည်။

ဗုဒ္ဓအဘိဓမ္မာရှိသော မြန်မာနိုင်ငံတွင် လူလာဖြစ်ရခြင်းသည် ကံ အကောင်းဆုံးသော လူသားများ ဖြစ်ကြသည်။ မြန်မာနိုင်ငံသည် ဗုဒ္ဓ တရားတော်ကြောင့်ပင် ဥရောပ အမေရိကား စသော အခြားသောနိုင်ငံ တို့၏ အထင်ကြီးလေးစားမှုကို ခံနေရသည်။ ဂုဏ်ယူစရာလည်း ကောင်းလှ သည်။ ထိုသို့ ဂုဏ်ယူစရာကောင်းသော်လည်း ဗုဒ္ဓဘာသာအများစုသည် ဗုဒ္ဓတရားတော်ကို လက်တွေ့ လေ့လာသိရှိ ကျင့်ကြံလိုက်နာသူများ နည်းပါးကြသဖြင့် အဘိဓမ္မာတရားတော်များလည်း တဖြည်းဖြည်း မှေးမှိန် လာသည်ကို တွေ့ရသည်။

ထိုအချက်ကို ဖြည့်ဆည်းသောအားဖြင့် ပရိယတ်+ပဋိပတ် စွယ်စုံ တတ်မြောက် ကျွမ်းကျင်၍ ကိုယ်တိုင်ကျင့်ကြံ အားထုတ်ပြီး ဓာတ်သဘော မိမိ ရုပ်+နာမ်ဓာတ်တို့၏စွမ်းအင်ကို သိရှိတော်မူသော **လယ်တီဆရာတော်ဘုရားကြီး**သည် လူပုဂ္ဂိုလ်အများစုတို့ အလွယ်တကူ သင်ကြားနိုင်အောင် ပရမတ္ထသံခိပ် စသောလင်္ကာများကို ရေးသား၍လည်းကောင်း၊ ဒီပနီကျမ်းပေါင်း များစွာကို ရေးသား၍လည်းကောင်း အဘိဓမ္မာအလင်းရောင်ကို ထွန်းပြောင်စေခဲ့သည်။ ဥရောပသားတို့ မေးသော ခက်ခဲသောပြဿနာများကိုလည်း ဓာတ်သဘောမိမိ သဘာဝကျကျ ကျေနပ်လက်ခံနိုင်လောက်အောင် ဖြေဆိုနိုင်ခဲ့သည်။ ဥရောပသားတို့၏ အထင်ကြီး လေးစားမှုကို ခံခဲ့ရသည်။ ဥရောပအလင်းပြကျမ်းဟု ကျမ်းတစ်ဆောင်ပင် ရှိခဲ့သည်။

ထို့နောက်တွင် လယ်တီဆရာတော်ဘုရားကြီး၏ ကျေးဇူးကြောင့် အဘိဓမ္မာသင်တန်းများ ပရမတ္ထသံခိပ်အသင်းများ အနယ်နယ်အရပ်ရပ်၌ ပေါ်ပေါက်လာခဲ့သည်။ လူများအတွက် အစဉ်အဆက် အဘိဓမ္မာသင်တန်းများ တည်ရှိခဲ့သည်။

မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးချိန်၌လည်း ရန်ကုန်တက္ကသိုလ်တွင် အဘိဓမ္မာဌာနတစ်ခု ဖွင့်လှစ်နိုင်ခဲ့သည်။ ကမ္ဘာ့သာသနာ့ပြုဆရာတော် ဘဒ္ဒန္တသေဋ္ဌိလာဘိဝံသ (ယခု သက်တော်ရာပြည့်)ဆရာတော်ဘုရားကြီးက ကထိကအဖြစ် ဆောင်ရွက်တော်မူသည်။ ထိုအချိန်က တက္ကသိုလ်ကျောင်းသားတို့ အဘိဓမ္မာကို သင်ကြားခွင့် ရခဲ့ကြသည်။ ထိုအဘိဓမ္မာဌာနကြီး ဆက်လက်မတည်တံ့ခဲ့သည်မှာ ဝမ်းနည်းစရာကောင်းလှသည်။ ယခုအချိန်တွင် ထိုအဘိဓမ္မာဌာနမျိုး တက္ကသိုလ်အသီးသီးတွင် စီစဉ်ဖွင့်လှစ်နိုင်လျှင်ကား အတိုင်းမသိ တန်ဖိုးရှိပေလိမ့်မည်။

သာသနာရေးဦးစီးဌာန မှလည်း အဘိဓမ္မာပြန့်ပွားရေးအတွက် အဘိဓမ္မာ(ဝိသုဒ္ဓိမဂ်) စာမေးပွဲ များကို တစ်နိုင်ငံလုံး အတိုင်းအတာဖြင့် နှစ်စဉ် သီးသန့်ကျင်းပ ပြုလုပ်ပေးလျှက်ရှိသည်။ ယခုအခါတွင် ဆူးလေ အဘိဓမ္မာသင်တန်းများ၊ ဝိုင်အမ်ဘီအေ၊ မင်္ဂလာဗျူဟာ၊ ဓမ္မဗျူဟာ

အဘိဓမ္မာသင်တန်းများ စသည်ဖြင့် လူပုဂ္ဂိုလ်များ အဘိဓမ္မာသင်နိုင်သော သင်တန်းများ ရှိကြသည်။ အခြားအဘိဓမ္မာ သင်တန်းများလည်း များစွာ ရှိကြသည်။ မြန်မာနိုင်ငံ၌ အဘိဓမ္မာအလင်းရောင် ထွန်းပြောင်လျှက်ပင် ရှိသေးသည်။

သာသနာရေးဝန်ကြီးဌာန အနေဖြင့်လည်း ၁၉၉၂-ခုနှစ်တွင် သာသနာရေး ဝန်ကြီး ဒုတိယဗိုလ်ချုပ်ကြီးမျိုးညွန့်နှင့် မြန်မာစာသြဝါဒါ စရိယအဖွဲ့ အကျိုးတော်ဆောင်ဆရာတော် ဘဒ္ဒန္တတိလောကသာရတို့ ညှိနှိုင်းတိုင်ပင်၍ အဘိဓမ္မာသင်တန်းတစ်ခုကို ဖွင့်လှစ်နိုင်ခဲ့သည်။

အဘိဓမ္မာသင်တန်း ဖွင့်သော်လည်း သင်တန်းသားများအတွက် တိုတိုကျဉ်းကျဉ်းနှင့် လွယ်လွယ်ကူကူသိနိုင်မည့် စာအုပ်လက်ကိုင် မရှိ သေးဘဲ ဖြစ်နေသည်။ သင်တန်းအသီးသီးမှ ဇယားနည်း+သဘောနည်း စသော နည်းအမျိုးမျိုးတို့ဖြင့် ရေးသားထားသော စာအုပ်များ ရှိကြ ပါသည်။သူ့နည်းသူ့ဟန်ဖြင့် ကောင်းကြပါသည်။ သာသနာရေးဝန်ကြီးဌာန သင်တန်း အနေဖြင့်လည်း မူလအဘိဓမ္မာသင်္ဂဟကျမ်း ထက်လည်း မကျယ်လွန်း၊ မချုံ့လွန်းဘဲ မူရင်းကျမ်းအဓိပ္ပာယ်စာသားကို လွယ်လွယ် ကူကူ သိနိုင် မှတ်နိုင် ကျက်နိုင်၍ စာမေးပွဲအတွက်လည်း အံဝင်ခွင်ကျ ဖြစ်မည့် လက်ကိုင်စာအုပ်တစ်အုပ် ပြုလုပ်လိုသော အာသီသဖြစ်လျှက် ရှိသည်။

ထို့ပြင် အဘိဓမ္မာတတ်ကျွမ်းပြီးသော ထိုထိုရဟန်းတော်များ လူပုဂ္ဂိုလ်များသည် ထိုထိုအရပ်ဒေသတို့၌ အဘိဓမ္မာ သင်ကြားပေးလိုသော ဆန္ဒရှိကြသည်။ ဆန္ဒရှိကြသော်လည်း ပါဠိမကျက်ရသေးသော လူပုဂ္ဂိုလ် များအတွက် သင်ပြပုံ သင်ပြနည်း၊ လက်ကိုင်ပြုရမည့်စာအုပ် စသည့် အခက်အခဲမျိုးစုံတို့ကြောင့် မသင်ဖြစ်ဘဲ ရှိနေကြသည်။

သာသနာရေးဝန်ကြီးဌာန အဘိဓမ္မာသင်တန်းအနေဖြင့် ထိုအခက် အခဲများကို တစ်စိတ်တစ်ဒေသ ဖြည့်ဆည်းကူညီသောအားဖြင့် သင်တန်း လက်ကိုင်စာအုပ် တစ်အုပ်ကို စီစဉ်လိုက်ရခြင်း ဖြစ်သည်။

ဤစာအုပ်တွင် သင်္ဂြိုဟ်၊ ပရမတ္ထသံခိပ်၊ ဆူးလေအဘိဓမ္မာ၊ သရုပ်ပြ သင်္ဂြိုဟ်၊ ပဌာန်းဆရာတော်ဘုရားကြီး၏ ဗေယာနည်း၊ မင်းကွန်းတိပိဋက ဆရာတော်၏ သံခိပ်အဖြေ၊ အခြေပြုသင်္ဂြိုဟ်, သင်္ဂြိုဟ်ဘာသာဋီကာ စသည်တို့မှ သိလွယ် မြင်လွယ် သဘောပေါက်လွယ်မည့် နည်းလမ်းတို့ကိုသာ အဓိကကူးယူ ဖော်ပြထားခြင်း ဖြစ်ပါသည်။ ထို့ပြင် ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ် သီလရှင်ဆရာကြီး ဆရာလေးများ ရေးသားသော အဘိဓမ္မာနှင့် ပတ်သက်သော စာအုပ်မျိုးစုံတို့ကိုပါ ကြည့်ရှု၍ ကောင်းနိုးရာရာ ထည့်သွင်း စီစဉ်ထားခြင်း ဖြစ်ပါသည်။ လက်တွေ့ပို့ချရင်းဖြင့် ပို့ချသင်ယူသူတို့ အလွယ်တကူ သိနိုင် မှတ်နိုင်မည့်အရေးကို အဓိက ရည်ရွယ်ပါသည်။

ထိုထို အဘိဓမ္မာစာမေးပွဲ အမျိုးမျိုးအတွက်လည်း အခက်မတွေ့ ရအောင် မေးခွန်းဟောင်းနှင့် အဖြေစုံကိုပါ ပူးတွဲ၍ ထည့်ပေးထားသည်။ ဤစာအုပ်သည် အဘိဓမ္မာဉာဏ်အလင်းရောင်ကို အခြေခံကျကျ ပေးစွမ်းနိုင်မည့်အပြင် အဘိဓမ္မာစာမေးပွဲအောင်ပန်းကို ဆွတ်လှမ်းလိုသူတို့ အတွက်ပါ အံဝင်ခွင်ကျအဆင်ပြေအောင် ကူညီနိုင်လိမ့်မည်ဟု ယုံကြည်မိပေသည်။

**အဘိဓမ္မာဉာဏ်အလင်း ကမ္ဘာ့ခွင်းအောင် ပျံ့စေသော်**

အရှင်ဝါယာမသာရ
အဘိဓမ္မာနှင့် ဗုဒ္ဓယဉ်ကျေးမှုသင်တန်း
သာသနာရေးဝန်ကြီးဌာန
ကမ္ဘာအေး (၁၁-၂-၉၆)

## သင်တန်းဆရာများအတွက် မှာထားချက်

ဤစာအုပ်သည် ကျမ်းရင်း တက်(စ်)ဘုတ်အဖြစ် ဆရာ+တပည့် လက်ကိုင်ပြုရန် စာအုပ်သာ ဖြစ်ပါသည်။ အဘိဓမ္မာကို သဘောမိမိ၊ လက်တွေ့ဘဝနှင့် ဆီလျော်အောင်(အသုံးချအဘိဓမ္မာဖြစ်အောင်) သင်ပြတတ်ဖို့ လိုပေသည်။

ထိုသို့ သင်ပြနိုင်အောင် ပြည့်ပြည့်စုံစုံ သဘောမိမိ ရေးသားထားသော စာအုပ်များ ရှိပြီး ဖြစ်ပါသည်။ ဥပမာ–ကထိက ဦးသိန်းအောင် ရေးသားသော **ရှေးဦးသင်အဘိဓမ္မာ**စာအုပ်များသည် လူပုဂ္ဂိုလ်များ အတွက် တစ်ချိန်က တက္ကသိုလ်တွင် သင်ကြားရန် ရေးသားထားသော စာအုပ်ဖြစ်၍ လူပုဂ္ဂိုလ်များကို သင်ကြားရန် အဆင်ပြေသောစာအုပ် ဖြစ်သည်။ ထို့ပြင် အရှင်ဇနကာဘိဝံသ၏ **ကိုယ်ကျင့်အဘိဓမ္မာ၊ သင်္ဂြိုဟ်ဘာသာဋီကာ** အခြားသော **ပရမတ္ထသရူပဘေဒနီကျမ်း၊ ပရမတ္ထအနုဝဏ္ဏနာကျမ်း၊ လယ်တီဒီပနီများ၊ ပရမတ္ထသံခိပ်ဋီကာ၊ မနောရထပူရဏီ၊ သဘောပြအဘိဓမ္မာ** အစရှိသော စာအုပ်များနှင့် သာသနာရေးဦးစီးဌာနမှ ထုတ်ဝေသော **စေတသိက်များအဖွင့်**စာအုပ်တို့ကို အဓိကထား၍ ဖတ်ရှုသင့်ပေသည်။

ပြည့်စုံအောင် ပြောရလျှင် သင်တန်းဆရာသည် အဘိဓမ္မာနှင့် စပ်သမျှ ရေးသားထားသော စာအုပ်များကို များများကြီး ဖတ်ရမည်။ တတ်နိုင်လျှင် ပိဋကတ်တော်အားလုံးကို (မြန်မာပြန်ဖြစ်ဖြစ်) နှံ့စပ်အောင် ဖတ်ရမည်။ သို့မှသာ တိကျပြတ်သားမှန်ကန်ပြီး ဝေဝေဆာဆာ သဘောမိမိ သင်ကြားနိုင်မည် ဖြစ်သည်။

ထိုသို့မဟုတ်ဘဲ၊စာအရှိကို အရှိအတိုင်း ဘယ်စိတ်က ဘယ်လောက်၊ ဘယ်စေတသိက်က ဘယ်ရွေ့၊ဘယ်ရုပ်က ဘယ်မျှ စသည်ဖြင့်သင်ကြားလျှင်ကား တက်ရောက်သူများ တဖြည်းဖြည်း ငြီးငွေ့ကာ မကြာခင် သင်တန်းဆရာနှင့် ဘလက်ဘုတ်သာ ကျန်ရှိလိမ့်မည်။ ထို့ကြောင့် သင်တန်းပြမည့်ဆရာသည် အထက်ပါစာအုပ်များကို သဘောမိမိ သင်ကြားနိုင်ရန် အတွက် ဖတ်ရှုသင့်ကြောင်း အကြံပြုရပေသည်။

* နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ *

# အဘိဓမ္မတ္ထသင်္ဂဟ = အဘိဓမ္မာ သင်္ဂြိုဟ်ကျမ်း

## (အဘိဓမ္မာအနှစ်ချုပ်ကျမ်း)

## ကျမ်းဆရာ၏ ရတနာသုံးပါးကို ရှိခိုးခြင်းနှင့် ဝန်ခံချက်

သမ္မာ သမ္ဗုဒ္ဓ မတုလံ၊
သ သဒ္ဓမ္မ ဂဏုတ္တမံ၊
အဘိဝါဒိယ ဘာသိဿံ၊
အဘိဓမ္မတ္ထ သင်္ဂဟံ။

ငါအနုရုဒ္ဓါ မထေရ်မြတ်သည်-

- ပရမတ္ထအားဖြင့် ထင်ရှားရှိသည့် သူတော်ကောင်းတို့၏ တရားတော်မြတ်ကို လည်းကောင်း၊
- မြတ်သောအရိယာသံဃာတော်အပေါင်းကို လည်းကောင်း၊
- သီလ အစရှိသော ဂုဏ်တော်တို့ကြောင့် တုနိုင်သူမရှိသဖြင့် အတုလဂုဏ်နှင့် ပြည့်စုံတော်မူသော ဘုရားရှင်ကို လည်းကောင်း၊

- ခပ်သိမ်းသောတရားတို့ကို မဖောက်မပြန် သယမ္ဘူဉာဏ်ဖြင့် မိမိအလိုလို သာ သိတော်မူသောကြောင့် **သမ္မာသမ္ဗုဒ္ဓ**ဂုဏ်နှင့်လည်း ပြည့်စုံတော်မူ သော မြတ်စွာဘုရားကိုလည်းကောင်း၊ အန္တရာယ်ကင်းစေခြင်း၊ ကျမ်းကို ချောမောစွာ ရေးသားပြီးစေ ခြင်းငှာ ကြည်ကြည်နူးနူး အထူးသဖြင့် ရှိခိုး၍ အဘိဓမ္မတ္ထ သင်္ဂဟကျမ်းကို စီရင်ပါတော့အံ့။

| | | |
|---|---|---|
| အဟံ | = | အကျွန်ုပ်သည်၊ |
| သသဒ္ဓမ္မံ (တရားဂုဏ်) | = | သူတော်ကောင်းတို့၏ တရား ပရမတ္ထအားဖြင့် ထင်ရှားရှိသောတရား ချီးမွမ်းအပ်သောတရား နှင့်တကွ ဖြစ်တော်မူသော |
| သဂဏုတ္တမံ (သံဃာဂုဏ်) | = | ကျော်စောသော ပုထုဇဉ်ပုဂ္ဂိုလ်တို့ထက် အထူး သဖြင့် ကျော်စောသော |
| | - | နူတ်အပ်ပြီးသော အဝိဇ္ဇာရှိသော |
| | - | မြတ်သောအရိယာပုဂ္ဂိုလ်အပေါင်းနှင့်တကွ ဖြစ် တော်မူထသော<br>(ဂဏုတ္တမံ = ဂဏ + ဥတ္တမံ =<br>ဥတ္တမံ = သုပ္ပဋိပ္ပန္နစသော ဂုဏ်အားဖြင့် မြင့်မြတ်သော၊ ဂဏ= ပုဂ္ဂိုလ်အပေါင်း) |
| အတုလံ (ဘုရားဂုဏ်) | = | သီလ အစရှိသော ဂုဏ်တော်တို့ကြောင့် တစ်စုံ တစ်ယောက်သောသူနှင့် တူတော်မမူထသော |
| သမ္မာသမ္ဗုဒ္ဓံ (ဘုရားဂုဏ်) | = | သင်္ခတ+အသင်္ခတအားဖြင့် ပြားသော ခပ်သိမ်း သောတရားတို့ကို မဖောက်မပြန် သယမ္ဘူဉာဏ် ဖြင့် မိမိအလိုလိုသာ သိတော်မူပြီးသော မြတ်စွာဘုရားကို၊<br>(အဘိဝန္ဒာမိ=အန္တရာယ်ကင်းပျောက်၊ ကျမ်းပြီး မြောက်ဖို့၊ ချီးမြောက်ထောမနာ၊ လွန်စွာ ကြည်နူး၊ အထူးသဖြင့် ရှိခိုးပါ၏။) |
| အဘိဝါဒိယ | = | အထူးသဖြင့် ရှိခိုးပြီး၍၊ |

အဘိဓမ္မတ္ထသင်္ဂဟံ = အဘိဓမ္မာ၊ ဒေသနာ၏၊ လွန်စွာကျယ်ဝင်း၊ အနက်ရင်းကို၊ အကျဉ်းချုံးကာ၊ သိမ်းယူရာ၏ အဖြစ်ကြောင့်၊ အဘိဓမ္မတ္ထသင်္ဂြိုဟ် ခေါ်ဆို လက်သန်း၊ အဋ္ဌကထာကျမ်းကို၊

ဘာသိဿံ = မိန့်ဆိုတီထွင် စီရင်ပေအံ့။

ဤအဘိဓမ္မတ္ထသင်္ဂဟ(အဘိဓမ္မာအနှစ်ချုပ်)ကျမ်းကို မရေးသားမီ အန္တရာယ်များ မကျရောက်စေရန်၊ ကျမ်းစာကို ကောင်းမွန်စွာ ရေးသား ပြီးစီးစေရန် ဟူသော ရည်ရွယ်ချက်ဖြင့် ဘုရား+တရား+သံဃာတို့အား ရှိခိုးခြင်း ဖြစ်သည်။

**အဘိဓမ္မတ္ထသင်္ဂဟကျမ်း**ဟူသည်-

(အဘိ+ဓမ္မ+အတ္ထ+သင်္ဂဟ။ အဘိ = မဖောက်မပြန် လွန်ကဲထူးမြတ် မှန်ကန်သော+ဓမ္မ = တရား + အတ္ထ = အနက်အဓိပ္ပာယ်+သင်္ဂဟ= အကျဉ်းချုပ်၊ အနှစ်ချုပ်) မဖောက်မပြန် လွန်ကဲထူးမြတ် မှန်ကန်သော တရားတို့၏ အနက်အဓိပ္ပာယ်တို့ကို အနှစ်ချုပ်၍ပြသောကျမ်း ဖြစ်သည်။

**အဘိဓမ္မတ္ထသင်္ဂဟ**-ပုဒ်ဖြင့်

၁။ ကျမ်းစာအုပ်၏ အမည်ကိုလည်းကောင်း၊

၂။ ကျမ်းစာအုပ်၏ အနက်အဓိပ္ပာယ်ကိုလည်းကောင်း၊

၃။ ကျမ်းကို မည်သို့မည်ပုံ ရေးသားထားသည်ဟူသော ကျမ်းရေးပုံ အခြင်းအရာတို့ကို လည်းကောင်း ပြဆိုသည်။

**အဘိဓမ္မတ္ထသင်္ဂဟံ**-၌

အဘိဓမ္မအရ-ဓမ္မသင်္ဂဏီစသော အဘိဓမ္မာခုနစ်ကျမ်းကိုရ၏။

**အဘိဓမ္မတ္ထအရ-စိတ်+စေတသိက်+ရုပ်+နိဗ္ဗာန်+ပညတ်တရားတို့ကို ရ၏၊**

အဘိဓမ္မတ္ထသင်္ဂဟအရ-အဘိဓမ္မတ္ထသင်္ဂဟကျမ်းကိုရ၏။

ဓမ္မအရ = မင်္ဂလေးပါး+ဖိုလ်လေးပါး+နိဗ္ဗာန်+ပရိယတ်-တရားဆယ်မျိုး ရ၏။ (မင်္ဂလေးပါး + နိဗ္ဗာန်သည် မုချအားဖြင့် ဓမ္မမည်၏၊ **ဖိုလ်လေးပါး၊ ပရိယတ်သည် ဥပစာအားဖြင့် ဓမ္မမည်၏။)**

3
A

ပရမတ္ထတရား (၄)ပါး (မဖောက်မပြန် မှန်ကန်သောတရားများ)

၁။ စိတ် = အာရုံကိုသိတတ်သော၊ ဆန်းကြယ်သောသဘောရှိ

၂။ စေတသိက် = စိတ်၌မှီတွယ်၍ စိတ်ကို ခြယ်လှယ်သောတရား (၅၂)ပါးရှိ

၃။ ရုပ် = အချမ်းအပူ စသော ဆန့်ကျင်ဘက်တို့ကြောင့် ရှေးရုပ်အစဉ်နှင့်မတူအောင် နောက်ရုပ်အစဉ်၏ ထင်ထင်ရှားရှား ဖြစ်ပျက်ပြောင်းလဲ ဖောက်ပြန်တတ်သောတရား (၂၈)ပါးရှိ၊

၄။ နိဗ္ဗာန် = ဒုက္ခခပ်သိမ်းတို့ ချုပ်ငြိမ်းရာ၊ ရာဂစသော မီး တစ်ဆယ့်တစ်ပါးတို့ ငြိမ်းရာ၊ တဏှာမှ ထွက်မြောက်ရာ၊ ချမ်းသာအစစ်အမှန်တရား။

*လက်ာ = စိတ်–စေတသိက်–ရုပ်–နိဗ်လေးရပ်၊ ပရမတ်။*

## စိတ်ပိုင်း

ဘုံအားဖြင့် စိတ် (၄) မျိုး

၁။ ကာမဘုံ၊ ကာမစိတ် - ၅၄ ပါး၊

၂။ ရူပဘုံ၊ ရူပစိတ် - ၁၅ ပါး၊

၃။ အရူပဘုံ၊ အရူပစိတ် - ၁၂ ပါး၊

၄။ လောကုတ္တရာစိတ် - ၈ ပါး (ဘုံသီးခြားမရှိ)၊

*လင်္ကာ = ကာမ-ရူပ-အရူပ၊ လောက-ဥတ္တရာ။*

အကုသိုလ်စိတ် - ၁၂ ပါး (အပြစ်ရှိ၊ မကောင်းကျိုးပေး)

လောဘမူစိတ် - ၈ ပါး (လိုချင်တပ်မက်စိတ်များ)

၁။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိကစိတ်

၂။ - ။ ။ သသင်္ခါရိကစိတ်

၃။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိကစိတ်

၄။ - ။ ။ သသင်္ခါရိကစိတ်

၅။ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိကစိတ်

၆။ - ။ ။ သသင်္ခါရိကစိတ်

၇။ - ။ ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိကစိတ်

၈။ - ။ ။ သသင်္ခါရိကစိတ်




*လင်္ကာ-*

*သော+ဥ-နှစ်တန်*

*ဒိဋ္ဌိသမ်+ဝိ-လေး*

*ပွားရေး အ+သ*

*စိတ်ရှစ်ဝ၊ အဋ္ဌလောဘမူ*

**လောဘမူစိတ် ၈-ပါး ပြားခြင်း။** ။ လောဘစိတ်တစ်မျိုးတည်း ဖြစ်သော်လည်း သောမနဿ၊ ဥပေက္ခာ၊ ဒိဋ္ဌိဂတသမ္ပယုတ်၊ ဒိဋ္ဌိဂတဝိပ္ပယုတ်၊ အသင်္ခါရိက၊ သသင်္ခါရိကအားဖြင့် ကွဲပြားသောကြောင့် (၂ x ၂ x ၂ = ၈) ရှစ်ပါးပြားရသည်။

**သောမနဿ** = နှစ်သက်ဝမ်းမြောက်ခြင်း၊
**ဥပေက္ခာ** = ဝမ်းသာဝမ်းနည်းမရှိ အလယ်အလတ်သဘော။
**ဒိဋ္ဌိဂတသမ္ပယုတ်**= မှားသောအယူနှင့် ယှဉ်ခြင်း
**ဒိဋ္ဌိဂတဝိပ္ပယုတ်**= မှားသောအယူနှင့် မယှဉ်ခြင်း
**အသင်္ခါရိက** = တိုက်တွန်းမှုမလို၊ အလိုအလျောက်ထက်သန်
**သသင်္ခါရိက** = တိုက်တွန်းမှုလို၊ အလိုအလျောက် မထက်သန်

လောဘမူစိတ် ၈-ပါး မြန်မာပြန်

၁။ ဝမ်းမြောက်ဝမ်းသာဖြင့်+ အယူမှားနှင့် ယှဉ်လျက် + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန် ဖြစ်ပေါ်လာသော လောဘစိတ်။
၂။ ဝမ်းမြောက်ဝမ်းသာဖြင့်+ အယူမှားနှင့် ယှဉ်လျက် + တိုက်တွန်းမှုရှိမှ ထက်သန် ဖြစ်ပေါ်လာသော လောဘစိတ်။
၃။ ဝမ်းမြောက်ဝမ်းသာဖြင့်+ အယူမှားနှင့် မယှဉ်ပါဘဲ + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော လောဘစိတ်။
၄။ ဝမ်းမြောက်ဝမ်းသာဖြင့်+ အယူမှားနှင့် မယှဉ်ပါဘဲ + တိုက်တွန်းမှုရှိမှ ထက်သန် ဖြစ်ပေါ်လာသော လောဘစိတ်။
၅။ ဝမ်းမြောက်ခြင်း နှလုံးမသာ ဝမ်းနည်းခြင်းတို့ မဖြစ် အလယ်အလတ်သဘောဖြင့် + အယူမှားနှင့် ယှဉ်လျက် + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော လောဘစိတ်။
၆။ ဝမ်းမြောက်ခြင်း နှလုံးမသာ ဝမ်းနည်းခြင်းတို့ မဖြစ် အလယ်အလတ်သဘောဖြင့် + အယူမှားနှင့် ယှဉ်လျက် + တိုက်တွန်းမှုရှိမှ ထက်သန် ဖြစ်ပေါ်လာသော လောဘစိတ်။

၇။ ဝမ်းမြောက်ခြင်း နှလုံးမသာ ဝမ်းနည်းခြင်းတို့ မဖြစ် အလယ်အလတ်သဘောဖြင့် + အယူမှားနှင့် မယှဉ်ပါဘဲ + တိုက်တွန်းမှုမလိုမူ၍ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော လောဘစိတ်။

၈။ ဝမ်းမြောက်ခြင်း နှလုံးမသာ ဝမ်းနည်းခြင်းတို့ မဖြစ် အလယ်အလတ်သဘောဖြင့် + အယူမှားနှင့် မယှဉ်ပါဘဲ + တိုက်တွန်းမှုရှိမှ ထက်သန်ဖြစ်ပေါ်လာသော လောဘစိတ်။

လောဘမူစိတ်(၈)ပါးတွင် ပထမဆုံးစိတ်သည် လောဘဖြစ်ရာ၌ အထက်မြက်ဆုံးဖြစ်၍၊ အဋ္ဌမစိတ်သည် အနုံ့ဆုံး အားအနည်းဆုံးဖြစ်သည်။

| လောဘမူ | ဝေဒနာအပြား | | ပယောဂအပြား | | သင်္ခါရအပြား | |
|---|---|---|---|---|---|---|
| ၈ | သောမနဿ | ဥပေက္ခာ | ဒိဋ္ဌိဂတသမ္ပယုတ် | ဒိဋ္ဌိဝိပ္ပယုတ် | အသင်္ခါရိက | သသင်္ခါရိက |
| သရုပ်ခွဲ | ၄ | ၄ | ၄ | ၄ | ၄ | ၄ |

## ဒေါသမူစိတ် (၂)ပါး (ပြစ်မှား ကြမ်းတမ်း ထိခိုက်တတ်သောစိတ်)

၁။ ဒေါမနဿ သဟဂုတ် ပဋိဃသမ္ပယုတ် အသင်္ခါရိကစိတ်။

၂။ ။ - ။ သသင်္ခါရိကစိတ်။

ဒေါမနဿ=စိတ်ဆင်းရဲခြင်း၊ ပဋိဃသမ္ပယုတ်=ပြစ်မှားကြမ်းတမ်းထိခိုက်ခြင်း၊

## မောဟမူစိတ် (၂)ပါး (မသိမိုက်မဲ တွေဝေသောစိတ်)

၁။ ဥပေက္ခာသဟဂုတ် ဝိစိကိစ္ဆာသမ္ပယုတ်စိတ်။
(ရတနာသုံးပါး ကံ ကံ၏အကျိုး စသည်၌ ယုံမှားမှု)

၂။ ဥပေက္ခာသဟဂုတ် ဥဒ္ဓစ္စသမ္ပယုတ်စိတ်။ (စိတ်ပျံ့လွင့်မှု)

လင်္ကာ = လော-ရှစ်+ဒေါ-နှစ်၊ မောလည်း-နှစ်၊ ဆယ့်နှစ်အကုသိုလ်။

| အကု-၁၂ | ဝေဒနာအပြား | | | ပယောဂအပြား | | သင်္ခါရအပြား | | |
|---|---|---|---|---|---|---|---|---|
| | သော | ဥ | ဒေါ | သမ္ပယုတ် | ဝိပ္ပယုတ် | အသင်္ခါ | သသင်္ခါ | သင်္ခါရလွတ် |
| သရုပ်ခွဲ | ၄ | ၆ | ၂ | ၈ | ၄ | ၅ | ၅ | မောဟမူ-၂ |

အကုသိုလ်စိတ် ၁၂-ပါးကို ပါပစိတ်(မကောင်းသောစိတ်)ဟုလည်း ခေါ်သည်။

* လောဘကြောင့်သေ-ပြိတ္တာပြေ၊ ရောက်လေကေန္တ။
* မောဟကြောင့်သေ-တိရစ္ဆာန်ပြေ၊ ရောက်လေကေန္တ။
* ဒေါသကြောင့်သေ-ငရဲပြေ၊ ရောက်လေကေန္တ။

## အဟိတ်စိတ် ၁၈-ပါး (ဟိတ်မရှိသောစိတ်)

ယှဉ်ဘော်ယှဉ်ဘက် သမ္ပယုတ် ဟိတ်မရှိသောကြောင့် အဟိတ်စိတ် မည်၏။

အကုသလဝိပါက်စိတ်-၇ပါး(အကုသိုလ်၏ အကျိုးစိတ်၊ မကောင်းသော အာရုံကို မြင်ခြင်း စသည်)

၁။ ဥပေက္ခာသဟဂုတ် — စက္ခုဝိညာဏ်စိတ်တစ်ပါး(မြင်သိစိတ်)
၂။ ။ — သောတဝိညာဏ်စိတ်တစ်ပါး(ကြားသိစိတ်)
၃။ ။ — ဃာနဝိညာဏ်စိတ်တစ်ပါး(နံသိစိတ်)
၄။ ။ — ဇိဝှါဝိညာဏ်စိတ်တစ်ပါး(စားသိစိတ်)
၅။ ဒုက္ခသဟဂုတ် — ကာယဝိညာဏ်စိတ်တစ်ပါး(ဆင်းရဲစွာထိသိစိတ်)
၆။ ဥပေက္ခာသဟဂုတ် — သမ္ပဋိစ္ဆိုင်းစိတ်တစ်ပါး(အာရုံကို လက်ခံစိတ်)
၇။ ။ — သန္တီရဏစိတ်တစ်ပါး(အာရုံကို စူးစမ်းစိတ်)

လင်္ကာ = *စက်၊ သော၊ ဃာ၊ ဇိ၊ ကာ၊ သမ်၊ တီ*

**အဟိတ်ကုသလဝိပါက်စိတ် ၈–ပါး** (ကုသိုလ်အကျိုး၊ ကောင်းသော အာရုံကို မြင်ခြင်း စသည်)

| | | |
|---|---|---|
| ၁။ | ဥပေက္ခာသဟဂုတ် | စက္ခုဝိညာဏ်စိတ်တစ်ပါး(မြင်သိစိတ်) |
| ၂။ | ။ | သောတဝိညာဏ်စိတ်တစ်ပါး(ကြားသိစိတ်) |
| ၃။ | ။ | ဃာနဝိညာဏ်စိတ်တစ်ပါး(နံသိစိတ်) |
| ၄။ | ။ | ဇိဝှါဝိညာဏ်စိတ်တစ်ပါး(စားသိစိတ်) |
| ၅။ | သုခသဟဂုတ် | ကာယဝိညာဏ်စိတ်တစ်ပါး (ချမ်းသာစွာ ထိသိစိတ်) |
| ၆။ | ဥပေက္ခာသဟဂုတ် | သမ္ပဋိစ္ဆိုင်းစိတ်တစ်ပါး(အာရုံကို လက်ခံစိတ်) |
| ၇။ | သောမနဿသဟဂုတ် | သန္တီရဏစိတ်တစ်ပါး (ဝမ်းမြောက်စွာ စူးစမ်းစိတ်) |
| ၈။ | ဥပေက္ခာသဟဂုတ် | သန္တီရဏစိတ်(အလယ်အလတ်အာရုံကို စူးစမ်းစိတ်) |

***လက်ာ = စက်၊ သော၊ ဃာ၊ ဇီ၊ ကာ၊ သမ်၊ တီ၊ တီ***

**အဟိတ်ကြိယာစိတ် ၃–ပါး (ပြုံးကာမျှစိတ်)**

| | | |
|---|---|---|
| ၁။ | ဥပေက္ခာသဟဂုတ် | ပဉ္စဒွါရာဝဇ္ဇန်းစိတ်တစ်ပါး၊ (ငါးဒွါရ၌ ဖြစ်သောအာရုံကို ဆင်ခြင်ခြင်း) |
| ၂။ | ။ | မနောဒွါရာဝဇ္ဇန်းစိတ်တစ်ပါး၊ (စိတ်ဒွါရ၌ ဖြစ်သောအာရုံကို ဆင်ခြင်ခြင်း) |
| ၃။ | သောမနဿသဟဂုတ် | ဟသိတုပ္ပါဒ်စိတ်တစ်ပါး၊ (ဘုရားရဟန္တာ တို့၏ ပြုံးရယ်စိတ်) |

**အဟိတ်စိတ်ဝေဒနာအခွဲ**

| သောမနဿဝေဒနာ | ဥပေက္ခာဝေဒနာ | သုခဝေဒနာ | ဒုက္ခဝေဒနာ |
|---|---|---|---|
| ၂ | ၁၄ | ၁ | ၁ |

မှတ်ဖွယ်။ ။ စက္ခုဝိညာဏ်ဒွေမှ ကာယဝိညာဏ်ဒွေထိ ၁၀-ပါးကို ဒွေပဉ္စဝိညာဏ် ၁၀-ပါးဟု ခေါ်သည်။

ပဉ္စဒွါရာဝဇ္ဇ န်း+သမ္ပဋိစ္ဆိုင်းဒွေကို= မနောဓာတ် ၃-ခုဟု ခေါ်သည်။

**အသောဘနစိတ်-၃၀။** ။ အကုသိုလ် ၁၂-ပါး+အဟိတ် ၁၈-ပါး = အသောဘနစိတ် ၃၀။

လင်္ကာ ✱ ***အကုဆယ့်နှစ်၊ ဆယ့်ရှစ်အဟိတ်၊ သုံးဆယ်စိတ်၊ ယုတ်နိမ့်အသောဘနတည်း။***
***၎င်းသုံးဆယ်ကို မတင့်တယ် ယုတ်နိမ့်သောကြောင့် အသောဘနစိတ် ၃၀-ဟု ခေါ်သည်။***

## အသောဘန-၃၀၊ ဝေဒနာအခွဲ

| သောမနဿ | ဥပေက္ခာ | သုခ | ဒုက္ခ | ဒေါမနဿ |
|---|---|---|---|---|
| ၆ | ၂၀ | ၁ | ၁ | ၂ |

## ကာမသောဘနစိတ် ၂၄-ပါး

သဒ္ဓါဂုဏ်၊ ဟိရိဂုဏ်စသော ကောင်းမွန်တင့်တယ်သောဂုဏ်ကို ဆောင်တတ်သောကြောင့်လည်းကောင်း၊ အလောဘ အစရှိသော အမြင် ပရှိသောဟိတ်တို့နှင့် ယှဉ်သောကြောင့်လည်းကောင်း သောဘနစိတ် မည်၏။

**မဟာကုသိုလ်စိတ် ၈-ပါး (ကာမာဝစရ ကုသိုလ်စိတ် ၈-ပါး)**

၁။ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်တစ်ပါး။
၂။ ။ ။ သသင်္ခါရိကစိတ်တစ်ပါး။
၃။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်တစ်ပါး။
၄။ ။ ။ သသင်္ခါရိကစိတ်တစ်ပါး။

၅။ ဥပေက္ခာသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်တစ်ပါး။
၆။ ။ ။ သသင်္ခါရိကစိတ်တစ်ပါး။
၇။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်တစ်ပါး။
၈။ ။ ။ သသင်္ခါရိကစိတ်တစ်ပါး။

## မဟာကုသိုလ်စိတ် ၈-ပါး မြန်မာပြန်

၁။ ဝမ်းမြောက်ဝမ်းသာစွာဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်ယှဉ်လျက် + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၂။ ဝမ်းမြောက်ဝမ်းသာစွာဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်ယှဉ်လျက် + တိုက်တွန်းမှုရှိမှ ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၃။ ဝမ်းမြောက်ဝမ်းသာစွာဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်မယှဉ်ဘဲ + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၄။ ဝမ်းမြောက်ဝမ်းသာစွာဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်မယှဉ်ဘဲ + တိုက်တွန်းမှုရှိမှ ထက်သန် ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၅။ ဝမ်းမြောက်နှစ်သက်မှု-ဝမ်းနည်းမှု နှလုံးမသာမှုတို့ မရှိဘဲ အလယ်အလတ် သာမန်သဘောဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်ယှဉ်လျက် + တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန် ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၆။ ဝမ်းမြောက်နှစ်သက်မှု-ဝမ်းနည်းမှု နှလုံးမသာမှုတို့ မရှိဘဲ အလယ်အလတ် သာမန်သဘောဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်ယှဉ်လျက် + တိုက်တွန်းမှုရှိမှ ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၇။ ဝမ်းမြောက်နှစ်သက်မှု ဝမ်းနည်းမှု နှလုံးမသာယာမှုတို့ မရှိဘဲ အလယ်အလတ်သာမန်သဘောဖြင့် + ကြောင်းကျိုးသိမြင် ဉာဏ်နှင့်

မယှဉ်ဘဲ+တိုက်တွန်းမှုမလိုဘဲ အလိုအလျောက် ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

၈။ ဝမ်းမြောက်နှစ်သက်မှု ဝမ်းနည်းမှု နှလုံးမသာယာမှုတို့ မရှိဘဲ အလယ်အလတ်သာမန်သဘောဖြင့်+ကြောင်းကျိုးသိမြင် ဉာဏ်နှင့်မယှဉ်ဘဲ + တိုက်တွန်းမှုရှိမှ ထက်သန်ဖြစ်ပေါ်လာသော ကုသိုလ်စိတ်။

*မှတ်ချက်။* ။(ပထမဆုံးစိတ်သည် ကာမာဝစရကုသိုလ်အရာ၌ အားအကြီးဆုံး ဖြစ်ပြီး၊ အဆုံး အဋ္ဌမစိတ်သည် အားအနည်းဆုံး ဖြစ်သည်။)

ဉာဏသမ္ပယုတ် = ဉာဏ်နှင့်ယှဉ် = ဉာဏ်နှင့်တကွဖြစ်

ဉာဏဝိပ္ပယုတ် = ဉာဏ်နှင့်မယှဉ် = ဉာဏ်နှင့်တကွမဖြစ်

ကုသိုလ် = ကောင်းကျိုးကို ပေးစွမ်းနိုင်သောကြောင့် ကုသိုလ်မည်ပါသည်။

***တနည်း*** = အကုသိုလ်တရားတို့ကို တုန်လှုပ်စေ၊ ကင်းပျောက်စေ၊ ပယ်ရှားစေတတ်သောကြောင့် ကုသိုလ်မည်ပါသည်။

မဟာ = ကြီးကျယ်များမြတ်သော။

အခြားသော ရူပကုသိုလ် စသည်တို့ထက် အရေအတွက်များသောကြောင့် **မဟာကုသိုလ်စိတ်** မည်၏။

ကာမတဏှာ၏ အာရုံပြုသောအားဖြင့် ဖြစ်သော ကုသိုလ်စိတ်များ ဖြစ်၍ **ကာမာဝစရကုသိုလ်စိတ်**ဟု ခေါ်သည်။

ဆန့်ကျင်ဘက်ဖြစ်ကုန်သော ကုသိုလ် + အကုသိုလ်တို့၏ **အကျိုးတရား** ဖြစ်သောကြောင့် ***ဝိပါက်*** မည်၏။

ကြီးကျယ်သောကုသိုလ်၏ အကျိုးတရားဖြစ်သောစိတ်သည် **မဟာဝိပါက်စိတ်** မည်၏။

ကြီးမြတ်သောဘုရား၊ ရဟန္တာတို့၏ သန္တာန်၌သာ ဖြစ်၍၊ ကုသိုလ်**အကျိုး** ပေးခြင်းမရှိဘဲ ပြုကာမျှ အားထုတ်ကာမျှသာ ဖြစ်သောသဘောသည် **မဟာ ကြိယာစိတ်** မည်၏။

အကျိုးပေးခြင်း သဘောမရှိ ပြုကာမျှ၊ အားထုတ်ကာမျှ သဘောသည် **ကြိယာ** မည်၏။

4
B

## မဟာဝိပါက်စိတ် ၈—ပါး=သဟိတ်(ကာမာဝစရဝိပါက်စိတ် ၈—ပါး) ကုသိုလ်၏အကျိုးစိတ်။

၁။ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၂။ ။ ။ သသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၃။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၄။ ။ ။ သသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၅။ ဥပေက္ခာသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၆။ ။ ။ သသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၇။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကဝိပါက်စိတ်တစ်ပါး။
၈။ ။ ။ သသင်္ခါရိကဝိပါက်စိတ်တစ်ပါး။

## မဟာကြိယာစိတ် ၈—ပါး (သဟိတ်ကာမာဝစရ ကြိယာစိတ် ၈—ပါး) ဘုရားရဟန္တာတို့၏ ကုသိုလ်ပြုကာမျှစိတ်

၁။ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကကြိယာစိတ်တစ်ပါး။
၂။ ။ ။ သသင်္ခါရိကကြိယာစိတ်တစ်ပါး။
၃။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကကြိယာစိတ်တစ်ပါး။
၄။ ။ ။ သသင်္ခါရိကကြိယာစိတ်တစ်ပါး။
၅။ ဥပေက္ခာသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကကြိယာစိတ်တစ်ပါး။
၆။ ။ ။ သသင်္ခါရိကကြိယာစိတ်တစ်ပါး။
၇။ ။ ဉာဏဝိပ္ပယုတ် အသင်္ခါရိကကြိယာစိတ်တစ်ပါး။
၈။ ။ ။ သသင်္ခါရိကကြိယာစိတ်တစ်ပါး။

***မှတ်ချက်။*** ။ ဝိပါက်-ကြိယာတို့သည် မဟာကုသိုလ်စိတ်အတိုင်း ရေတွက်ပုံအားလုံး တူ၏။ မဟာကုသိုလ် ၈-ပါး + မဟာဝိပါက်စိတ် ၈-ပါး + မဟာကြိယာ ၈-ပါး = ပေါင်း ကာမသောဘနစိတ် ၂၄-ပါး ဖြစ်ပါသည်။

## ကာမသောဘနစိတ် ၂၄-ပါး သရုပ်ခွဲ

| ဝေဒနာအပြား | | ပယောဂအပြား | | သင်္ခါရအပြား | |
|---|---|---|---|---|---|
| သောမနဿ | ဥပေက္ခာ | ဉာဏသမ် | ဉာဏဝိ | အသင်္ခါရိက | သသင်္ခါရိက |
| ၁၂ | ၁၂ | ၁၂ | ၁၂ | ၁၂ | ၁၂ |

မဟာကုသိုလ်စိတ်သည် တစ်ပါးတည်းဖြစ်သော်လည်း သောမနဿ၊ ဥပေက္ခာ၊ ဉာဏသမ္ပယုတ်၊ ဉာဏဝိပ္ပယုတ်၊ အသင်္ခါရိက-သသင်္ခါရိက အားဖြင့် ကွဲပြားသောကြောင့် ကုသိုလ်စိတ် ၈-မျိုး ပြားရပါသည်။ ထို့အတူ ဝိပါက်-ကြိယာတို့လည်း ၈-မျိုးစီ ပြားသောကြောင့် ကာမသောဘနစိတ် ၂၄-ပါး ဖြစ်ရပါသည်။

## ကာမစိတ် ၅၄-ပါး

(ကာမဘုံ၌ များသောအားဖြင့် ဖြစ်သောကြောင့် ကာမစိတ်ဟူ၍ ခေါ်ပါသည်။ တနည်း-ကာမတဏှာ၏ အာရုံပြုသောအားဖြင့် ဖြစ်ရာ ဖြစ်သောကြောင့် ကာမစိတ်မည်၏။)

***အကု-၁၂ + အဟိတ် -၁၈ + ကာမသောဘန ၂၄ = ကာမစိတ် ၅၄-ပါး။***

## ကာမစိတ် ၅၄-ပါး သရုပ်ခွဲ

| ဝေဒနာအပြား | | | | | ဇာတိအပြား | | | |
|---|---|---|---|---|---|---|---|---|
| သော | ဥ | သုခ | ဒုက္ခ | ဒေါမနဿ | ကုသိုလ် | အကုသိုလ် | ဝိပါက် | ကြိယာ |
| ၁၈ | ၃၂ | ၁ | ၁ | ၂ | ၈ | ၁၂ | ၂၃ | ၁၁ |

## ရူပါဝစရစိတ် ၁၅-ပါး (ဈာနဘေဒစိတ်)

(ရူပဘုံ၌ များသောအားဖြင့် ဖြစ်တတ်သောကြောင့် ရူပါဝစရစိတ် ဟု ခေါ်သည်။ တနည်း-ရူပတဏှာ၏ အာရုံပြုသောအားဖြင့် ဖြစ်ရာ ဖြစ်သောကြောင့် ရူပါဝစရစိတ် မည်၏။)

## ရူပါဝစရကုသိုလ်စိတ် ၅-ပါး

+ ၁။ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၅-ပါးရှိသော ပထမဈာန် ရူပကုသိုလ်စိတ်တစ်ပါး။

+ ၂။ X ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၄-ပါးရှိသော ဒုတိယဈာန် ရူပကုသိုလ်စိတ်တစ်ပါး။

+ ၃။ X ၊ X၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၃-ပါးရှိသော တတိယဈာန် ရူပကုသိုလ်စိတ်တစ်ပါး။

+ ၄။ X ၊ X၊ X၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၂-ပါးရှိသော စတုတ္ထဈာန် ရူပကုသိုလ်စိတ်တစ်ပါး။

- ၅။ X ၊ X၊ X၊ ဥပေက္ခာ၊ ဧကဂ္ဂတာ-ဈာန်အင်္ဂါ ၂-ပါးရှိသော ပဉ္စမဈာန် ရူပကုသိုလ်စိတ်တစ်ပါး။

## ရူပါဝစရဝိပါက်စိတ် ၅-ပါး

+ ၁။ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၅-ပါးရှိသော ပထမဈာန် ရူပါဝစရဝိပါက်စိတ်တစ်ပါး။

+ ၂။ X ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၄-ပါးရှိသော ဒုတိယဈာန် ရူပါဝစရဝိပါက်စိတ်တစ်ပါး။

+ ၃။ X ၊ X၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၃-ပါးရှိသော တတိယဈာန် ရူပါဝစရဝိပါက်စိတ်တစ်ပါး။

+ ၄။ X ၊ X၊ X၊ သုခ၊ ဧကဂ္ဂတာ– စျာန်အင်္ဂါ ၂–ပါးရှိသော
စတုတ္ထစျာန် ရူပါဝစရ
ဝိပါက်စိတ်တစ်ပါး။

– ၅။ X ၊ X၊ X၊ ဥပေက္ခာ၊ ဧကဂ္ဂတာ–စျာန်အင်္ဂါ ၂–ပါးရှိသော
ပဉ္စမစျာန် ရူပါဝစရ
ဝိပါက်စိတ်တစ်ပါး။

## ရူပါဝစရကြိယာစိတ် ၅–ပါး

+ ၁။ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ– စျာန်အင်္ဂါ ၅–ပါးရှိသော
ပထမစျာန် ရူပါဝစရ
ကြိယာစိတ်တစ်ပါး။

+ ၂။ X ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ– စျာန်အင်္ဂါ ၄–ပါးရှိသော
ဒုတိယစျာန် ရူပါဝစရ
ကြိယာစိတ်တစ်ပါး။

+ ၃။ X ၊ X၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ– စျာန်အင်္ဂါ ၃–ပါးရှိသော
တတိယစျာန် ရူပါဝစရ
ကြိယာစိတ်တစ်ပါး။

+ ၄။ X ၊ X၊ X၊ သုခ၊ ဧကဂ္ဂတာ– စျာန်အင်္ဂါ ၂–ပါးရှိသော
စတုတ္ထစျာန် ရူပါဝစရ
ကြိယာစိတ်တစ်ပါး။

– ၅။ X ၊ X၊ X၊ ဥပေက္ခာ၊ ဧကဂ္ဂတာ–စျာန်အင်္ဂါ ၂–ပါးရှိသော
ပဉ္စမစျာန် ရူပါဝစရ
ကြိယာစိတ်တစ်ပါး။

**လင်္ကာ** – (တက်–စာ–ပီ–သု+ဧ နှင့် ဥ)။

**သင်္ကေတ** = အပေါင်းလက္ခဏာအမှတ်သည်–သောမနဿ
အနုတ်လက္ခဏာအမှတ်သည်–ဥပေက္ခာ

## ရူပါဝစရစိတ်—၁၅ ပါး ဈာန်အားဖြင့် သရုပ်ခွဲ

| ပဌမဈာန် | ဒုတိယဈာန် | တတိယဈာန် | စတုတ္ထဈာန် | ပဉ္စမဈာန် | ပေါင်း |
|---|---|---|---|---|---|
| ၃ | ၃ | ၃ | ၃ | ၃ | ၁၅ |
| သောမနဿ ၁၂ | | | | ဥပေက္ခာ၃ | ၁၅ |

- သော ⫶' ဆယ့်နှစ်ဝ၊ ဥ-သုံးမျှ၊ ရူပစိတ် ဆယ့်ငါး။

**ဝေဒနာအားဖြင့်။** ။ ပဉ္စမဈာန်သည် – ဥပေက္ခာဖြစ်၍ ပ-ဒု-တ-စ ဈာန်တို့သည် သောမနဿ ဖြစ်သည်။

- ရူပစိတ်သည် တစ်ပါးတည်း ဖြစ်သော်လည်း ပထမဈာန်၊ ဒု-တ-စ-ပဉ္စမဈာန်အားဖြင့် ဈာန်ငါးမျိုး ပြားသောကြောင့် ရူပကုသိုလ်စိတ် ၅-ပါး ပြားရပါသည်။ ထို့အတူ ဝိပါက်ကြိယာတို့လည်း ၅-မျိုးစီ ပြားလာသောကြောင့် ရူပစိတ် ၁၅-ပါး ဖြစ်ရသည်။ (ရူပါဝစရစိတ်သည် ဈာန်အားဖြင့် ပြားသောကြောင့် ဈာနဘေဒစိတ် မည်၏။)

***ဈာန်အဓိပ္ပာယ်*** = စိုက်စိုက်စူးစူး အထူးမြဲမြံစွာ ရှုတတ်သောကြောင့် လည်းကောင်း၊ ကာမစ္ဆန္ဒစသော နီဝရဏတရားတို့ကို လောင်မြိုက်စေတတ်သောကြောင့်လည်းကောင်း ဈာန်ဟု ခေါ်သည်။

***လင်္ကာ*** – စိုက်စိုက်စူးစူး၊ အထူးမြဲမြံ၊ ရှုအားသန်၊ ဈာန်ဟု ခေါ်သတတ်။

**ဈာန်နှင့် ဈာန်အင်္ဂါအထူး**

- ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ ဈာန်အင်္ဂါအပေါင်းသည် ဈာန်မည်၏။
- ဝိတက်၊ ဝိစာရ-စသော တစ်ခုစီသည် ဈာန်အင်္ဂါမည်၏။

***ဥပမာ။*** လက်၊ ခြေ၊ ဦးခေါင်း အပေါင်းကို ကိုယ်ဟု ခေါ်၍၊ လက်၊ ခြေတစ်ခုစီကို ကိုယ်အင်္ဂါဟု ခေါ်သကဲ့သို့တည်း။

* **ရူပကုသိုလ် *ပဉ္စမဈာန်စိတ်+ရူပကြိယာပဉ္စမဈာန်စိတ်* = အဘိညာဏ်ဒွေ။**

## အရူပါဝစရစိတ် ၁၂-ပါး(ရုပ်မရှိသည့်ဝိညာဏ်ဘုံ)၊
(အာလမ္ဗဏဘေဒစိတ် ၁၂-ပါး)

အရူပဘုံ၌ များသောအားဖြင့် ဖြစ်တတ်သောကြောင့် အရူပါ ဝစရစိတ် မည်၏။ တနည်း-အရူပတဏှာ၏ အာရုံပြုသောအားဖြင့် ဖြစ်ရာဖြစ်သောကြောင့် အရူပါဝစရစိတ် မည်၏။

### အရူပါဝစရကုသိုလ်စိတ် ၄-ပါး

- ၁။ အာကာသာနဉ္စာယတန ကုသိုလ်စိတ် (ကောင်းကင်ပညတ်ကို အာရုံပြုသောစိတ်)။
- ၂။ ဝိညာနဉ္စာယတန ကုသိုလ်စိတ်(အာကာသာနဉ္စာယတနဟူသော ပထမာရုပ္ပဝိညာဏ်ကို အာရုံပြုသောစိတ်)။
- ၃။ အာကိဉ္စညာယတနကုသိုလ်စိတ် (ပထမာရုပ္ပဝိညာဏ်၏ မရှိခြင်း၊ နတ္ထိဘောပညတ်ကို အာရုံပြုသောစိတ်)။
- ၄။ နေဝသညာ နာသညာယတနကုသိုလ်စိတ် (အာကိဉ္စညာယတန ဟူသော တတိယာရုပ္ပဝိညာဏ်ကို အာရုံပြုသောစိတ်)။

### အရူပါဝစရ ဝိပါက်စိတ် ၄-ပါး

- ၁။ အာကာသာနဉ္စာယတန အရူပဝိပါက်စိတ်တစ်ပါး။
- ၂။ ဝိညာနဉ္စာယတန အရူပဝိပါက်စိတ်တစ်ပါး။
- ၃။ အာကိဉ္စညာယတန အရူပဝိပါက်စိတ်တစ်ပါး။
- ၄။ နေဝသညာ နာသညာယတန အရူပဝိပါက်စိတ်တစ်ပါး။

### အရူပါဝစရ ကြိယာစိတ် ၄-ပါး

- ၁။ အာကာသာနဉ္စာယတန အရူပကြိယာစိတ်တစ်ပါး။
- ၂။ ဝိညာနဉ္စာယတန အရူပကြိယာစိတ်တစ်ပါး။
- ၃။ အာကိဉ္စညာယတန အရူပကြိယာစိတ်တစ်ပါး။
- ၄။ နေဝသညာ နာသညာယတန အရူပကြိယာစိတ်တစ်ပါး။

**မှတ်ချက်။** ။အရူပါဝစရစိတ် ၁၂-ပါးလုံးသည် ဥပေက္ခာ၊ ဧကဂ္ဂတာ စျာန်အင်္ဂါ ၂-ပါးနှင့်ယှဉ်၍ ရူပါဝစရ ပဉ္စမစျာန်နှင့် စျာန်အင်္ဂါခြင်းတူသောကြောင့် **စျာန်အားဖြင့် ပဉ္စမစျာန်၊ ဝေဒနာအားဖြင့် ဥပေက္ခာဝေဒနာ**အဖြစ် ရေတွက်ရသည်။

**အရူပါဝစရစိတ် ၁၂-ပါး ပြားရခြင်း။** (ပဉ္စမစျာန်)အရူပစိတ်သည် တစ်ပါးဖြစ်သော်လည်း-

၁။ ကောင်းကင်ပညတ်အာရုံ၊ ၂။ပထမာရုပ္ပဝိညာဏ်အာရုံ၊ ၃။ နတ္ထိဘောပညတ်အာရုံ ၄။ တတိယာရုပ္ပဝိညာဏ်အာရုံဟူသော **အာရုံလေးမျိုး** ပြားသောကြောင့် အရူပကုသိုလ် ၄-မျိုး ပြားရပါသည်။ (အာရုံအားဖြင့်ပြားသောကြောင့် အရူပါဝစရစိတ်သည် အာလမ္ဗဏ**ဘေဒစိတ်** မည်၏။)

**မဟဂ္ဂုတ်စိတ် ၂၇-ပါး** =ရူပါဝစရ ၁၅-ပါး+အရူပါဝစရ ၁၂-ပါး။

(မြတ်သည်၏အဖြစ်သို့ ရောက်သောစိတ်များဖြစ်၍ **မဟဂ္ဂုတ်စိတ်** ဟု ခေါ်ပါသည်။)

***လင်္ကာ***-ကောင်းကင်ခေါ်မှတ်၊ ပညတ်တစ်ဖြာ၊ပဌမာရုပ္ပ-ဝိညာဏနှင့်၊ ဘာဝနတ္ထိ၊ တတိယာရုပ္ပံ=ဝိညာဏ်၊ လေးတန်အာရုံ စဉ်တိုင်းတည်း။

## မဟဂ္ဂုတ်စိတ် ၂၇-ပါး သရုပ်ခွဲ

| | | | | | | |
|---|---|---|---|---|---|---|
| စျာန်အပြား | ပ-စျာန် ၃ | ဒု-စျာန် ၃ | တ-စျာန် ၃ | စ-စျာန် ၃ | ပဉ္စမ-စျာန် ၁၅ | ၂၇ |
| ဝေဒနာအပြား | သောမနဿ-၁၂ | | | | ဥပေက္ခာ-၁၅ | ၂၇ |
| ဇာတိအပြား | မဟဂ္ဂုတ် ကုသိုလ်-၉ | မဟဂ္ဂုတ် ဝိပါက်-၉ | | မဟဂ္ဂုတ် ကြိယာ-၉ | | ၂၇ |

5
A

**လောကီစိတ် ၈၁-ပါး** (လောက၌ ထင်ရှား၍ ဖြစ်တတ်၊ ပျက်တတ် သောစိတ်များ)

ကာမစိတ် ၅၄-ပါး+မဟဂ္ဂုတ်စိတ် ၂၇-ပါး=လောကီစိတ် ၈၁-ပါး။

## လောကီစိတ် ၈၁ သရုပ်ခွဲ

| ဘူမိဘေဒ-ဘုံအပြား | ကာမစိတ်-၅၄ | ရူပစိတ်-၁၅ | အရူပစိတ်-၁၂ | | | ၈၁ |
|---|---|---|---|---|---|---|
| ဇာတိဘေဒ- ဇာတ်အပြား | အကုသိုလ်- ၁၂ | ကုသိုလ်- ၁၇ | ဝိပါက်- ၃၂ | | ကြိယာ -၂၀ | ၈၁ |
| ဝေဒနာဘေဒ ဝေဒနာအပြား | သောမနဿ -၃၀ | ဥပေက္ခာ -၄၇ | သုခ -၁ | ဒုက္ခ -၁ | ဒေါ -၂ | ၈၁ |

**လောကုတ္တရာစိတ် ၈-ပါး** (လောကမှ လွန်မြောက်သောစိတ်များ)

မဂ်စိတ် ၄-ပါး+ဖိုလ်စိတ် ၄-ပါး=လောကုတ္တရာ စိတ် ၈-ပါး

**(ကုသိုလ်) မဂ်စိတ် ၄-ပါး** (ကိလေသာတို့ကိုသတ်၍ နိဗ္ဗာန်သို့ သွားတတ်သောစိတ်များ)

၁။ **သောတာပတ္တိမဂ်စိတ်** (လောကုတ္တရာအရိယာနယ်-ရေအယဉ်သို့ ဦးစွာရောက်သူ) (ဒိဋ္ဌိ + ဝိစိကိစ္ဆာကို ပယ်သတ်) (အပါယ်ရောက် စေနိုင်သော အကုသိုလ်ဟူသမျှ ပယ်)

၂။ **သကဒါဂါမိမဂ်စိတ်** (ကာမဘုံသို့ တစ်ကြိမ်သာ ပြန်လာသောသူ) (အကြမ်းစားလောဘ + ဒေါသ + မောဟ-တို့ကို ပယ်သတ်)

၃။ **အနာဂါမိမဂ်စိတ်** (ကာမဘုံသို့ ပြန်မလာသောသူ)။ (အနုစား ဒေါသပါ အကုန်ပယ်)

၄။ **အရဟတ္တမဂ်စိတ်** (ကိလေသာအားလုံးသတ်၍ ဘဝဇာတ်ငြိမ်းသူ) (ကြွင်းကိလေသာ အကုန်ပယ်)

(ဒ) ဝိပါက် ဖိုလ်စိတ် ၄-ပါး (မဂ်၏အကျိုးစိတ်)
၁။ သောတာပတ္တိဖိုလ်စိတ် တစ်ပါး။
၂။ သကဒါဂါမိဖိုလ်စိတ် တစ်ပါး။
၃။ အနာဂါမိဖိုလ်စိတ် တစ်ပါး။
၄။ အရဟတ္တဖိုလ်စိတ် တစ်ပါး။

## စိတ်အကျဉ်း ၈၉-ပါး ဖြစ်ရခြင်း

(စိတ်သည် အာရုံကို သိခြင်းလက္ခဏာအားဖြင့် တစ်မျိုးတည်း ဖြစ်သော်လည်း ဘူမိဘေဒ၊ ဇာတိဘေဒ အပြားအားဖြင့် ပြားသောကြောင့် စိတ်အကျဉ်း ၈၉-ပါး ပြားရပါသည်။

***စိတ်အကျဉ်း ၈၉-ပါး***= ကာမစိတ်-၅၄+မဟဂ္ဂုတ်-၂၇+လောကုတ္တရာ-၈။

စိတ်အကျဉ်း ၈၉ သရုပ်ခွဲ

| | | | | |
|---|---|---|---|---|
| ဇာတိဘေဒ | အကု-၁၂ | ကုသိုလ်-၂၁ | ဝိပါက်-၃၆ | ကြိယာ-၂၀ |
| ဘူမိဘေဒ | ကာမစိတ်-၅၄ | ရူပစိတ်-၁၅ | အရူပစိတ်-၁၂ | လောကုတ္တရာစိတ်-၈ |

* အသောဘန၊သောဘနအားဖြင့် = အသောဘနစိတ်-၃၀+သောဘနစိတ်-၅၉ = ပေါင်းစိတ်-၈၉။

* လောကီ-လောကုတ္တရာအားဖြင့် = လောကီစိတ်-၈၁+လောကုတ္တရာစိတ်-၈ = ပေါင်းစိတ်-၈၉။

## စိတ်အကျယ် ၁၂၁-ပါး ပွားလာခြင်း

ဈာန်အဘိညာဏ်ရပြီးသောပုဂ္ဂိုလ်များသည် ထိုရပြီးသောဈာန်အဘိညာဏ်တရားတို့ကို အခြေခံ၍ လောကုတ္တရာမဂ်ဖိုလ်စိတ်များ ဖြစ်အောင် ဝိပဿနာ အားထုတ်သောအခါ၊ ရပြီးဈာန်နှင့်တကွ မဂ်စိတ်၊ ဖိုလ်စိတ်များ ဖြစ်ပေါ်လာ၏။ ဈာန်သည် ၅-မျိုးရှိ၍ လောကုတ္တရာစိတ်

တစ်ပါး၊ တစ်ပါးလျှင် ဈာန် ၅-မျိုးစီ ပွားသွားသောကြောင့် (၅ x ၈ = ၄၀) လောကုတ္တရာစိတ်အကျယ်-၄၀ ဖြစ်လာရသည်။

သောတာပတ္တိမဂ်စိတ်၌ ဈာန် ၅-မျိုး ပွားပုံ

+ ၁။ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၅-ပါးရှိသော ပဌမဈာန် သောတာပတ္တိမဂ်စိတ်တစ်ပါး။

+ ၂။ x ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၄-ပါးရှိသော ဒုတိယဈာန် သောတာပတ္တိမဂ်စိတ်တစ်ပါး။

+ ၃။ x ၊ x၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၃-ပါးရှိသော တတိယဈာန် သောတာပတ္တိမဂ်စိတ်တစ်ပါး။

+ ၄။ x ၊ x၊ x၊ သုခ၊ ဧကဂ္ဂတာ- ဈာန်အင်္ဂါ ၂-ပါးရှိသော စတုတ္ထဈာန် သောတာပတ္တိမဂ်စိတ်တစ်ပါး။

- ၅။ x ၊ x၊ x၊ ဥပေက္ခာ၊ ဧကဂ္ဂတာ-ဈာန်အင်္ဂါ ၂-ပါးရှိသော ပဉ္စမဈာန် သောတာပတ္တိမဂ်စိတ်တစ်ပါး။

(ကြွင်း ၇-မျိုးနည်းတူ ရေတွက်လေ။)

- ရှစ်လောကုတ်စု၊ တစ်ခုခုဝယ်၊ ဈာန်ငါးခြယ်၊ အကျယ်လေးဆယ်ပွား။
- မဂ်စိတ်နှစ်ဆယ်၊ ဖိုလ်နှစ်ဆယ်၊ အကျယ်လောကုတ်ပွား။

# စိတ်အကျယ် ၁၂၁ ပါး သရုပ်ခွဲ

| ဘူမိဘေဒ | ဇာတိဘေဒ | ဝေဒနာ-၅ | ဝေဒနာ-၃ | ဈာနဘေဒ |
|---|---|---|---|---|
| ကာမာဝစရ စိတ်-၅၄ | အကု-၁၂ | သုခ-၁ | သုခ-၆၃ | ပဌမဈာန် ၁၁-ပါး |
| ရူပါဝစရစိတ် -၁၅ | ကုသိုလ် -၃၇ | သော-၆၂ | | ဒု ၁၁-ပါး |
| အရူပါဝစရ စိတ်-၁၂ | ဝိပါက်-၅၂ | ဒုက္ခ-၁ | ဒုက္ခ-၃ | တ ၁၁-ပါး |
| လောကုတ္တရာ -၄၀ | ကြိယာ -၂၀ | ဒေါမနဿ -၂ | | စ ၁၁-ပါး |
| | | ဥပေက္ခာ -၅၅ | ဥပေက္ခာ -၅၅ | ပဉ္စမ-၂၃ |
| | | | | ဈာန်မဟုတ်-၅၄ |

ဓာတ်မရိုက်ခင်၊ ကောင်းစွာပြင်မှ၊ ပုံတွင်ကျန၊ ရုပ်သွင်လှသို့၊ မှုချမှန်စွာ၊ သံသရာ၏၊ ကမ္ဘာရုပ်ခွင်၊ ဓာတ်အပြင်၌၊ စိတ်စဉ်ကျန၊ ရုပ်သွင်လှ၍၊ ခေမမြို့နန်း၊ အရောက်လှမ်းဖို့၊ ပြင်စမ်းစေချင်၊ စိတ်အစဉ်ကို၊ ပြင်ဆင်လေကွဲ့-နေ့စဉ်တဲ့။

**(အရှင်ဇနကာဘိဝံသ)**

**စိတ်ပိုင်းပြီး၏။**

# (၂) စေတသိက်ပိုင်း

## ၁။ စေတသိက်လက္ခဏာ ၄–ပါး

| | | | |
|---|---|---|---|
| ၁။ | ဧကုပ္ပါဒ | = | စိတ်နှင့်အတူဖြစ်ခြင်း။ |
| ၂။ | ဧကနိရောဓ | = | စိတ်နှင့်အတူချုပ်ခြင်း။ |
| ၃။ | ဧကာရမ္မဏ | = | စိတ်နှင့်အာရုံတူခြင်း။ |
| ၄။ | ဧကဝတ္ထုက | = | စိတ်နှင့်တူသော မှီရာ ဝတ္ထုရှိခြင်း။ |

ဎင်းအင်္ဂါ ၄–ပါးနှင့် ညီညွတ်၍ စိတ်နှင့်ယှဉ်သော ၅၂–ပါးသော တရားအစုသည် စေတသိက် မည်၏။

* ဖြစ် + ပျက်–မှီ+အာ၊ တူလေးဖြာ၊ အင်္ဂါယှဉ်နိမိတ်။

* စိတ်၌ မှီတွယ်၊ စိတ်ကိုခြယ်၊ ငါးဆယ်နှင့်ဒွိတ်၊ စေတသိက်။

* စိတ်၏ တံထွာ၊ ဓမ္မတာကား၊ ကြံ့ရာအာရုံ၊ ရမိယုံမျှ၊ ဖုံဖုံကောင်းဆိုး၊ မကွဲရိုးတည်း၊ တစ်မျိုးတွဲဖက်၊ စေတသိက်တွက်ကြောင့်၊ သက်သက်ဆိုးကောင်း အရောင်ပြောင်း၍၊ မကောင်းလည်းစိတ်၊ ကောင်းလည်းစိတ်ဟု၊ ခွဲကြိတ်စမြဲ၊ ဥဒါန်း ကဲသည်– စိတ်လဲစေတသိက်ကြောင့်သာကိုး။

(အရှင်ဇနကာဘိဝံသ)

## ၂။ စေတသိက် ၅၂–ပါး

| | | |
|---|---|---|
| (က) | အညသမာန်းစေတသိက် | ၁၃–ပါး |
| (ခ) | အကုသိုလ်စေတသိက် | ၁၄–ပါး |
| (ဂ) | သောဘဏစေတသိက် | ၂၅–ပါး |
| | ပေါင်း | ၅၂–ပါး |

(က) **အညသမာန်းစေတသိက် ၁၃-ပါး**
(ကုသိုလ်+အကုသိုလ် နှစ်မျိုးစလုံးနှင့်ဆိုင်)
(၁) သဗ္ဗစိတ္တသာဓာရဏစေတသိက် ၇-ပါး
(၂) ပကိဏ်းစေတသိက် ၆-ပါး

ပေါင်း = ၁၃-ပါး

* ကောင်းဆိုးနှစ်တန်၊ ခပ်တိုင်းငံ၊ သမာန်အညာ၊ တေရသ။

## (၁) သဗ္ဗစိတ္တသာဓာရဏစေတသိက် ၇-ပါး

(ဤ စေတသိက် ၇-ပါးကို စိတ်အားလုံးနှင့် ယှဉ်သောကြောင့် သဗ္ဗစိတ္တသာဓာရဏ စေတသိက်ဟု ခေါ်သည်။)

၁။ **ဖဿ** = အာရုံကို တွေ့ထိခြင်းလက္ခဏာရှိသောသဘော။
၂။ **ဝေဒနာ** = အာရုံ၏အရသာကို ခံစားခြင်းလက္ခဏာရှိသောသဘော။
၃။ **သညာ** = အာရုံ၏သဘောကို မှတ်ခြင်းလက္ခဏာရှိသောသဘော။
၄။ **စေတနာ** = အာရုံ၌ သမ္ပယုတ်တရားတို့ကို စေ့ဆော်ခြင်းလက္ခဏာ ရှိသောသဘော။
၅။ **ဧကဂ္ဂတာ** = တစ်ခုတည်းသော အာရုံကိုသာ ယူသည်ဖြစ်၍ တည်ကြည်ခြင်း၊ မပျံ့လွင့်ခြင်းလက္ခဏာ ရှိသောသဘော။
၆။ **ဇီဝိတိန္ဒြေ** = တကွဖြစ်သော နာမ်တရားတို့ကို စောင့်ခြင်း၊ အစိုးရခြင်းလက္ခဏာ ရှိသောသဘော။
၇။ **မနသိကာရ** = အာရုံ၌ နှလုံးသွင်းခြင်းလက္ခဏာ ရှိသောသဘော။

* ဖသ် + ဝေ + သဉ် + စေ၊ ဧ + ဇီ + မန၊ ဤသတ္တ-သဗ္ဗစိတ်တိုင်းဖြစ်။

---

သဗ္ဗ + စိတ္တ + သာဓာရဏစေတသိက် ၇-ပါး
အလုံးစုံသော + စိတ်တို့နှင့် + ဆက်ဆံသော စေတသိက် ၇-ပါး၊

## (၂) ပကိဏ်း စေတသိက် ၆–ပါး

(အချို့သောစိတ်တို့နှင့်သာ ယှဉ်၍ အချို့သောစိတ်တို့နှင့် မယှဉ်ပဲ ပြိုးပြွမ်း၍ ယှဉ်သောကြောင့် ပကိဏ်းစေတသိက်ဟု ခေါ်သည်။

၁။ **ဝိတက်** = သမ္ပယုတ်တရားတို့ကို အာရုံသို့ ရှေ့ရှုတင်ခြင်း လက္ခဏာရှိသောသဘော။

၂။ **ဝိစာရ** = အာရုံ၌ သမ္ပယုတ်တရားတို့ကို သုံးသပ်စေခြင်း လက္ခဏာရှိသောသဘော။

၃။ **အဓိမောက္ခ** = အာရုံကို ဆုံးဖြတ်ခြင်းလက္ခဏာရှိသော သဘော။

၄။ **ဝီရိယ** = သမ္ပယုတ်တရားတို့ကို ထောက်ပံ့နိုင်စေခြင်း လက္ခဏာ ရှိသောသဘော။

၅။ **ပီတိ** = အာရုံကို နှစ်သက်ခြင်းလက္ခဏာရှိသောသဘော။

၆။ **ဆန္ဒ** = ပြုလုပ်လိုကာမျှသာ လက္ခဏာရှိသောသဘော။

* တက် + စာ + ပီ + ဝိ၊ ဆန် + အဓိ၊ ပြွမ်းဘိပကိဏ်းခြောက်။

## အညသမာန်းစေတသိက် ၁၃–ပါး ပြီး၏။

********

## (ခ) အကုသိုလ်စေတသိက် ၁၄–ပါး

(အကုသိုလ်စိတ်တို့နှင့်သာ ယှဉ်သောကြောင့် အကုသိုလ်စေတသိက် ဟု ခေါ်သည်။)

၁။ **မောဟ** = အာရုံ၏သဘောအမှန်ကို ဖုံးလွှမ်းခြင်း မသိခြင်း လက္ခဏာ ရှိသောသဘော။

၂။ **အဟိရိက** = ကာယဒုစရိုက် စသည်မှ မရှက်ခြင်းလက္ခဏာရှိသော သဘော။

၃။ **အနောတ္တပ္ပ**= ကာယဒုစရိုက် စသည်မှ မကြောက်လန့်ခြင်း လက္ခဏာရှိသောသဘော။

၄။ **ဥဒ္ဓစ္စ** = စိတ်၏ မငြိမ်သက်ခြင်း၊ ပျံ့လွင့်ခြင်းသဘော။
၅။ **လောဘ** = အာရုံ၌ကပ်ငြိသောအားဖြင့် တပ်နှစ်သက်ခြင်း လက္ခဏာ ရှိသောသဘော
၆။ **ဒိဋ္ဌိ** = မှားသောအားဖြင့် နှလုံးသွင်းခြင်းလက္ခဏာရှိသော သဘော။
၇။ **မာန** = မိမိကိုယ်ကို ငါသာလျှင် မြတ်၏ဟူ၍ မှန်ကင်းကဲ့သို့ ထောင်လွှားခြင်းလက္ခဏာရှိသောသဘော။
၈။ **ဒေါသ** = ကြမ်းတမ်းသောအားဖြင့် ပြစ်မှားခြင်းလက္ခဏာ ရှိသောသဘော။
၉။ **ဣဿာ** = သူတစ်ပါးတို့၏ စည်းစိမ်ချမ်းသာကို ငြူစူခြင်း လက္ခဏာရှိသောသဘော။
၁၀။ **မစ္ဆရိယ** = မိမိ၏ စည်းစိမ်ချမ်းသာကို လျှို့ဝှက်ခြင်းလက္ခဏာ ရှိသောသဘော။
၁၁။ **ကုက္ကုစ္စ** = ပြုအပ်ပြီးသော ဒုစရိုက်၊ မပြုလိုက်မိသော သုစရိုက် တို့ကို အာရုံပြု၍ အဖန်တလဲလဲစိုးရိမ်ခြင်း လက္ခဏာ ရှိသောသဘော။
၁၂။ **ထိန** = စိတ်၏ မခံ့ခြင်း၊ ထိုင်းခြင်း လက္ခဏာရှိသောသဘော။
၁၃။ **မိဒ္ဓ** = စေတသိက်တို့၏ မခံ့ခြင်း၊ မှိုင်းခြင်းလက္ခဏာရှိသော သဘော။
၁၄။ **ဝိစိကိစ္ဆာ** = အာရုံကို မဆုံးဖြတ်နိုင်ခြင်းလက္ခဏာရှိသောသဘော။

* ယုတ်မာညစ်ကြေး၊ မိုက်မဲမေ့း၊ ဆယ့်လေး အကုသိုလ်။

**အကုသိုလ်စေတသိက် ၁၄-ပါး အချုပ်လင်္ကာ**

* မသိတတ်ဘိ=မောဟသိလော၊အဟိရိက=မရှက်စွတည့်၊ နောတ္တပ္ပမူ=မလန့်ဟူ၏။
မှတ်ယူပြန့်လျက်၊ မငြိမ်သက်ထ=ဥဒ္ဓစ္စနှင့်၊ လောဘသဘော=လိုချင်ဟော၍။

မှားသောအမြင်=ဒိဋ္ဌိတွင်သား၊ မာနကားမူ=ထောင်လွှားကြွတတ်၊ ဒေါသထွက်ကြောင့်=ခက်ခက်ထန်ထန်၊ ဣဿာလျှံမူ=လွန်မြူစူ၏၊ ပြောထူမစ္ဆေ=ဝန်တိုလေသတဲ့၊ တစ်ထွေမှတ်ကြ၊ ကုက္ကုစ္စကား=နောင်တတစ်ဖန်၊ ပူပန်ထန်ပြင်း၊ ထိုင်းခြင်း=ထိန၊ မှိုင်း=မိဒ္ဓနှင့်၊ ဘုရားစသည့်၊ ယုံမှားဘိမူ= ဝိစိကိစ္ဆာ၊ ဆဲ့လေးဖြာသည်၊ မှန်စွာအကုသိုလ်ချည်းသာတည်း။ ။

***အရှင်နေကာဘိဝံသ***

## အကုသိုလ်စေတသိက် ၁၄-ပါး ပြီး၏။

*******

## (ဂ) သောဘဏစေတသိက် ၂၅-ပါး

| | | | |
|---|---|---|---|
| (၁) | သောဘဏသာဓာရဏ | စေတသိက် | ၁၉-ပါး |
| (၂) | ဝိရတီ | စေတသိက် | ၃-ပါး |
| (၃) | အပ္ပမညာ | စေတသိက် | ၂-ပါး |
| (၄) | ပညိန္ဒြေ | စေတသိက် | ၁-ပါး |
| | | ပေါင်း | ၂၅-ပါး |

## (၁) သောဘဏသာဓာရဏစေတသိက် ၁၉-ပါး

၁။ **သဒ္ဓါ** = ဘုရား အစရှိသော ကောင်းသော အာရုံ၌ သမ္ပယုတ်တရားတို့ကို ကြည်စေခြင်း လက္ခဏာ ရှိသော သဘော။

၂။ **သတိ** = ဘုရား အစရှိသော ကောင်းသောအာရုံ၌ သမ္ပယုတ် တရားတို့ကို အောက်မေ့စေခြင်း လက္ခဏာရှိသောသဘော။

၃။ **ဟိရီ** = ကာယဒုစရိုက် စသည်မှ ရှက်ခြင်း လက္ခဏာ ရှိသောသဘော။

၄။ **ဩတ္တပ္ပ** = ကာယဒုစရိုက် စသည်မှ လန့်ခြင်းလက္ခဏာ ရှိသောသဘော။

၅။ **အလောဘ** = အာရုံ၌ ကပ်ငြိသောအားဖြင့် မတပ်ခြင်း လက္ခဏာ ရှိသောသဘော။

၆။ **အဒေါသ** = မကြမ်းတမ်း မပြစ်မှားခြင်း လက္ခဏာရှိသော သဘော။

၇။ **တတြမဇ္ဈတ္တတာ**= ထိုထိုသို့သော အာရုံ၌ သမ္ပယုတ်တရားတို့ကို လျစ်လျူရှုစေခြင်း လက္ခဏာရှိသောသဘော။

၈။ **ကာယပဿဒ္ဓိ** = (ကုသိုလ်မှုတို့၌)စေတသိက်တို့၏ ငြိမ်းခြင်း လက္ခဏာရှိသော သဘော။

၉။ **စိတ္တပဿဒ္ဓိ** = (ကုသိုလ်မှုတို့၌) စိတ်၏ ငြိမ်းခြင်းလက္ခဏာ ရှိသော သဘော။

၁၀။ **ကာယလဟုတာ**= (ကုသိုလ်မှုတို့၌)စေတသိက်တို့၏ ပေါ့ပါးခြင်း လက္ခဏာရှိသောသဘော။

၁၁။ **စိတ္တလဟုတာ** = (ကုသိုလ်မှုတို့၌) စိတ်၏ ပေါ့ပါးခြင်း လက္ခဏာ ရှိသောသဘော။

၁၂။ **ကာယမုဒုတာ** = (ကုသိုလ်မှုတို့၌)စေတသိက်တို့၏ နူးညံ့ခြင်း လက္ခဏာရှိသော သဘော။

၁၃။ **စိတ္တမုဒုတာ** = (ကုသိုလ်မှုတို့၌) စိတ်၏ နူးညံ့ခြင်းလက္ခဏာ ရှိသောသဘော။

၁၄။ **ကာယကမ္မညတာ**= (ကုသိုလ်မှုတို့၌)စေတသိက်တို့၏ ကောင်းသော အဖြစ်၊ ခံ့ကျန်းသောအဖြစ်လျှင် လက္ခဏာ ရှိသောသဘော။

၁၅။ **စိတ္တကမ္မညတာ** = (ကုသိုလ်မှုတို့၌) စိတ်၏ ကောင်းသောအဖြစ်၊ ခံ့ကျန်းသော အဖြစ်လျှင် လက္ခဏာ ရှိသော သဘော။

၁၆။ **ကာယပါဂုညတာ**= (ကုသိုလ်မှုတို့၌) စေတသိက်တို့၏ လေ့လာခြင်း၊ ကျေပွန်ခြင်း၊ ကျင်လည်နပ်နေခြင်း လက္ခဏာရှိသော သဘော။

၁၇။ **စိတ္တပါဂုညတာ** = (ကုသိုလ်မှုတို့၌) စိတ်၏လေ့လာခြင်း၊ ကျေပွန်ခြင်း၊ ကျင်လည်နပ်နေခြင်း လက္ခဏာရှိသော သဘော။

၁၈။ **ကာယုဇုကတာ** = (ကုသိုလ်မှုတို့၌) စေတသိက်တို့၏ ဖြောင့်စွာဖြစ်ခြင်း လက္ခဏာရှိသောသဘော။

၁၉။ **စိတ္တုဇုကတာ** = (ကုသိုလ်မှုတို့၌) စိတ်၏ ဖြောင့်စွာဖြစ်ခြင်း လက္ခဏာရှိသောသဘော။

(၎င်းစေတသိက်များသည် သောဘဏစိတ်အားလုံးတို့နှင့်သာ ယှဉ်သောကြောင့် သောဘဏသာဓာရဏ စေတသိက်ဟု ခေါ်သည်။)

- သဒ္ဓါ+သတိ၊ ဟိရိ+ဩတ္တပ်၊ ဟိတ်နှစ်ရပ်၊ တတြမဇ္ဈတ္တတာ၊
- ငြိမ်း+ပေါ့+နူးညံ့၊ ကျန်းခံ့+လေ့လာ၊ ဖြောင့်စင်းစွာ၊ ခြောက်ဖြာကိစ္စဟော၊
- ပဿဒ္ဓိ+လဟု၊ မုဒု+ကမ္မည်၊ ပါဂုညည်နှင့်၊ ထို့ပြင်ဥဇုက၊ ခြောက်ဝမ္မ၊ ကာယ+စိတ်နှင့်နှော။

## (၂) ဝိရတီစေတသိက် ၃-ပါး

(ကာယဒုစရိုက်သုံးပါး၊ ဝစီဒုစရိုက်လေးပါးတို့မှ ရှောင်ကြဉ်ခြင်း လက္ခဏာရှိသောကြောင့် ဝိရတီစေတသိက်ဟု ခေါ်သည်။)

၁။ **သမ္မာဝါစာ** = (အသက်မွေးဝမ်းကြောင်း မဟုတ်သော = အပျော်တမ်း) မုသာဝါဒ၊ ပိသုဏဝါစာ၊ ဖရုသဝါစာ၊ သမ္ဖပ္ပလာပဝါစာတည်းဟူသော ဝစီဒုစရိုက် လေးပါးမှ ရှောင်ကြဉ်ခြင်းလက္ခဏာရှိသော သဘော။

၂။ **သမ္မာကမ္မန္တ** = (အသက်မွေးဝမ်းကြောင်း မဟုတ်သော = အပျော်တမ်း) ပါဏာတိပါတ၊ အဒိန္နာဒါန၊

ကာမေသုမိစ္ဆာစာရ တည်းဟူသော ကာယဒုစရိုက်သုံးပါးမှ ရှောင်ကြဉ်ခြင်းလက္ခဏာရှိသော သဘော။

၃။ **သမ္မာအာဇီဝ** = အသက်မွေးဝမ်းကြောင်းဖြစ်သော ဝစီဒုစရိုက်လေးပါးနှင့် ကာယဒုစရိုက်သုံးပါးတို့မှ ရှောင်ကြဉ်ခြင်း လက္ခဏာရှိသောသဘော။

## (၃) အပ္ပမညာစေတသိက် ၂-ပါး

၁။ **ကရုဏာ** = အတိုင်းမသိသော ဒုက္ခိတသတ္တဝါပညတ်ကို အာရုံပြု၍ သနားခြင်းလက္ခဏာရှိသောသဘော။

၂။ **မုဒိတာ** = အတိုင်းမသိသော သုခိတသတ္တဝါပညတ်ကို အာရုံပြု၍ ဝမ်းမြောက်ခြင်းလက္ခဏာရှိသော သဘော။

(အဆုံးအပိုင်းအခြား မရှိသော သတ္တဝါတို့ကို အာရုံပြု၍ ဖြစ်သော ကြောင့် အပ္ပမညာစေတသိက်ဟု ခေါ်သည်။)

## (၄) ပညိန္ဒြေစေတသိက် ၁-ပါး

၁။ **ပညိန္ဒြေ** = အထူးထူး အပြားပြားသိခြင်း၌ အစိုးရခြင်း လက္ခဏာရှိသောသဘော။

* - အသိ + အလိမ္မာ၊ ဉာဏ် + ပညာ၊ ဝိဇ္ဇာ - အမောဟ။

**(သောဘဏစေတသိက် ၂၅-ပါး ပြီး၏)**

**(စေတသိက် ၅၂-ပါး ပြီး၏။)**

*******

**သောဘဏစေတသိက်အချုပ် အဝိပ္ပာယ်လင်္ကာ**

ကောင်းသည့်အာရုံ၊ အဖုံဖုံဝယ်၊ ယုံကြည်တတ်လေ့=သဒ္ဓါငွေ့တည်း၊
အောက်မေ့=သတိ၊ ဒုစရိုက်၊ ဟိရီ=ရှက်စွ၊ လန့်=သြတ္တနှင့်၊ အလောဘလျှင်၊
မလိုချင်တည်း၊ ထို့ပြင်တဝ၊ အဒေါသတွက်=မခက်မထန်၊ ပညာဉာဏ်မှု=
အမောဟဟူ၏။

မှတ်ယူချစ်ဖြား = မေတ္တာပွားရှ၊ သနား = ကရုဏာ၊ ဝမ်းသာ
= မုဒိ၊ ရှုသည်လျစ်လျူ = ပေက္ခာပြုလော့၊ သုံးခုသမ္မာ၊ ဝါစာ + ကမ္မ၊
အာဇီဝကား၊ ကာယဝစီ၊ မသတိပေါင်း ရှောင်ကြဉ်ကြောင်းသည်၊
စိတ်ကောင်းဖြစ်ရန် စေတသိက်တည်း။

***အရှင်ဇနကာဘိဝံသ***

## သမ္ပယောဂနည်း (၁၆) ပါး

(စေတသိက်အသီးသီးတို့၌ ရနိုင်သောစိတ်အရေအတွက်ကို ဖော်ပြ
ထားသောနည်းသည် သမ္ပယောဂနည်း မည်ပါသည်။)

| | စေတသိက်အမည် | | | ရနိုင်သောစိတ်အရေအတွက် |
|---|---|---|---|---|
| အညသမာန်း ၇-နည်း | ၁။ | သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇-ပါး | ၁-နည်း | စိတ်အားလုံးကျဉ်း ၈၉ ကျယ် ၁၂၁ |
| | ၂။ | ဝိတက် | ။ | ၅၅(ကာမစိတ်-၄၄+ပဌာန်-၁၁) |
| | ၃။ | ဝိစာရ | ။ | ၆၆ (၅၅+ဒုဈာန် ၁၁) |
| | ၄။ | အဓိမောက္ခ | ။ | ၇၈ (ဒွိပဉ္စဝိညာဏ် ၁၀+ဝိစိကြဉ်) |
| | ၅။ | ဝီရိယ | ။ | ၇၃ |
| | ၆။ | ပီတိ | ။ | ၅၁ |
| | ၇။ | ဆန္ဒ | ။ | ၆၉ (မော-၂ အဟိတ် ၁၈ကြဉ်) |

| | | | | | | |
|---|---|---|---|---|---|---|
| အကုသိုလ် ၇-နည်း | ၈။ | မောဟ၊ အဟိရိက အနောတ္တပ္ပ၊ ဥဒ္ဓစ္စ (မောစတုတ်) | ၁-နည်း | ၁၂ (အကုသိုလ် ၁၂-ပါးလုံး) | | |
| | ၉။ | လောဘ၊ ဒိဋ္ဌိ၊မာန (လောတြိ) | ॥ | လော-၈ | ဒိဋ္ဌိသံ-၄ | ဒိဋ္ဌိဝိ-၄ |
| | ၁၀။ | ဒေါသ၊ ဣဿာ၊ မစ္ဆရိယ၊ကုက္ကုစ္စ (ဒေါစတုတ်) | ॥ | ၂ (ဒေါသမူ-၂) | | |
| | ၁၁။ | ထိန၊ မိဒ္ဓ | ॥ | ၅ (သသင်္ခါရိက-၅) | | |
| | ၁၂။ | ဝိစိကိစ္ဆာ | ॥ | ၁ (ဝိစိကိစ္ဆာစိတ်တစ်ပါးသာ) | | |
| သောဘန ၄-နည်း | ၁၃။ | သောဘနသာဓာရဏ စေတသိက်၁၉-ပါး | ॥ | ၅၉/၉၁ (သောဘနစိတ်အားလုံး) | | |
| | ၁၄။ | ဝိရတီစေတသိက် ၃-ပါး | ॥ | ၁၆ (မဟာကု-၈၊ လောကုတ်-၈) | | |
| | ၁၅။ | အပ္ပမညာ စေတသိက် ၂-ပါး | ॥ | ၂၈ (မဟာကြိ ကု၊ ရူပ သောမနဿ ၁၂) | | |
| | ၁၆။ | (ဉာဏ်) ပညိန္ဒြေ (ပညာ)စေတသိက် | ॥ | ၄၇ (ဉာဏ်သမ်-၁၂၊ မဟဂ္ဂုတ် + လော-၃၅) | | |

၁။ ✱ သဗ္ဗစိတ္တေ၊ ခုနစ်ထွေ၊ ယှဉ်လေစိတ်အားလုံး

၂။ ✱ ပဋ္ဌဝိညာဏ်၊ ကြဉ်တို့ပြန်၊ ကာကျန်လေးဆယ့်လေး။

✱ လေးဆယ့်လေးတန်၊ ကာမကျန်ဝယ်၊ ပ-ဈာန်ဆယ့်တစ်၊ လောင်းတုံလစ်၊ "**တက်**" ဖြစ် **ငါးငါး** ရေး။

၃။ * ငါးဆယ့်ငါးတန်၊ "တက်"ဖြစ်ရန်ဝယ်၊ ဒု-ဈာန်ဆယ့်တစ်၊ လောင်းတိုလစ်၊ "တ"ဖြစ် **ဆသ** တွေး။

၄။ * ပဉ္စဝိညာဏ်၊ ဝိစိကြဉ်၊ **မိ**-ယှဉ် **ခွန်ရှစ်**-တွေး။

၅။ * ပဉ္စဝိညာဏ်၊ သမ်၊ သန်၊ ပဉ်-ကြဉ်၊ **ဝီ** ယှဉ် **ခွန်သုံးရေး**။

၆။ * စ-ဈာန်ကြဉ်ပစ်၊ သော-ကျန်စစ်၊ **ပီ** ဖြစ် **ပဥ္စ**။

၇။ * မောမူ + အဟိတ်၊ နှစ်ဆယ်စိတ်ကြဉ်၊ **ခြောက်ကိုးတွင်၊** "**ဆန်**"လျှင် ဖြစ်ခွင့်ပေး။

၈။ * မောစတုတ်စု၊ ယှဉ်တိုမှု၊ အကု**တစ်ဆယ့်နှစ်**၊

၉။ * လော-လောဘမူ၊ ဒိဋ္ဌိ-သံယု၊ မာ-မူဝိပ်လေးဖြစ်။

၁၀။ * **ဒေါ**စတုတ်မူ၊ ယှဉ်ရာယူ၊ ဒေါမူစိတ်စုံ **နှစ်**။

၁၁။ * **ထိ**၊ **မိ**-သသင်၊ **ငါး** မှာ ယှဉ်၊

၁၂။ * ဝိစင်၊ ဝိစိဖြစ်။

၁၃။ * တစ်ဆယ့်ကိုးဖြာ၊ သောဘနာ၊ ယှဉ်ရာကိုးဆယ့်တစ် (ကျဉ်း-၅၉/ ကျယ်-၉၁)

၁၄။ * မဟာ ကု-ရှစ်၊ လောကုတ်-ရှစ် ဖြစ်လစ် ဝိရတီ၊ **မဟာကုမှာ၊ ယှဉ်တိုပါ၊ ရံခါအသီးသီး။ လောကုတ်ရှစ်မှာ၊ ယှဉ်တိုပါ၊ မြဲစွာ တပေါင်းတည်း။**

၁၅။ * မဟာကြိ-ကု၊ ပ-ဒု-တ-စ၊ ရူပဆယ့်နှစ်၊ **နှစ်ဆယ့်ရှစ်၊** ဖြစ်လေပမညာ။

**(ဥပေက်ကြဉ်ဖယ်၊ နှစ်ဆယ်စိတ်မှာ၊ ကေစိသာ)**

၁၆။ * ကု-ဝိ-ကြိဉာဏ်၊ဈာန် မဟဂ္ဂုတ်၊ လောကုတ်တခွင်၊ အကုန်ယှဉ်၊ ဉာဏ်ပင် **လေးခွန်နှစ်** (၄၇)

**၂။ ဝိတက်နှင့် ယှဉ်သောစိတ် ၅၅-ပါးကား-**

| | |
|---|---|
| ဒွေပဉ္စဝိညာဏ် ၁၀-ကြဉ်သော ကာမစိတ် | ၄၄-ပါး |
| ပဌမဈာန်စိတ် | ၁၁-ပါး |
| ပေါင်း = | ၅၅-ပါး |

**မယှဉ်သောစိတ် ၆၆-ပါးကား-**

| | |
|---|---|
| ဒွေပဉ္စဝိညာဏ် | ၁၀-ပါး |
| ဒုတိယဈာန်စိတ် | ၁၁-ပါး |
| တတိယဈာန်စိတ် | ၁၁-ပါး |
| စတုတ္ထဈာန်စိတ် | ၁၁-ပါး |
| ပဉ္စမဈာန်စိတ် | ၂၃-ပါး |
| ပေါင်း = | ၆၆-ပါး |

**၃။ ဝိစာရနှင့်ယှဉ်သောစိတ် ၆၆-ပါးကား-**

| | |
|---|---|
| ဒွေပဉ္စဝိညာဏ် ၁၀-ကြဉ်သောကာမစိတ် | ၄၄-ပါး |
| ပဌမဈာန်စိတ် | ၁၁-ပါး |
| ဒုတိယဈာန်စိတ် | ၁၁-ပါး |
| ပေါင်း = | ၆၆-ပါး |

**မယှဉ်သောစိတ် ၅၅-ပါးကား-**

| | |
|---|---|
| ဒွေပဉ္စဝိညာဏ် | ၁၀-ပါး |
| တတိယဈာန်စိတ် | ၁၁-ပါး |
| စတုတ္ထဈာန်စိတ် | ၁၁-ပါး |
| ပဉ္စမဈာန်စိတ် | ၂၃-ပါး |
| ပေါင်း = | ၅၅-ပါး |

**၄။ အဓိမောက္ခနှင့် ယှဉ်သောစိတ် ၇၈–ပါးကား–**

ဒွေပဉ္စဝိညာဏ် ၁၀–နှင့် ဝိစိကိစ္ဆာသဟဂုတ်စိတ်
ကြဉ်သောစိတ် ၇၈–ပါးတည်း။

မယှဉ်သောစိတ် ၁၁–ပါးကား–

| | |
|---|---|
| ဒွေပဉ္စဝိညာဏ် | ၁၀–ပါး |
| ဝိစိကိစ္ဆာသဟဂုတ် | ၁–ပါး |
| ပေါင်း = | ၁၁–ပါး |

**၅။ ဝီရိယနှင့်ယှဉ်သောစိတ် ၇၃–ပါးကား–**

ပဉ္စဒွါရာဝဇ္ဇန်း၊ ဒွေပဉ္စဝိညာဏ် ၁၀၊ သမ္ပဋိစ္ဆိုင်း ၂၊
သန္တီရဏစိတ် ၃–ခုကြဉ်သောစိတ် ၇၃–ပါးတည်း။

မယှဉ်သောစိတ် ၁၆–ပါးကား–

| | |
|---|---|
| ပဉ္စဒွါရာဝဇ္ဇန်းစိတ် | ၁–ပါး |
| ဒွေပဉ္စဝိညာဏ် | ၁၀–ပါး |
| သမ္ပဋိစ္ဆိုင်းစိတ် | ၂–ပါး |
| သန္တီရဏစိတ် | ၃–ပါး |
| ပေါင်း = | ၁၆–ပါး |

**၆။ ပီတိနှင့်ယှဉ်သောစိတ် ၅၁–ပါးကား–**

| | |
|---|---|
| လောဘမူသောမနဿသဟဂုတ်စိတ် | ၄–ပါး |
| အဟိတ်သောမနဿသဟဂုတ်စိတ် | ၂–ပါး |
| မဟာကုသိုလ်သောမနဿသဟဂုတ်စိတ် | ၄–ပါး |
| မဟာဝိပါက်သောမနဿသဟဂုတ်စိတ် | ၄–ပါး |
| မဟာကြိယ သောမနဿသဟဂုတ်စိတ် | ၄–ပါး |

| | |
|---|---|
| ပဌမဈာန်စိတ် | ၁၁-ပါး |
| ဒုတိယဈာန်စိတ် | ၁၁-ပါး |
| တတိယဈာန်စိတ် | ၁၁-ပါး |
| ပေါင်း = | ၅၁-ပါး |

**မယှဉ်သောစိတ် ၇၀-ပါးကား-**

| | |
|---|---|
| ဒေါသမူဒွေ | ၂-ပါး |
| ဥပေက္ခာသဟဂုတ်စိတ် | ၅၅-ပါး |
| ကာယဝိညာဏ်ဒွေ | ၂-ပါး |
| စတုတ္ထဈာန်စိတ် | ၁၁-ပါး |
| ပေါင်း = | ၇၀-ပါး |

(မှတ်ချက်။ ။ပီတိသည် ကာယဝိညာဏ်ဒွေ၊ ဒေါမနဿ၊ ဥပေက္ခာသဟဂုတ်စိတ် တို့နှင့် မယှဉ်၊စတုတ္ထဈာန်စိတ် ၁၁-ခုမှတစ်ပါးသောမနဿနှင့်သာယှဉ်)

**၇။ ဆန္ဒနှင့်ယှဉ်သောစိတ် ၆၉-ပါးကား-**

| | |
|---|---|
| လောဘမူစိတ် | ၈-ပါး |
| ဒေါသမူစိတ် | ၂-ပါး |
| သောဘဏစိတ် | ၅၉-ပါး |
| ပေါင်း = | ၆၉-ပါး |

(မှတ်ချက်။ ။ဆန္ဒသည် ဒွိဟိတ်၊တိဟိတ်စိတ်တို့နှင့်သာ ယှဉ်သည်။)

**မယှဉ်သောစိတ် ၂၀-ပါးကား-**

| | |
|---|---|
| မောဟမူစိတ် | ၂-ပါး |
| အဟိတ်စိတ် | ၁၈-ပါး |
| ပေါင်း = | ၂၀-ပါး |

## အနိယတယောဂီနှင့် နိယတယောဂီ စေတသိက်အခွဲ

မိမိတို့နှင့် ယှဉ်ဖက်စိတ် ဖြစ်တိုင်း၊ ဖြစ်တိုင်း အမြဲမပါဝင်(ရံခါသာ) ပါဝင်နိုင်သော စေတသိက်များသည် အနိယတယောဂီစေတသိက် မည်၏။ အနိယတယောဂီစေတသိက် ၁၁-ပါး ရှိ၏။ (အနိယတ=မမြဲ၊ နိယတ=အမြဲ)

**လင်္ကာ** - မာ + ဣဿ + မစ် + ကု၊ ထိ + မိ-စု၊ သုံးခုဝိရတီ၊
နှစ်ခု-ပမညာ၊ ဆယ်တစ်ဖြာ၊ ရံခါယှဉ်ကြဘိ၊
အာရုံမတူ၊ ကွဲကြမှု၊ အတူမဖြစ်ဘိ။

| | | | | |
|---|---|---|---|---|
| မာန | ဣဿာ+မစ္ဆရိယ+ကုက္ကုစ္စ | ဝိရတီ-၃ | အပ္ပမညာ-၂ | ထိန+မိဒ္ဓ |
| ကဒါစိ | နာနာ+ကဒါစိ | နာနာ+ကဒါစိ | နာနာ+ကဒါစိ | သဟ+ကဒါစိ |
| (ရံခါ) | (အသီးသီး + ရံခါ) | | | အတူတကွ-ရံခါ) |

### မာနစေတသိက်-ကဒါစိ-ဖြစ်ပုံ

မိမိကိုယ်ကို ငါသာလျှင် မြတ်၏ဟု ထောင်လွှားသောအခါ မာန ဖြစ်၏၊ မထောင်လွှားသော် မာနမဖြစ်။ (ဤသို့ ရံခါသာ ဖြစ်လေ့ရှိသည်ကို ကဒါစိ-ဟု ဆိုပါသည်။)

(မာနသည် ဒိဋ္ဌိဂတဝိပ္ပယုတ် ၄-ပါးနှင့် ယှဉ်ဖက်ဖြစ်၏၊ ထိုဒိဋ္ဌိဂတ ဝိပ္ပယုတ် ၄-ပါး ဖြစ်တိုင်း မာနအမြဲတန်း မပါ၊ ထောင်လွှားမှသာ ပါ၏၊ မထောင်လွှားက မာနမပါပေ၊ လောဘသည် လောဘမူ ၈-ပါးနှင့် ယှဉ်ဖက်ဖြစ်၏၊ လောဘမူစိတ် ၈-ပါးဖြစ်တိုင်း လောဘမပါသည်ဟုမရှိ အမြဲပါနေ၍-နိယတယောဂီစေတသိက်ဟု ခေါ်သည်။

### ဣဿာ + မစ္ဆရိယ + ကုက္ကုစ္စတို့ နာနာကဒါစိ ဖြစ်ပုံ

ငြူစူသောအခါ ဣဿာ သာဖြစ်၏၊ ကျန်နှစ်ခုမဖြစ်၊ ဤသို့ တစ်ခုဖြစ်က ကျန်နှစ်ခု မဖြစ်ခြင်းကို နာနာ(အသီးသီး)ယှဉ်သည်ဟု ဆိုပါသည်။

သူတစ်ပါး စည်းစိမ်ကို ခြူစူမှသာ ဣဿာဖြစ်၏၊ မခြူစူက ဣဿာမဖြစ်။ ဝန်တိုမှ မစ္ဆရိယဖြစ်၏၊ ဝန်မတိုက မစ္ဆရိယမဖြစ်။ ပြုပြီး ဒုစရိုက် +မပြုလိုက်မိသော သုစရိုက်တို့၌ နှိုးရိမ်မှ ကုက္ကုစ္စဖြစ်၏၊ မစိုးရိမ်က ကုက္ကုစ္စ မဖြစ် (ဤသို့ ရံခါမှသာဖြစ်သည်ကို ကဒါစိဟု ဆိုသည်။)

## ဝိရတီစေတသိက် ၃-ပါး နာနာကဒါစိဖြစ်ပုံ

အသက်မွေးဝမ်းကြောင်းမှု အာဇီဝဟေတုကို မငဲ့ဘဲ ဝစီဒုစရိုက် လေးပါးမှ ရှောင်ကြဉ်သောအခါ သမ္မာဝါစာ ဖြစ်၏၊ သမ္မာကမ္မန္တ+သမ္မာ အာဇီဝ မဖြစ်-ဤသို့ တစ်ခုဖြစ်က ကျန်နှစ်ခုမဖြစ်ခြင်းကို နာနာ=အသီးသီး ယှဉ်၏ဟု ဆိုပါသည်။

အာဇီဝဟေတုကို မငဲ့ဘဲ၊ ဝစီဒုစရိုက်လေးပါးမှ ရှောင်ကြဉ်သော အခါ သမ္မာဝါစာ ဖြစ်၏။ မရှောင်သောအခါ မဖြစ်၊ အာဇီဝဟေတုကို မငဲ့ဘဲ၊ ကာယဒုစရိုက် ၃-ပါးမှ ရှောင်ကြဉ်သောအခါ သမ္မာကမ္မန္တဖြစ်၏၊ မရှောင်ကြဉ်လျှင် မဖြစ်၊ အာဇီဝဟေတုကို ငဲ့၍၊ ကာယဝစီဒုစရိုက်တို့မှ ရှောင်ကြဉ်သောအခါ သမ္မာအာဇီဝ ဖြစ်၏၊ မရှောင်ကြဉ်လျှင် မဖြစ်၊ ဤသို့ ရံခါသာ ဖြစ်သည်ကို ကဒါစိ-ဟု ဆိုပါသည်။

## ဝိရတီစေတသိက် ၃-ပါးသည် ၎င်းနှင့် ယှဉ်ဖက်ဖြစ်သော မဟာကုသိုလ်စိတ်၌ ကဒါစိ ယှဉ်ပုံ ယှဉ်ဟန်။

ဝိရတီသည် မဟာကုသိုလ်နှင့် ယှဉ်ဖက်ဖြစ်၏၊ မဟာကုသိုလ်စိတ် ဖြစ်တိုင်း ဖြစ်တိုင်း ဝိရတီစေတသိက် ဖြစ်မဖြစ် ပြန်ကြည့်သောအခါ၊ မဟာကုသိုလ်သည် (၁) ဒါန၊ သီလ၊ ဘာဝနာအမှုတို့ကို ပြုသောအခါ လည်း မဟာကုသိုလ် ဖြစ်၏။ (၂) ဒုစရိုက်, ဒုရာဇီဝတို့မှ ရှောင်ကြဉ် သောအခါလည်း မဟာကုသိုလ် ဖြစ်၏။ထိုနှစ်မျိုးတွင် ဒုစရိုက်, ဒုရာဇီဝတို့မှ ရှောင်ကြဉ်၍ မဟာကုသိုလ်ဖြစ်သောအခါ ဝိရတီစေတသိက်နှင့် ဆိုင်ပြီး (ယှဉ်ပြီး) ဒါန၊ သီလ စသည်ပြု၍ မဟာကုသိုလ် ဖြစ်သောအခါတွင်

ဝိရတီနှင့် မဆိုင် (မယှဉ်)ပေ။ ထိုသို့ မဟာကုသိုလ်ဖြစ်တိုင်း ဖြစ်တိုင်း ဝိရတီဖြစ်သည်မဟုတ်ဘဲ ဒုစရိုက် ဒုရာဇီဝတို့မှ ရှောင်ကြဉ်သည့်**အခါ** (ရံခါသာ) ဖြစ်သည်ကို (ကဒါစိ) အနိယတ ယှဉ်သည်ဟု **ဆိုခြင်းဖြစ်သည်။** ဝိရတီစေတသိက်သည် လောကုတ္တရာစိတ်၌လည်း ယှဉ်၏၊ **လောကုတ္တရာ** စိတ်၌ကား ဆိုင်ရာအကုသိုလ်ဒုစရိုက်များ အပြီးရှောင်ကြဉ်ပြီး ဖြစ်၍ ဝိရတီ၌ အမြဲ (နိယတာ)ယှဉ်ခြင်း ဖြစ်သည်။

## အပ္ပမညာဒွေ–နာနာကဒါစိ–ဖြစ်ပုံ

ဒုက္ခိတသတ္တဝါပညတ်ကို အာရုံပြု၍ သနားသောအခါ၊ ကရုဏာ ဖြစ်၏။ မုဒိတာမဖြစ်၊ သုခိတသတ္တဝါပညတ်ကို အာရုံပြု၍ ဝမ်းမြောက် သောအခါ၊ မုဒိတာ ဖြစ်၏။ ကရုဏာမဖြစ်(ဤသို့ တစ်လှည့်စီ **အသီးသီး** ဖြစ်သည်ကို **နာနာ**ဟု ဆိုပါသည်။)

ဒုက္ခိတသတ္တဝါပညတ်ကို အာရုံပြု၍ သနားသောအခါ ကရုဏာ ဖြစ်၏။ မသနားသောအခါ မဖြစ်၊ သုခိတသတ္တဝါပညတ်ကို အာရုံပြု၍ ဝမ်းမြောက်သောအခါ မုဒိတာဖြစ်၏။ ဝမ်းမမြောက်သောအခါ မုဒိတာ မဖြစ်(ဤသို့ တစ်ခါတစ်ရံမှ ဖြစ်သည်ကို **ကဒါစိ**ဟု ဆိုပါသည်။)

## ထိန+မိဒ္ဓ ၂–ပါး သဟကဒါစိ ဖြစ်ပုံ

နာမက္ခန္ဓာလေးပါးတို့၏ အမှု၌ မခံ့ဘဲ ထိုင်းထိုင်းမှိုင်းမှိုင်း ဖြစ် နေသောအခါ ထိန+မိဒ္ဓဖြစ်၏။ အမှု၌ခံ့သောအခါ ထိန+မိဒ္ဓမဖြစ်၊ (ဤသို့ တစ်ခါတစ်ရံမှ ဖြစ်သည်ကို **ကဒါစိ**ဟု ဆိုပါသည်။ ဤ ၂–ပါးသည် အမြဲတမ်း အတူတကွ တွဲ၍သာဖြစ်ကြသဖြင့် **သဟစေတသိက်လည်း** မည်၏။

- မိမိနှင့် ယှဉ်ဖက်စိတ်ဖြစ်တိုင်း အမြဲပါဝင်သော စေတသိက်သည် နိယတယောဂီစေတသိက် မည်၏။
- နိယတသက်သက် စေတသိက်–အနိယတ ၁၁–ပါးမှ ကြွင်းသော စေတသိက် ၄၁–ပါး။

- နိယတ+အနိယတ ၂-မျိုးရ စေတသိက်-ဝိရတီစေတသိက် ၃-ပါး၊
- အနိယတသက်သက် စေတသိက်-ဝိရတီ ၃-ပါးမှ ကြွင်းသော အနိယတ ၈-ပါး။

## သင်္ဂဟနည်း ၃၃-နည်း

(စိတ်အသီးသီးတို့၌ ရနိုင်သော စေတသိက်တို့ကို ရေတွက်ပြသော နည်းသည် သင်္ဂဟနည်း မည်ပါသည်။)

### လောကုတ္တရာစိတ်၌ သင်္ဂဟနည်း ၅-နည်း

| | | | |
|---|---|---|---|
| ပထမစျာန်စိတ် ၈-ပါး | ၁-နည်း | အည---၁၃ + အပ္ပမညာကြဉ် သောဘနစေ ၂၃ | ၃၆ |
| ဒု ။ | ။ | ဝိတက်ကြဉ် အည ၁၂+အပ္ပမညာ ကြဉ်-သောဘနစေ ၂၃ | ၃၅ |
| တ ။ | ။ | ဝိတက်ဝိစာကြဉ် အည-၁၁+အပ္ပ မညာကြဉ်-သောဘနစေ ၂၃ | ၃၄ |
| စ ။ | ။ | တက်-စာ-ပီ ကြဉ် အည-၁၀ + အပ္ပမညာကြဉ်-သောဘနစေ ၂၃ | ၃၃ |
| ပဥ္စမ ။ | ။ | ။ | ၃၃ |

***မှတ်ချက်။*** ။ လောကုတ္တရာစိတ်သည် နိဗ္ဗာန်ကို အာရုံပြု၍၊ အပ္ပမညာနှစ်ပါးသည် သုခိတ၊ ဒုက္ခိတ သတ္တပညတ်ကို အာရုံပြု၍၊ အာရုံပြုပုံ မတူ ကွဲပြား၍ လောကုတ္တရာစိတ်၌ အပ္ပမညာနှစ်ပါး မရခြင်း ဖြစ်သည်။

## မဟာဂ္ဂုတ်စိတ်၌ သင်္ဂဟနည်း ၅-နည်း

| | | | |
|---|---|---|---|
| ပထမစျာန်စိတ် ၃-ပါး | ၁-နည်း | အညႃ-၁၃ + ဝိရတိ ကြဉ် သောဘနစေ ၂၂ | ၃၅ |
| ဒု ။ | ။ | ဝိတက်ကြဉ် အညႃ ၁၂ + ဝိရတိ ကြဉ်-သောဘနစေ ၂၂ | ၃၄ |
| တ ။ | ။ | ဝိတက်ဝိစာကြဉ် အညႃ-၁၁ + ဝိရတိကြဉ်-သောဘနစေ ၂၂ | ၃၃ |
| စ ။ | ။ | တက်-စာ-ပီ ကြဉ် အညႃ-၁၀ + ဝိရတိကြဉ်-သောဘနစေ ၂၂ | ၃၂ |
| ပဥ္စမ ၁၅-ပါး | ။ | အညႃ-၁၀+ ဝိ-၃၊ အပ္ပ-၂ ကြဉ် သောဘန-၂၀ | ၃၀ |

*မှတ်ချက်။* ။ မဟဂ္ဂုတ်စျာန်စိတ် ဖြစ်ဖို့ရန်အတွက် ပထမ သီလစင်ကြယ်ရမည်၊ သီလစင်ကြယ်လျှင် ကိုယ် + နှုတ်နှစ်ပါးလုံး စင်ကြယ်လာပြီး သမထ ဘာဝနာဖြင့် စိတ်တည်ကြည်အောင် ပွားများလျှင် မဟဂ္ဂုတ်စျာန်စိတ်များ ဖြစ်လာသည်။

(ဝိရတီနှင့် ယှဉ်ဖက်ဖြစ်သော **မဟာကုသိုလ်ဖြင့်လည်း** ကာယ ဒုစရိုက် + ဝစီဒုစရိုက်များကို ရှောင်ကြဉ်နေစရာ မလို၊ လောကုတ္တရာစိတ်ဖြင့်လည်း ဒုစရိုက် ဒုရာဇီဝတို့ကို အကြွင်းမဲ့ ဖြတ်စရာလည်း မလို၊ မလို၍ မဟဂ္ဂုတ်စိတ်၌ ဝိရတီသုံးပါးကို မရခြင်း ဖြစ်သည်။)

# ကာမသောဘနစိတ်သင်္ဂဟနည်း ၁၂-နည်း

| | | | | |
|---|---|---|---|---|
| မဟာကုသိုလ် ၄-နည်း | ပထမဒွေ | ၁-နည်း | အည-၁၃ + သောဘနစေ-၂၅ | ၃၈ |
| | ဒုတိယဒွေ | ။ | အည-၁၃ + ဉာဏ်ကြဉ်-သောဘနစေ-၂၄ | ၃၇ |
| | တတိယဒွေ | ။ | ပီကြဉ်အည-၁၂+သောဘနစေ-၂၅ | ၃၇ |
| | စတုတ္ထဒွေ | ။ | ပီကြဉ် အည-၁၂ + ဉာဏ်ကြဉ် သောဘနစေ-၂၄ | ၃၆ |
| မဟာကြိယာ ၄-နည်း | ပ | ။ | အည-၁၃+ဝိရတီကြဉ်-သောဘန-၂၂ | ၃၅ |
| | ဒု | ။ | အည-၁၃+ဝိရတီ-ဉာဏ်ကြဉ်-သောဘန-၂၁ | ၃၄ |
| | တ | ၁-နည်း | ပီကြဉ်+အည-၁၂ + ဝိရတီကြဉ်-သောဘန-၂၂ | ၃၄ |
| | စ | ။ | ပီကြဉ်+အည-၁၂+ဝိရတီဉာဏ်ကြဉ်-သောဘန-၂၁ | ၃၃ |
| မဟာဝိပါက် ၄-နည်း | ပ | ၁-နည်း | အည-၁၃+ဝိ-အပ္ပကြဉ်-သောဘန-၂၀ | ၃၃ |
| | ဒု | ။ | အည-၁၃+သောဘနသာဓာရဏ-၁၉ | ၃၂ |
| | တ | ။ | ပီကြဉ်-၁၂ + ဝိ-အပ္ပကြဉ် သောဘန-၂၀ | ၃၂ |
| | စ | ။ | ပီကြဉ်-၁၂+သောဘနသာဓာရဏ-၁၉ | ၃၁ |

**မဟာဝိပါက်၊ မဟာကြိယာ၌ ဝိရတီသုံးပါး မရခြင်း**

လောကီ၌ ဝိရတီဖြစ်လျှင် စင်စစ် ကုသိုလ်သဘောသာ ဖြစ်၍ အဗျာကတ သဘောရှိသော မဟာဝိပါက်၊ မဟာကြိယာစိတ်တို့၌ ဝိရတီသုံးပါးကို မရပါ၊ (ဝိရတီသည် လောကီစိတ်တွင် မဟာကုသိုလ်-၈ ပါးနှင့်သာ ယှဉ်၏။)

(လောကုတ္တရာ၌ ဝိရတီသည်ကား မဂ်ကုသိုလ်သာမက၊ ဖိုလ်သည်လည်း မဂ်အားလျော်စွာ ဒုစရိုက်၊ ဒုရာဇီဝတို့ကို တစ်ဖန်ငြိမ်းစေသည်၏ အစွမ်းဖြင့် ဖြစ်သောကြောင့် အဗျာကတ သဘောရှိသော လောကုတ္တရာဝိပါက်(ဖိုလ်စိတ်)၌ကား ဝိရတီရလေသည်။)

**မဟာဝိပါက်၌-အပ္ပမညာ ၂-ပါး မရခြင်း**

မဟာဝိပါက်စိတ်သည် **ကာမတရားကို ကေန်** အာရုံပြု၏၊ အပ္ပမညာစေတသိက်သည် သုခိတ၊ ဒုက္ခိတသတ္တဝါ**ပညတ်**ကို အာရုံပြု၏၊ အာရုံမတူ၍ မရခြင်း ဖြစ်သည်။

* ၃၈-တွင် ဝိရတီကြဉ် ကြိ-တွင် ကု-နည်း သွား။
* ၃၅-တွင် မညာကြဉ် ဝိ-တွင် ကြိနည်းသွား။

**အများဆုံးယှဉ်** ရနိုင်သမျှ(ယှဉ်နိုင်သမျှ)အားလုံးကို ဆိုလိုသည်။
**အမြဲတန်းယှဉ်** အသီးသီးယှဉ်သော စေတသိက်များကို နှုတ်ခြင်းဖြင့် ရရှိသည်။
**တစ်ပြိုင်နက်ယှဉ်** အမြဲတန်းတွင် အသီးသီးယှဉ်သော စေတသိက်တစ်ခုကို ပြန်ထည့်ခြင်းဖြင့် ရရှိသည်။

(အသီးသီးယှဉ်သောစေတသိက်များမှာ အနိယတယောဂီမှ နာနာစေတသိက်များကို ဆိုလိုသည်။ ၎င်း နာနာ-အသီးသီးယှဉ်သော စေတသိက်များ ပါ/မပါကို ကြည့်ရမည်။)

* မဟဂ္ဂုတ်စိတ်၌ အပ္ပမညာ ၂-ပါးသည် နာနာ=အသီးသီး ယှဉ်၏။
* လောကုတ္တရာစိတ်၌ ဝိရတီ ၃-ပါးသည် နာနာ=အသီးသီး ယှဉ်ကြ၏။
* မဟာကုသိုလ်စိတ်၌ ဝိရတီ ၃-ပါး+အပ္ပမညာ ၂-ပါး၊ ပေါင်း ၅-ပါးတို့သည် နာနာ=အသီးသီးသာ ယှဉ်ကြ၏။

* မဟာကြိယာစိတ်၌ အပ္ပမညာ ၂-ပါးသည် နာနာ=အသီးသီးသာ ယှဉ်၏။
* ဒေါသမူဒွေ၌ ဣဿာ+မစ္ဆရိယ+ကုက္ကုစ္စ ၃-ပါးသည် နာနာ=အသီးသီးသာ ယှဉ်၏။
* အကုသိုလ် သသင်္ခါရိက ၅-ပါးလုံး၌ ထိန+မိဒ္ဓ ၂-ပါး အထူးပြု၍ ယှဉ်ကြ၏။ (အသင်္ခါရိကသိလျှင်) သသင်္ခါရိကအတွက် ထိန+မိဒ္ဓ ၂-ပါးကို အထူးပြုပေါင်း ထည့်ယုံသာ)

## အများဆုံး၊ အမြဲတမ်း တစ်ပြိုင်နက်ယှဉ်ပုံ

**ဥပမာ–** မဟဂ္ဂုတ်ပထမစျာန်၌– အညသမာန်း ၁၃-ပါး+ဝိရတီ သုံးပါးကြဉ်သော သောဘဏစေတသိက် ၂၂-ပါး= စုစုပေါင်း **၃၅–ပါး အများဆုံးယှဉ်၏၊** ထိုအထဲမှ အသီးသီးယှဉ်သော အပ္ပမညာ ၂-ပါး နှုတ်၍၊ **၃၃–ပါးသည် အမြဲတမ်းယှဉ်ခြင်း ဖြစ်၏၊** ထိုအမြဲတန်း ၃၃-ပါးတွင် အသီးသီးယှဉ်သော အပ္ပမညာတစ်ပါးပါးကို ပြန်ထည့်၍ **၃၄–ပါးသည် တစ်ပြိုင်နက်တည်း ယှဉ်နိုင်သော** စေတသိက်ဖြစ်၏။

## မဟာကုသိုလ်၌ အပ္ပမညာ + ဝိရတီတို့ အသီးသီးတစ်ခုစီသာ ယှဉ်ကြခြင်း

အပ္ပမညာစေတသိက်သည် **သတ္တဝါပညတ်ကိုသာ** အာရုံပြု၏။ ဝိရတီစေတသိက်သည် **ရှောင်ကြဉ်အပ်သော (ဝိရမိတဗ္ဗ)ဝတ္ထုကို** အာရုံပြု၏။ ဤသို့ အာရုံကွဲ၍ တစ်ခုသောစိတ်၌ အတူမဖြစ်နိုင်၍ အသီးသီးတစ်ခုစီသာ ယှဉ်ကြသည်။

***မှတ်ချက်*** – မဟာကုသိုလ်၌ အပ္ပမညာ +ဝိရတီတို့ အသီးသီးသာ ယှဉ်ကြ၏၊ (အများဆုံး၊ အမြဲတမ်း၊ တစ်ပြိုင်နက် ကောက်တတ်ပါစေ။)

# အကုသိုလ်စိတ်—သင်္ဂြိုဟ်နည်း ရ—နည်း

| | | | | |
|---|---|---|---|---|
| လောဘမူစိတ် ၈-ပါး ၄-နည်း | ပ-အသင်္ခါရိက | ၁-နည်း | အညသမာန်းမ ၁၃+မော ၄+လောဘ+ ဒိဋ္ဌိ | ၁၉ |
| | ဒု-အသင်္ခါရိက | | အညသမာန်းမ ၁၃+မော ၄+လောဘ+ မာန | ၁၉ |
| | တ-အသင်္ခါရိက | ၁-နည်း | ပကိဏ်-အည-၁၂+မော-၄+ လောဘ+ဒိဋ္ဌိ | ၁၈ |
| | စ-အသင်္ခါရိက | | ပကိဏ်-အည-၁၂+မော-၄+ လောဘ+မာန | ၁၈ |
| | ပ-သသင်္ခါရိက | ၁-နည်း | အညသမာန်းမ ၁၃+မော ၄+လောဘ+ ဒိဋ္ဌိ + ထိန-မိဒ္ဓ | ၂၁ |
| | ဒု-သသင်္ခါရိက | | အညသမာန်းမ ၁၃+မော ၄+လောဘ+ မာန + ထိန-မိဒ္ဓ | ၂၁ |
| | တ-သသင်္ခါရိက | ၁-နည်း | ပကိဏ်-အည-၁၂+မော-၄+ လောဘ+ဒိဋ္ဌိ + ထိန-မိဒ္ဓ | ၂၀ |
| | စ-သသင်္ခါရိက | | ပကိဏ်-အည-၁၂+မော-၄+ လောဘ+မာန+ထိန-မိဒ္ဓ | ၂၀ |
| ဒေါသမူ ၂ | ပဋိဃမအသင်္ခါရိက | ၁-နည်း | ပကိဏ်-အည-၁၂+မော-၄ ဒေါ-၄ | ၂၀ |
| ၂-နည်း | ပဋိဃမသသင်္ခါရိက | ၁-နည်း | ပကိဏ်-အည-၁၂+မော-၄ + ဒေါ-၄ + ထိန + မိဒ္ဓ | ၂၂ |
| မောဟမူ | ဝိစိကိစ္ဆာစိတ်၌ | ၁-နည်း | ဆန်ပိဓိကြဉ်-အည-၁၀ + မော-၄ + ဝိစိကိစ္ဆာစေ | ၁၅ |
| ၂ ၁-နည်း | ဥဒ္ဓစ္စ စိတ်၌ | | ဆန်ပိကြဉ်-အည-၁၁ + မော-၄ | ၁၅ |

## အဟိတ်စိတ်သင်္ဂဟနည်း ၄–နည်း

| | | | |
|---|---|---|---|
| ဟသိတုပ္ပါဒ် | ၁–နည်း | ဆန္ဒကြဉ်–အညၥ–၁၂ | ၁၂ |
| သောမနဿသန္တီရဏ | | ဆန္ဒ–ဝီရိယကြဉ် အညၥ–၁၁ | ၁၁ |
| မနောဒွါရာဝဇ္ဇန်း | | ဆန္ဒ–ပီတိကြဉ် အညၥ–၁၁ | ၁၁ |
| မနောဓာတ် ၃ + ဥပေက္ခာ သန္တီရဏ၂ | ။ | ဆန္ဒ–ပီတိ–ဝီရိယကြဉ်၊အညၥ–၁၀ | ၁၀ |
| ဒွေ ပဉ္စဝိညာဏ်–၁၀ | ။ | သဗ္ဗစိတ္တသာဓာရဏစေ–၇ ပါး | ၇ |

***မှတ်ချက်။*** ။ ဆန္ဒကြဉ်ရခြင်းအကြောင်းကို ဆန္ဒစေတသိက်၊ စိတ်ယှဉ်ပုံ သမ္ပယောဂနည်းကို ပြန်ကြည့်ပါ။

ဝိသေသက စေ ၁၁–ပါး(စိတ်ချင်း ထူးခြားကွဲပြားအောင် ပြုသော စေတသိက်–များ)

* **ဝိတက် ဝိစာရ ပီတိ – သုခ** – ဈာန်စေတသိက်တို့သည် **လောကုတ္တရာစိတ်**ကို ထူးခြားကွဲပြားစေ၏။
* **ဝိတက် ဝိစာရ ပီတိ–သုခ**–ဈာန်စေတသိက်နှင့် အပ္ပမညာဒွေ တို့သည် **မဟဂ္ဂုတ်စိတ်**ကို ထူးခြားကွဲပြားအောင် ပြု၏။
* **ဉာဏ်၊ ပီတိ၊အပ္ပမညာ–၂ ဝိရတီ–၃၊** စေတသိက်တို့သည် **ကာမသောဘန**စိတ်ကို ထူးခြားကွဲပြားအောင် ပြု၏။

***လင်္ကာ*** = တက်၊ စာ၊ ပီ–သု၊ ဈာန်အင်စု၊ ၂–ခုပမညာ၊ဝိရတီ+ဉာဏ၊ ပေါင်းဆယ်ဝ၊ မှတ်ကြ ဝိသေသာ။

၁။ သဗ္ဗာကုသလသာဓာရဏစေတသိက် ၄—ပါး

မောဟ+အဟိရိက+အနောတ္တပ္ပ+ဥဒ္ဓစ္စ

သဗ္ဗ + အကုသလ + သာဓာရဏစေတသိက်
အလုံးစုံသော + အကုသိုလ်စိတ်နှင့် + ဆက်ဆံသောစေတသိက်

၂။ သဗ္ဗာကုသလယောဂီ စေတသိက် ၁၄—ပါး

ဆန္ဒ+ပီတိ+အဓိမောက္ခကြဉ်–အညသမာန်းစေတသိက် ၁၀–ပါး
(အထက်ပါ)သဗ္ဗာကုသလသာဓာရဏစေတသိက် ၄–ပါး
ပေါင်း = ၁၄–ပါး

သဗ္ဗ + အကုသလ + ယောဂီစေတသိက်
အလုံးစုံသော + အကုသိုလ်စိတ်နှင့် + ယှဉ်သောစေတသိက်။

**စိတ္တေန သမ္ပယုဒ္ဓိသေ (စေတသိက်ကို စိတ်နှင့်အမျှ ရေတွက်သောနည်း)**
**ဥပမာ**– ဖဿစေတသိက်၌– စိတ်(၈၉)ပါးယှဉ်သဖြင့် ဖဿစေတသိက် ပေါင်း ၈၉–ပါးရှိပါသည်၊ ဖဿနှင့်ယှဉ်သောစိတ်ပေါင်းလည်း ၈၉–ပါး ရှိပါသည်။ (ကျန်စေတသိက်များလည်း နည်းတူ သိပါလေ။)

**စေတသိက်ကို စေတသိက်ပြန်ယှဉ်နည်း––**
**ဥပမာ**– ဖဿစေတသိက်၌ စိတ် ၈၉–ပါးယှဉ်၏၊ ၎င်းစိတ် ၈၉–ပါး၌ စေတသိက် ၅၂–ပါး ယှဉ်၏၊ ၎င်း ၅၂–ပါးထဲမှ ဖဿကိုနုတ်လျှင် ၅၁–ပါး ကျန်၏၊ ၎င်း ၅၁–ပါးသောစေတသိက်သည်– ဖဿစေတသိက်နှင့်ယှဉ်သော စေတသိက်များဖြစ်ပါသည်။ (ကျန်စေတသိက်များလည်း နည်းတူ သိပါလေ။)

**စေတသိက်ပိုင်း ပြီး၏။**

# ပကိဏ်းပိုင်း

(စိတ် စေတသိက်တို့ကို ဝေဒနာစသော သင်္ဂဟ ၆-မျိုးတို့ဖြင့် ရောပြွမ်း၍ ပြသောအပိုင်း)

## သင်္ဂဟ ခြောက်မျိုး

| | | |
|---|---|---|
| ၁။ | **ဝေဒနာသင်္ဂဟ** | ဝေဒနာအမျိုးအစားအလိုက် စိတ်-စေတသိက်တရားတို့ကို ပေါင်း၍ ရေတွက်ခြင်း၊ |
| ၂။ | **ဟေတုသင်္ဂဟ** | ဟိတ် ၆-ပါးဖြင့် စိတ်-စေတသိက်တို့ကို တွဲစပ် ပေါင်းရုံး ရေတွက်ခြင်း၊ |
| ၃။ | **ကိစ္စသင်္ဂဟ** | စိတ်-စေတသိက်တို့၏ ပြုဖွယ်ကိစ္စအလိုက် တွဲစပ် ပေါင်းရုံး ရေတွက်ခြင်း၊ |
| ၄။ | **ဒွါရသင်္ဂဟ** | အာရုံဝင်ရာတံခါး (ဒွါရ)အလိုက် စိတ်-စေတသိက် တို့ကို ရေတွက်ခြင်း၊ |
| ၅။ | **အာရမ္မဏသင်္ဂဟ** | အာရုံအလိုက် စိတ်-စေတသိက်တို့ကို တွဲစပ်ပေါင်းရုံး ရေတွက်ခြင်း၊ |
| ၆။ | **ဝတ္ထုသင်္ဂဟ** | မှီရာဝတ္ထုအလိုက် စိတ်-စေတသိက်တို့ကို တွဲစပ် ပေါင်းရုံး ရေတွက်ခြင်း |

## ဝေဒနာသင်္ဂဟ

| **ဣန္ဒြိယဘေဒနည်း** ဝေဒနာ ၅-မျိုး | ရနိုင်သောစိတ် | **အာရမ္မဏာနုဘဝ** နည်း-၃ | ရနိုင်သောစိတ် |
|---|---|---|---|
| သောမနဿဝေဒနာ | ၆၂ | သုခဝေဒနာ | ၆၃ |
| သုခဝေဒနာ | ၁ | | |
| ဒေါမနဿဝေဒနာ | ၂ | ဒုက္ခဝေဒနာ | ၃ |
| ဒုက္ခဝေဒနာ | ၁ | | |
| ဥပေက္ခာဝေဒနာ | ၅၅ | ဥပေက္ခာဝေဒနာ | ၅၅ |

**ဣန္ဒြိယဘေဒနည်း** - ဣန္ဒြေအစဉ်အားဖြင့် ရေတွက်သောနည်း

**အာရမ္မဏာနုဘဝနည်း** - အာရုံခံစားမှုအလိုက် ရေတွက်သောနည်း

ဟေတုသမ္ပယုတ် ၆–ပါး

**လောဘဟိတ်၊ ဒေါသဟိတ်၊ မောဟဟိတ် (အကုဟိတ်–၃) အလောဘဟိတ်၊ အဒေါသဟိတ်၊ အမောဟဟိတ် (ကု/အဗျာကတ ဟိတ်–၃)**

(ဟေတု=မူလ–အကြောင်းရင်းတရား **(ရေသောက်မြစ်နှယ်၊ကျေးဇူးကြွယ်၊ ကြီးကျယ်ကြောင်းရင်းများ။** ကုသိုလ်–အကုသိုလ်ဖြစ်ရာ၌ ရေသောက်မြစ် ကဲ့သို့ ဖြစ်သောတရားများ ဖြစ်သည်။)

ရေသောက်မြစ်သည် သစ်ပင်ကိုကြံ့ကြံ့တည်ရန် ကျေးဇူးပြုသကဲ့သို့၊ ထို့အတူ ယှဉ်ဘက်ဖြစ်သောစိတ်+စေတသိက်တို့အား၊ အာရုံ၌ ကြံ့ကြံ့ တည်ရန် ကျေးဇူးပြုတတ်သောကြောင့် ဤဟိတ်ခြောက်ပါးတို့ကို **မူလ= ဟေတု=ဟိတ်ခြောက်ပါးတို့**ဟူ၍ ခေါ်၏။

* အဟိတ်စိတ် ၁၈–ပါးသည် အထက်ပါ ဟိတ် ၆–မျိုးလုံး မရှိ၍ **အဟိတ်စိတ်** မည်၏။
* ကျန်စိတ် ၇၁–ပါးသည် ဆိုင်ရာဟိတ်အသီးသီးရှိ၍ **သဟိတ်စိတ်** မည်၏။

| | | | | |
|---|---|---|---|---|
| | ဧကဟိတ်စိတ်–၂ | မောဟမူဒွေ | မောဟဟိတ် | ၁ |
| သဟိတ်–၇၁ ပါးကို ဟိတ်အား ဖြင့် ရေတွက်ပုံ | ဒွိဟိတ်စိတ်–၂၂ | လောဘမူ – ၈ | လောဘဟိတ် –မောဟ | ၂ |
| | | ဒေါသမူ – ဒွေ | ဒေါသ+မောဟ | ၂ |
| | | ကာမသောဘန ဉာဏဝိပ္ပယုတ်–၁၂ | အလောဘ+ အဒေါသ | ၂ |
| | တိဟိတ်စိတ် –၄၇ | ကာမသောဘန ဉာဏသမ္ပယုတ်–၁၂ + မဟဂ္ဂုတ်– လောကုတ္တရာ–၃၅ | အလောဘ၊ အဒေါသ အမောဟ | ၃ |

# ကိစ္စသင်္ဂဟ

| ကိစ္စ-၁၄ | ဌာန -၁၀ | သင်္ချာ | ရနိုင်သောစိတ်များ |
|---|---|---|---|
| ပဋိသန္ဓေကိစ္စ | ပဋိသန္ဓေဌာန | ၁၉ | ဥပေက္ခာသန္တီ-၂+မဟာဝိ-၈+ မဟဂ္ဂုတ်ဝိပါက်-၉ |
| ဘဝင်ကိစ္စ | ဘဝင်ဌာန | ၁၉ | ဥပေက္ခာသန္တီ-၂+မဟာဝိ-၈+ မဟဂ္ဂုတ်ဝိပါက်-၉ |
| အာဝဇ္ဇန်းကိစ္စ | အာဝဇ္ဇန်းဌာန | ၂ | ပဉ္စဒွါရာဝဇ္ဇန်း၊မနောဒွါရာဝဇ္ဇန်း (အာဝဇ္ဇန်းဒွေ) |
| ဒဿနကိစ္စ | | ၂ | စက္ခုဝိညာဏ်ဒွေ |
| သဝနကိစ္စ | | ၂ | သောတဝိညာဏ်ဒွေ |
| ဃာယနကိစ္စ | ပဉ္စဝိညာဏဌာန | ၂ | ဃာနဝိညာဏ်ဒွေ |
| သာယနကိစ္စ | | ၂ | ဇိဝှါဝိညာဏ်ဒွေ |
| ဖုသနကိစ္စ | | ၂ | ကာယဝိညာဏ်ဒွေ |
| သမ္ပဋိစ္ဆိုင်းကိစ္စ | သမ္ပဋိစ္ဆိုင်းဌာန | ၂ | သမ္ပဋိစ္ဆိုင်းဒွေ |
| သန္တီရဏကိစ္စ | သန္တီရဏဌာန | ၃ | သန္တီရဏ-၃ ခု |
| ဝုဋ္ဌောကိစ္စ | ဝုဋ္ဌောဌာန | ၁ | မနောဒွါရာဝဇ္ဇန်း(ပဉ္စဒွါရ၌) |
| ဇောကိစ္စ | ဇောဌာန | ၅၅ | အကု-၁၂ ကု-၂၁၊ ဖိုလ်-၄၊ အာဝဇ္ဇန်းဒွေမပါ ကြိယာ ၁၈ |
| တဒါရုံကိစ္စ | တဒါရုံဌာန | ၁၁ | မဟာဝိပါက်-၈၊ သန္တီရဏ-၃ |
| စုတိကိစ္စ | စုတိဌာန | ၁၉ | ဥပေက္ခာသန္တီ-၂၊ မဟာဝိ-၈ + မဟဂ္ဂုတ်ဝိပါက်-၉ |

✱ ဆက်စပ်+စီစဉ်၊ဆင်ခြင်+ကြည့်ရှု၊ ကြားနာမှုနှင့်၊ နံမှု+လျက်မှု၊ တွေ့ထိမှုမှန်၊ လက်ခံ+စစ်ဆေး၊ ပိုင်းခြားရေးတည့်၊ သိရေးတွင်ကျယ်၊ တာတွယ်လိုက်စား၊ ရွေ့ရှားပြောင်းခွာ၊ ဆယ့်လေးဖြာ၊ ပြုရာကိစ္စစဉ်။

ကိစ္စသင်္ဂဟ၌၊ ကိစ္စတို့သည်-

၁။ ဘဝနှစ်ရပ်ကို တစ်စပ်တည်းထင်မှတ်ရအောင် ဆက်စပ်၍ပေးခြင်း၊ ပဋိသန္ဓေကိစ္စ၊

၂။ ဘဝအမျှင်မပြတ်အောင် စီစဉ်ပေးသကဲ့သို့ ဖြစ်ခြင်း ဘဝင်္ဂကိစ္စ၊

၃။ အာရုံကို ဆင်ခြင်ခြင်း အာဝဇ္ဇန်းကိစ္စ၊

၄။ ရူပါရုံကို ကြည့်ရှုခြင်း၊ မြင်ခြင်း ဒဿနကိစ္စ၊

၅။ သဒ္ဒါရုံကို ကြားနာခြင်း သဝနကိစ္စ၊

၆။ ဂန္ဓာရုံကို နမ်းရှူခြင်း ဃာယနကိစ္စ၊

၇။ ရသာရုံကို လျက်ခြင်း၊ စားခြင်း၊ သာယာခြင်း သာယနကိစ္စ၊

၈။ ဖောဋ္ဌဗ္ဗာရုံကို တွေ့ထိခြင်း၊ ဖုသနကိစ္စ၊

၉။ အာရုံကို လက်ခံသိမ်းပိုက်သကဲ့သို့ဖြစ်ခြင်း သမ္ပဋိစ္ဆိုင်းကိစ္စ၊

၁၀။ အာရုံကို စုံစမ်းစစ်ဆေးသကဲ့သို့ဖြစ်ခြင်း သန္တီရဏကိစ္စ၊

၁၁။ အာရုံကို ပိုင်းခြားခြင်း၊ ဆုံးဖြတ်ခြင်း ဝေါဋ္ဌဗ္ဗန(ဝုဋ္ဌော)ကိစ္စ၊

၁၂။ အာရုံကို တွင်ကျယ်စွာ သိခြင်း၊ လျှင်စွာသိခြင်း၊ ခံစားခြင်း ဇောကိစ္စ၊

၁၃။ အာရုံကို တွယ်တာလိုက်စားသကဲ့သို့ ထိုဇော၏ အာရုံကိုပင် ထပ်၍ အာရုံပြုခြင်း တဒါရုံကိစ္စ၊

၁၄။ ပစ္စုပ္ပန်ဘဝမှ ရွေ့ရှားပြောင်းခွာခြင်း စုတိကိစ္စ၊

**ဇော-၅၅** = ဝဇ္ဇန်းကြဉ်ဘိ၊ ကု+ကု+ကြိ၊ ဖိုလ်တည့် ဇော ပဉ်-ပဉ်=
(ကုသိုလ် + အကုသိုလ် + ဖိုလ် + ကြိယာ - (အာဝဇ္ဇန်းဒွေမပါ)
ဇော ၅၅-ပါး
၂၁ + ၁၂ + ၄ + ၁၈ = ၅၅

| စိတ်အရေအတွက် | ရနိုင်သောကိစ္စ ဌာနများ | ပေါင်း |
|---|---|---|
| ဥပေက္ခာသန္တီရဏစိတ် ၂-ပါး | ပဋိသန္ဓေ၊ ဘဝင်၊ စုတိ၊ တဒါရုံ၊ သန္တီရဏ | ၅ |
| မဟာဝိပါက်စိတ် ၈-ပါး | ပဋိသန္ဓေ၊ ဘဝင်၊စုတိ၊တဒါရုံ၊ | ၄ |
| မဟဂ္ဂုတ်ဝိပါက် ၉-ပါး | ပဋိသန္ဓေ၊ ဘဝင်၊ စုတိ၊ | ၃ |
| သောမနဿသန္တီရဏ ၁-ပါး | သန္တီရဏ-တဒါရုံ | ၂ |
| မနောဒွါရာဝဇ္ဇန်းခေါ် (ဝုဋ္ဌောစိတ်) ၁-ပါး | ဝုဋ္ဌော - အာဝဇ္ဇန်း | ၂ |
| ကြွင်း-ဇော-၅၅+မနောဓာတ်-၃+ဒွေပဉ္စဝိညာဏ် ၁၀-ပါး=၆၈၊ ထိုက်သည့် အားလျော်စွာ (ဆိုင်ရာ၊ တစ်ကိစ္စစီ) | | ၁ |

## ဒွါရသင်္ဂဟ

၁။ စက္ခုဒွါရ (မျက်စိတံခါး=စက္ခုပသာဒ=မျက်စိအကြည်ရုပ်=စက္ခုဝတ္ထု)

၂။ သောတဒွါရ(နားတံခါး=သောတပသာဒ=နားအကြည်ရုပ်=သောတဝတ္ထု)

၃။ ဃာနဒွါရ (နှာခေါင်းတံခါး = ဃာနပသာဒ=နှာခေါင်းအကြည်ရုပ် = ဃာနဝတ္ထု)

၄။ ဇိဝှါဒွါရ (လျှာတံခါး = ဇိဝှါပသာဒ = လျှာအကြည်ရုပ် = ဇိဝှါဝတ္ထု)

၅။ ကာယဒွါရ (ကိုယ်တံခါး = ကာယပသာဒ = ကိုယ်အကြည်ရုပ် = ကာယဝတ္ထု)

၆။ **မနောဒွါရ (စိတ်တံခါး = ဘဝင်စိတ်-၁၉ = စိတ်အကြည်ဓာတ်** = ဟဒယဝတ္ထု)

ဘုရားကိုယ်အစစ်

၁။ စက္ခုပသာဒ = မျက်စိအကြည်ရုပ်သည် စက္ခုဒွါရမည်၏။

၂။ သောတပသာဒ=နားအကြည်ရုပ်သည် သောတဒွါရမည်၏။

၃။ ဃာနပသာဒ = နှာခေါင်းအကြည်ရုပ်သည် ဃာနဒွါရမည်၏။

၄။ ဇိဝှါပသာဒ = လျှာအကြည်ရုပ်သည် ဇိဝှါဒွါရမည်၏။

၅။ ကာယပသာဒ=ကိုယ်အကြည်ရုပ်သည် ကာယဒွါရမည်၏။

၆။ **ဘဝင်္ဂပစ္ဆေဒ ဆယ့်ကိုးပါး** = (နှာမ်အကြည်ဓာတ်သည် မနောဒွါရမည်၏။ (နာမ်ဒွါရ)

*- စက်+သော+ဃာ+ဇိ၊ ကာ + မနိ၊ ခြောက်လီဒွါရမှတ်။

*- အကြည်အလင်၊ ဖိတ်ဖိတ်လွင်၊ ထွက်ဝင်တံခါးဓာတ်။

*- ဘဝင်ဆယ့်ကိုး၊ စိတ်အမျိုး၊ ခေါ်ရိုး မနောဒွါ။

*- စက္ခုစသည်၊ ဖိတ်ဖိတ်လည်၊ အကြည်ရုပ်တို့သာ။

*- မနောဟူသည်၊ ဖိတ်ဖိတ်လည်၊ အကြည်နာမ်တို့သာ။

| | | |
|---|---|---|
| စက္ခုဒွါရ | စိတ် ၄၆ | ပဥ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်ဒွေ၊ သမ်-ဒွေ၊သန္တီ ၃-ခု၊ ဝုဋ္ဌော၊ ကာမဇော-၂၉၊ မဟာဝိပါက် တဒါရုံ-၈ |
| သောတဒွါရ | ၄၆ | ။ သောတဝိညာဏ် ။ |
| ဃာနဒွါရ | ၄၆ | ။ ဃာနဝိညာဏ် ။ |
| ဇိဝှါဒွါရ | ၄၆ | ။ ဇိဝှါဝိညာဏ် ။ |
| ကာယဒွါရ | ၄၆ | ။ ကာယဝိညာဏ် ။ |
| မနောဒွါရ | ၆၇ | မနောဒွါရာဝဇ္ဇန်း၊ ဇော-၅၅ - တဒါရုံ-၁၁ |
| ဒွါရဝိမုတ် (ကေန်) | ၉ | မဟဂ္ဂုတ် - ဝိပါက်-၉ (ရူပဝိပါက်-၅ + အရူပ ဝိပါက်-၄) |
| တစ်ဒွါရဖြစ် | ၃၆ | ဒွေပဥ္စဝိညာဏ်-၁၀၊ အပ္ပနာဇော-၂၆ |
| ငါးဒွါရဖြစ် | ၃ | မနောဓါတ် ၃-ခု၊ (ပဥ္စဒွါရာဝဇ္ဇန်း+သမ္ပဋိစ္ဆိုင်းဒွေ) |

| | | |
|---|---|---|
| ၆ ဒွါရဖြစ် | ၃၁ | ကာမဇော-၂၉၊ မနောဒွါရာဝဇ္ဇန်း၊ သောမနဿ သန္တီရဏ) |
| ရုံခါ၆-ဒွါရ ရုံခါဒွါရဝိမုတ် | ၁၀ | ကာမပဋိသန္ဓေ-၁၀၊ ( ဥပေက္ခာ-သန္တိ-၂ + မဟာဝိ-၈) |

***မှတ်ချက်။*** ။ သန္တီရဏ ၂-ပါး+မဟာဝိပါက် ၈-ပါး၊ မဟဂ္ဂုတ်ဝိပါက် ၉-ပါး တို့သည် ပဋိသန္ဓေ-ဘဝင်-စုတိ၏ အစွမ်းဖြင့်ဖြစ်သောအခါ ၆-ဒွါရ မှ လွတ်ကုန်၏၊ (သန္တီရဏ-တဒါရုံကိစ္စတပ်သောအခါ ၆-ဒွါရ၌ ဖြစ်ကုန်၏)

✱- တစ်ဒွါရရောက်၊ သုံးဆယ့်ခြောက်၊ ငါးရောက် မနောသုံး။

✱- ခြောက်ဒွါရဖြစ်၊ သုံးဆယ့်တစ်၊ လွတ်+ဖြစ်-တစ်ဆယ်နှုန်း။

✱- မဟဂ်ဝိပါ၊ ကိုးခုမှာ၊ ခြောက်ဒွါလွတ်မြဲထုံး။

## အာရမ္မဏသင်္ဂဟ

- ရူပ+သဒ္ဒ၊ ဂန္ဓ+ရသ၊ ဖောဋ္ဌဗ္ဗ၊ ဓမ္မ + ခြောက်အာရုံ။

အာရမ္မဏသင်္ဂဟ၌-ရူပါရုံ + သဒ္ဒါရုံ + ဂန္ဓာရုံ + ရသာရုံ + ဖောဋ္ဌဗ္ဗာရုံ + ဓမ္မာရုံဟူ၍ အာရုံခြောက်ပါးရှိ၏။

၁။ ရူပါယတန (အဆင်းမျိုးစုံသည်) ရူပါရုံမည်၏။ ၂။ သဒ္ဒါယတန (အသံမျိုးစုံသည်) သဒ္ဒါရုံမည်၏။ ၃။ ဂန္ဓာယတန (အနံ့မျိုးစုံသည်) ဂန္ဓာရုံမည်၏။ ၄။ ရသာယတန(အရသာမျိုးစုံသည်) ရသာရုံမည်၏။ ၅။ (ပထဝီ+တေဇော+ဝါယောဟု ဆိုအပ်သော)ဖောဋ္ဌဗ္ဗာယတန (အတွေ့ အထိမျိုးစုံသည်) ဖောဋ္ဌဗ္ဗာရုံ မည်၏။

၆။ စိတ်(၈၉)၊ စေတသိက် ၅၂-ပါး၊ (အာရုံငါးပါးမှ ကြွင်းသော) ပသာဒရုပ် ၅-ပါး + သုခုမရုပ် ၁၆-ပါး၊ ပေါင်းရုပ် ၂၁-ပါး၊ နိဗ္ဗာန်၊ ပညတ် ဤတရားအစု ၅-မျိုးသည် ဓမ္မာရုံမည်၏။

✱ စိတ် + စေတသိက်၊ ရုပ် + နိဗ်အကြွင်း၊ ပညတ်အပြား၊ ဤငါးပါး၊ မှတ်သားဓမ္မာရုံ။

**အာရုံ။** ။ တောင်ဝှေး၊ ကြိုးတန်းသည် မသန်စွမ်းသောလူအား ဆွဲကိုင် မှီတွယ်ရာအဖြစ်ဖြင့် ကျေးဇူးပြုသကဲ့သို့၊ ဤရူပ+သဒ္ဒ+ဂန္ဓ+ရသ+ဖောဋ္ဌဗ္ဗ

+ ဓမ္မအားဖြင့် ခြောက်ပါးသောတရားအစုတို့သည်လည်း စိတ်+စေတသိက် တို့အား ဆွဲကိုင်မှီတွယ်ရာအဖြစ်ဖြင့် ကျေးဇူးပြုတတ်သောကြောင့် အာရုံ မည်၏။

*- ဆွဲကိုင်မှီတွယ်၊ ကျေးဇူးကြွယ်၊ ခြောက်သွယ်ခေါ်အာရုံ။

*- နိဗ္ဗာန်နှင့် ပညတ် တရား၊ ဤနှစ်ပါးတို့သည် **ဖြစ်ခြင်းဥပါဒ်သဘော** မရှိသောကြောင့် ကာလဝိမုတ် (ကာလသုံးပါးမှ လွတ်သော) တရားတို့သာ ဖြစ်၏။

*- နိဗ္ဗာန် + ပညတ်၊ နှစ်ရပ်-ဓမ္မ၊ ဖြစ်ကင်းပ၊ ကာလဝိမုတ်ကြုံ။

| စိတ် | | ကာလ | | အာရုံ | တရားကိုယ်အရကောက် | |
|---|---|---|---|---|---|---|
| ၁။ | စက္ခုဒွါရစိတ် ၄၆ | | ပစ္စုပ္ပန် | ရူပါရုံ | ဝဏ္ဏ | |
| ၂။ | သော-၄၆ | | ပစ္စုပ္ပန် | သဒ္ဒါရုံ | သဒ္ဒ | |
| ၃။ | ဃာ-၄၆ | | ပစ္စုပ္ပန် | ဂန္ဓာရုံ | ဂန္ဓ | |
| ၄။ | ဇိ-၄၆ | | ပစ္စုပ္ပန် | ရသာရုံ | ရသ | |
| ၅။ | ကာ-၄၆ | | ပစ္စုပ္ပန် | ဖောဋ္ဌဗ္ဗာရုံ | ပထဝီ၊တေဇော၊ဝါယော | |
| ၆။ | မနောဒွါရ -၆၇ | ၁ | တေကာလိက | ဓမ္မာရုံ | ပသာဒရုပ် ၅-ပါး | ၇၆ |
| | | ၂ | တေကာလိက နှင့်ကာလဝိမုတ် | | သုခုမရုပ် ၁၆ | |
| | | ၃ | ။ | | (စိတ်-၈၉) ၁ | |
| | | ၄ | ။ | | စေတသိက် ၅၂ | |
| | | ၅ | ကာလဝိမုတ် | | နိဗ္ဗာန် ၁ | |
| | | | ။ | | ပညတ် ၁ | |
| | ဒွါရဝိမုတ် -၁၉ | | ပစ္စုပ္ပန်-အတိတ်-ကာလဝိမုတ် | | ကံ၊ ကမ္မနိမိတ်၊ ဂတိနိမိတ်ဟူသောအာရုံ ၆-ပါးလုံးတို့တွင် ထိုက်သင့်သလို တစ်ပါးပါးကို အာရုံပြု၏။ | |

| အာရုံပြုတတ်သော စိတ်များ | အာရုံပြုခံ တရားကိုယ်များ | | | | | |
|---|---|---|---|---|---|---|
| | စိတ် | စေ | ရုပ် | ပညတ် | နိဗ္ဗာန် | |
| စက္ခုဝိညာဏ်ဒွေသည် | | | ပစ္စုပ္ပန် ရူပါရုံ | | | |
| သောတဝိညာဏ်ဒွေ သည် | | | ပစ္စုပ္ပန် သဒ္ဒါရုံ | | | |
| ဃာနဝိညာဏ်ဒွေသည် | | | ပစ္စုပ္ပန် ဂန္ဓာရုံ | | | ကာမ |
| ဇိဝှါဝိညာဏ်ဒွေသည် | | | ပစ္စုပ္ပန် ရသာရုံ | | | (ကောန်) |
| ကာယဝိညာဏ်ဒွေသည် | | | ပစ္စုပ္ပန် ဖောဋ္ဌဗ္ဗာရုံ | | | အာရုံပြု |
| မနောဓာတ် ၃-ခု | | | ပစ္စုပ္ပန် ပဥ္စာရုံ | | | (၂၅) |
| တဒါရုံ၁၁+ဟသိတုပ္ပါဒ် ၁ = ၁၂ | ကာမ ၅၄ | စေ ၅၂ | ရုပ် ၂၈ | | | |
| အကု-၁၂+မဟာကု-ဉာဏ်ဝိ-၄+မဟာကြိ ဉာဏ် ဝိ-၄= ၂၀ | လောကီ ၈၁ | ၅၂ | ၂၈ | ပညတ် | | လောကုတ်ကြဉ် အလုံးစုံကိုအာရုံပြု |
| မဟာကုဉာဏ်သမ်=၄ ရူပကုသိုလ်အဘိဉာဏ် = ၅ | ၈၇ | ၅၂ | ၂၈ | ပညတ် | နိဗ္ဗာန် | အရဟတ္တ-မဂ်-ဖိုလ် ကြဉ်-အလုံးစုံကို-ပြု |
| မဟာကြိယာဉာဏ်သမ် -၄+ရူပကြိယာအဘိ- ဉာဏ်-၁၊မနောဒွါရာ- ဝဇ္ဇန်း-၁၊ (၆) | ၈၉ | ၅၂ | ၂၈ | ပညတ် | နိဗ္ဗာန် | အလုံးစုံကိုအာရုံပြု |

| | | | | | | |
|---|---|---|---|---|---|---|
| အဘိဉာဏ်ဒွေကြဉ်-ရူပ-၁၅၊ အာကာသာနဉ္စာယတန-ကု-ဝိ-ကြိ-၃ အာကိဉ္စညာယတန-ကု-ဝိ-ကြိ-၃(၂၁) | | | | ပညတ် | | ပညတ်(ကေန်) (၂၁) |
| ဝိညာနဉ္စာယတန-ကု, ဝိ,ကြိ-၃၊နေဝသညာနာသညာယတနကု,ဝိ,ကြိ၃ | အတိတ် မဟဂ္ဂုတ် ဓမ္မာရုံ | | | | | မဟဂ္ဂုတ်(ကေန်)(၆) |
| လောကုတ်-၈ | | | | | နိဗ္ဗာန် | နိဗ္ဗာန်(ကေန်-) |

## ဝတ္ထုသင်္ဂဟ

**ဝတ္ထု။** ။ မြေကြီးသည် သက်ရှိ+သက်မဲ့ဝတ္ထုတို့အား တည်ရာမှီရာအဖြစ်ဖြင့် ကျေးဇူးပြုသကဲ့သို့ (ပသာဒရုပ် ၅-ပါး + ဟဒယရုပ်) ဤခြောက်ပါးတို့သည် စိတ်+စေတသိက်တို့အား တည်ရာမှီရာ အဖြစ်ဖြင့် ကျေးဇူးပြုတတ်သောကြောင့် ဝတ္ထုမည်ကြကုန်၏။

* – တည်ရာ+မှီရာ၊ မြေပမာ၊ လွှန်စွာကျေးဇူးထုတ်။

| | တရားကိုယ် | ဝတ္ထု |
|---|---|---|
| ၁။ | စက္ခုပသာဒသည် | စက္ခုဝတ္ထုမည်၏ |
| ၂။ | သောတ | သောတ |
| ၃။ | ဃာန | ဃာန |
| ၄။ | ဇိဝှါ | ဇိဝှါ |
| ၅။ | ကာယ | ကာယ |
| ၆။ | ဟဒယ(နှလုံးသွေး၌တည်သောကမ္မဇရုပ်သည်) | ဟဒယဝတ္ထု |

| | စိတ်-တို့ကို | ဝိညာဏဓာတ်ဖြင့်ဝေဘန်ခြင်း |
|---|---|---|
| ၁။ | စက္ခုဝိညာဏ်ဒွေသည် | စက္ခုဝိညာဏဓာတ်မည်၏ |
| ၂။ | သောတ | သောတ |
| ၃။ | ဃာန | ဃာန |
| ၄။ | ဇိဝှါ- | ဇိဝှါ- |
| ၅။ | ကာယ- | ကာယ- |
| ၆။ | ပဉ္စဒွါရာဝဇ္ဇန်း + သမ္ပဋိစ္ဆိုင်း ဒွေသည် | မနောဓာတ်မည်၏။ |
| ၇။ | ကြွင်း ၇၆-ပါးသည် | မနောဝိညာဏဓာတ်မည်၏။ |

* ဝတ္ထုခြောက်စုံ၊ ကာမဘုံ၊ အကုန်ရသည်သာ။
* စက် သော နှစ်တန်၊ ဟဒယံ၊ သုံးတန်ရူပမှာ။
* အရူပမူ၊ ဝတ္ထုဟူ၊ မြူမျှ မရှိပါ။
* စက်သော ဃာဇိ၊ ကာ-ဟဒိ၊ ခြောက်လီ ဝတ္ထုရုပ်။
* တည်ရာ မှီရာ၊ မြေပမာ၊ လွန်စွာကျေးဇူးထုတ်။
* သန္တိ၊ မဟာဝိ၊ ဒွေပဋိ၊ ဟသိ-၁၅ ရူ။
* သော့နှင့် မနောဓ၊ ၃၃-ရ၊ ဟဒ္ဒ အမြဲယူ။
* လော-မော-၁၀ ဖြာ၊ မနောဒွါ၊ မဟာကု-ကြိရှစ်
ကု-ကြိ-ရှစ်ဖြာ၊ အရူပါ၊ ကုတ်မှာထက်ခုနှစ်။
ဝတ္ထုရုပ် စိ - မှီ - မမှီ၊ ပေါင်းညီ -၄၂။
* အရူပဝိ - စတုညီ၊ အမှီ မရှိဟူ။

| ကာမ(၁၁)ဘုံ၌ | စက္ခုဝတ္ထု | သောတဝတ္ထု | ဃာနဝတ္ထု | ဇိဝှာဝတ္ထု | ကာယဝတ္ထု | ဟဒယဝတ္ထု | | |
|---|---|---|---|---|---|---|---|---|
| အသညသတ်ကြဉ် ရူပ ၁၅ ဘုံ၌ | ။ | ။ | | | | ။ | | |
| အရူပ(၄)ဘုံ၌ | | | | | | | | |
| အမြဲမှီ | | | | | | အမြဲမှီ | ရံခါမှီ/မမှီ | လုံးဝမမှီ |
| အကုသိုလ်-၁၂ | | | | | | ဒေါသမူဒွေ | လော-၈ မော-၂ | |
| အဟိတ်စိတ်-၁၈ | စက်-ဒွေ | သော ဒွေ | ဃာ-ဒွေ | ဇိ-ဒွေ | ကာ-ဒွေ | မနောဓါတ်-၃ သန္တီ-၃ ဟသိတုပ်-၁ | မနောဒွါရါဝဇ္ဇန်း | |
| ကာမသောဘန ဘာ၁-၅၄ | | | | | | မဟာဝိ-၈ | မဟာကု-၈ မဟာကြိ-၈ | |
| ရူပစိတ်-၁၅ | | | | | | ရူပ-၁၅ | | |
| အရူပစိတ်-၁၂ | | | | | | | အရူပကု-၄ + ကြိ-၄ | အရူပဝိ-၄ |
| လောကုတ် ဘာ၁_၇၈ | | | | | | သော-မဂ်-၁ | ကြွင်း-၇ | |
| | ၂ | ၂ | ၂ | ၂ | ၂ | ၃၃ | ရံခါမှီ | လုံးဝမမှီ |
| | အမြဲမှီသောစိတ်ပေါင်း | | | | | ၄၃ | ၄၂ | ၄ |

ပကိဏ်းပိုင်း ပြီး၏။

## ဝီထိပိုင်း ...

ခရီးသွားလာရာ၌ ရွာစဉ်ကို မကျော်ဘဲ အစဉ်အတိုင်း သွားရသကဲ့သို့၊ ထို့အတူ စိတ္တနိယာမ=စိတ်တို့၏ဖြစ်စဉ်အတိုင်း စိတ်တစ်ခုနှင့် တစ်ခု မကျော်လွန်ဘဲ အစဉ်အတိုင်း ဖြစ်ခြင်းကို **ဝီထိ**-ဟု ခေါ်သည်။ (ဝီထိ=အစဉ်အတန်း၊ ခရီးလမ်း)

ဤအပိုင်းတွင် စိတ်တို့၏အစဉ်အတိုင်း ဖြစ်ပုံများကို မပြခင် အခြေခံအားဖြင့် ဆက္က ၆-ပါး၊ ခြောက် x ခြောက်လီကို အရင်သိထား ရမည်။

### ဆက္က ၆-ပါး (ခြောက် x ခြောက်လီ)

| ဝတ္ထု | အာရုံ | ဒွါရ | ဝိညာဏ် | ဝီထိ | ဝိသယပ္ပဝတ္တိ |
|---|---|---|---|---|---|
| ၆-ပါး | ၆-ပါး | ၆-ပါး | ၆-ပါး | ၆-ပါး | ၆-ပါး |

**ဝိညာဏ် ၆-ပါး။** ။စက္ခုဝိညာဏ်၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ၊ မနောဝိညာဏ် = ၆ ပါး

**ဝီထိ ၆-ပါး။** ။စက္ခုဒွါရဝီထိ၊ သောတဒွါရဝီထိ၊ ဃာနဒွါရဝီထိ၊ ဇိဝှါဒွါရဝီထိ၊ ကာယဒွါရဝီထိ၊ မနောဒွါရဝီထိ(ဒွါရ၏ အစွမ်းဖြင့် ၆-ပါး)

- စက္ခုဝိညာဏဝီထိ၊ သောတဝိညာဏဝီထိ၊ ဃာန ဝိညာဏဝီထိ၊ ဇိဝှါဝိညာဏဝီထိ၊ ကာယဝိညာဏဝီထိ၊ မနောဝိညာဏဝီထိ (ဝိညာဏ်၏ အစွမ်းဖြင့် ၆-ပါး)

အထက်ပါ ၆-မျိုး၊ ခြောက်လီတွင် ဝတ္ထု-အာရုံ-ဒွါရ-ဝိညာဏ်-ဝီထိတို့မှာ သိသာလှသည်၊ ဝိသယပ္ပဝတ္တိ ၆-ပါးမှာ ဝီထိစိတ်များဖြစ်ပေါ်ရာတွင် အရေးကြီး သည်။ **ဝိသယပ္ပဝတ္တိ-ဆိုသည်မှာ ဝိသယ=အာရုံ၊ပဝတ္တိ=ဖြစ်ခြင်း၊ အာရုံဖြစ်ခြင်း ဟူသည် အာရုံအသီးသီးတို့၏ ဒွါရအသီးသီးတို့၌ လာ၍ဖြစ်ခြင်းပင် ဖြစ်သည်။**

ထိုသို့ဖြစ်ရာ၌ အဆင်းမျိုးစုံ ရူပါရုံ၊ အသံမျိုးစုံ သဒ္ဒါရုံ၊ အနံ့မျိုးစုံ ဂန္ဓာရုံ၊ အရသာမျိုးစုံ ရသာရုံ၊ အတွေ့အထိမျိုးစုံ ဖောဋ္ဌဗ္ဗာရုံတည်းဟူသော အာရုံ

ငါးပါး၊ ရုပ်တရားတို့သည် စက္ခုဒွါရ (စက္ခုပသာဒ)၊ သောတဒွါရ(သောတပသာဒ)၊ ဃာနဒွါရ(ဃာနပသာဒ)၊ ဇိဝှါဒွါရ(ဇိဝှါပသာဒ)၊ ကာယဒွါရ(ကာယပသာဒ) ရုပ်တရားတို့၌ လာဖြစ်ပြီး ရုပ်+ရုပ်ချင်း ထိခိုက်သဖြင့် စိတ်အစဉ် (ဝီထိ)များ ဖြစ်ပေါ်လာပုံကို ပြသော ပဉ္စဒွါရ(ပဉ္စပသာဒ)နှင့် ဆိုင်သော ဝိသယပ္ပဝတ္တိ ၄-ပါးနှင့်၊ အာရုံ ၆-ပါးလုံးတို့သည် မနောဒွါရဟု ဆိုအပ်သော စိတ်တံခါး၀၌ လာ၍ ဖြစ်ပေါ်ပုံပြသည့် မနောဒွါရနှင့် ဆိုင်သော ဝိသယပ္ပဝတ္တိ ၂-ပါး စုစုပေါင်း ဝိသယပ္ပဝတ္တိ ၆-ပါး ရှိသည်။

## ဝိသယပ္ပဝတ္တိ ၆-ပါး

### ပဉ္စဒွါရ၌ (၄)ပါး

၁။ **အတိမဟန္တာရုံ**= ထင်ထင်ရှားရှား အားကြီးသော အာရုံ ငါးပါးသည် အတိမဟန္တာရုံ မည်၏။

၂။ **မဟန္တာရုံ** = သင့်ရုံ အားကြီးထင်ရှားသော အာရုံ ငါးပါးသည် မဟန္တာရုံ မည်၏။

၃။ **ပရိတ္တာရုံ** = မထင်မရှား မသိမသာ အားနည်းသော အာရုံငါးပါးသည် ပရိတ္တာရုံ မည်၏။

၄။ **အတိပရိတ္တာရုံ**= အလွန်တရာ မသိမသာ မထင်မရှား အားနည်းလှသော မြင်သလိုကြားသလို စသော အာရုံငါးပါးသည် အတိပရိတ္တာရုံ မည်၏။

အထက်ပါ အာရုံလေးမျိုးဖြစ်ပုံမှာ ကိုက်တစ်ရာစီ အသီးသီးဝေးသော လူလေးယောက် ရှိရာတွင် ထိုလူလေးယောက်တို့၏ အဆင်းရူပါရုံနှင့် မိမိ၏ စက္ခုဒွါရ (စက္ခုပသာဒ)မျက်စိအကြည်ဓာတ် ထိခိုက်ရာ၌ ပထမဦးဆုံးလူသည် အနီး၌ ကပ်၍ တည်သောကြောင့် အလွန်ထင်ရှားစွာ မြင်ရခြင်းသည် **အတိမဟန္တာရုံ** မည်၏။ ဝီထိစိတ်များလည်း အပြည့်အစုံ ဖြစ်လေသည်။ ဒုတိယလူသည် ကိုက်တစ်ရာခန့် ဝေးသွားသဖြင့် ထင်ရှားစွာ မြင်နိုင်သေးသော်လည်း အနားကပ်နေသလောက် မထင်ရှားတော့ပေ၊ မည်သူမည်ဝါ ဖြစ်သည်ဟုသာ ခွဲခြားနိုင်တော့သည်။ သာမန်သာ ထင်ရှားတော့သဖြင့် **မဟန္တာရုံ**မည်၏။ ဝီထိစိတ်များလည်း အပြည့်အစုံ မဖြစ်တော့ပေ။

တတိယလူမှာ မိမိနှင့် ကိုက်နှစ်ရာဝေးသွားသဖြင့် ပထမ+ဒုတိယလူပျား လောက် မထင်ရှားတော့ဘဲ မည်သူမည်ဝါပင် မခွဲနိုင်တော့ပေ၊ လူတစ်ယောက် ဖြစ်သည်ဟုသာ သိနိုင်တော့သည်၊ မထင်ရှားတော့သဖြင့် **ပရိတ္တာရုံ**မည်၏။ ဝိထိစိတ် များလည်း ပို၍ အဖြစ်နည်းလာသည်။ စတုတ္ထလူမှာ ကိုက်သုံးရာလောက် ဝေးသဖြင့် ပထမ+ဒုတိယ+တတိယလူများလောက် မထင်ရှားတော့ဘဲ၊ လူလား၊ တိုင်ငုတ်တစ်ခု လား၊ စသည်ဖြင့် လူဟူ၍ပင် မထင်ရှားတော့သဖြင့် အလွန်မထင်ရှားသော အတိ **ပရိတ္တာရုံ** မည်၏။ ဝိထိစိတ်များလည်း ဖြစ်ပလို-မဖြစ်ပလိုနှင့် မဖြစ်ဘဲ ရှိလေသည်။ **(ပဥ္စဒွါရသည် ပစ္စုပ္ပန်အာရုံနှင့်သာ ဆိုင်သည်။)**

မနောဒွါရ(စိတ်တံခါးဝ)၌ အာရုံ ၆-ပါးတို့ လာထင်ရာ၌ကား ရုပ်+ရုပ်ချင်းထိခိုက်သကဲ့သို့ ဝိသယပ္ပဝတ္တိလေးမျိုး မကွဲဘဲ ထင်ရှားသော အာရုံနှင့် မထင်ရှားသောအာရုံဟူ၍ ၂-မျိုးသာ ကွဲတော့သည်။

ထင်ရှား+မထင်ရှားဖြစ်ပုံမှာ၊ ညအိပ်ရာဝင်ပြီး၊ နဖူးပေါ်လက်တင်၍ မြင်+ကြား+နံ+စား+ထိ-မှု အာရုံငါးပါးတို့ ဒွါရငါးပါးတို့၌ မဖြစ်တော့ သောအခါ စိတ်တံခါးဝမှ (မနောဒွါရ)မှ အတွေးအကြံ အာရုံမျိုးစုံတို့ ဝင်လာပေသည်။ ထိုဝင်လာသော အာရုံများတွင် ထင်ထင်ရှားရှား တွေး ကြံသိရှိသည့် အာရုံမျိုးကို **ဝိဘူတာရုံ** ခေါ်ပြီး မထင်မရှား ခပ်ရေးရေးသော တွေးကြံ သိရှိရသည့် အာရုံမျိုးကို **အဝိဘူတာရုံ**ဟု ခေါ်သည်။ **(မနောဒွါရ သည် ကာလသုံးပါးနှင့် ဆိုင်သည်)။**

* အာရုံတို့၏ ဒွါရတို့၌ ဖြစ်ခြင်းသည် **ဝိထိစိတ်တို့၏ ဝိသယပ္ပဝတ္တိ** မည်၏။

* အာရုံတို့၌ စိတ်တို့၏ ဖြစ်ခြင်းသည် **ဝိထိမုတ်စိတ်တို့၏ ဝိသယပ္ပဝတ္တိ** မည်၏။

ဝိထိမုတ်စိတ်တို့၏ ဝိသယပ္ပဝတ္တိသုံးမျိုးမှာ (၁) ကံ (၂)ကမ္မနိမိတ် (၃) ဂတိနိမိတ်တို့ ဖြစ်သည်။

ဝိထိပိုင်း၌ ဝိထိစိတ်နှင့် ဝိထိမုတ်စိတ်တို့ကို ကွဲပြားစွာ သိထားရန်လိုသည်။ **ဝိထိစိတ်မှာ လှုပ်ရှားနိုးကြားစိတ်များ** ဖြစ်ပြီး **ဝိထိမုတ်စိတ်မှာ ငြိမ်သက်အိပ်စက် သော စိတ်များ** ဖြစ်သည်။ သတ္တဝါတို့သန္တာန်၌ အထက်ပါနှစ်မျိုးတို့သာ ဖြစ်လျက် ရှိသည်။

ဝီထိမုတ်စိတ်မှာ ဒွါရဝိမုတ်စိတ် ၁၉-ပါးပင် ဖြစ်သည်။

- ဥပေက္ခာ သန္တိရဏ ၂-ပါး
- မဟာဝိပါက်စိတ် ၈-ပါး
- မဟဂ္ဂုတ်ဝိပါက်စိတ် ၉-ပါး

စုစုပေါင်း ၁၉-ပါး ဖြစ်သည်။

**(၁) ဝီထိမုတ်စိတ်**

**(၂) ဒွါရဝိမုတ်စိတ်**

**(၃) ပဋိသန္ဓေစိတ်**

**(၄) ဘဝင်စိတ်**

**(၅) စုတိစိတ်**

ဤငါးမျိုးတို့မှာ အမည်သာ ကွဲ၍ စိတ်အရမှာ အတူတူပင် ဖြစ်သည်။ ထို့ကြောင့် ဤအပိုင်းတွင် ဝီထိမုတ်စိတ်အမည်ကို မသုံးဘဲ၊ ဝီထိမုတ်စိတ်အမည် အစား ဘဝင်စိတ်အမည်ကိုသာ အသုံးပြုမည်။

ဘဝင်စိတ်များ ⇌ ဝီထိစိတ်များ

ဝီထိစိတ်များကို ရေတွက်ရာတွင် ရုပ်+ရုပ်ချင်း ထိခိုက်၍လည်းကောင်း၊ ရုပ်+နာမ် အာရုံတို့၏ မနောဒွါရ နာမ်တရား၌ လာရောက်ထိခိုက်၍လည်းကောင်း ဝီထိစိတ်များ ဖြစ်လာခြင်း-ဖြစ်၍၊ ရုပ်+နာမ်တို့၏ အသက်တမ်းများကို သိထားဖို့ လိုပေသည်။

| | စိတ္တက္ခဏ ၁-ခု | | | |
|---|---|---|---|---|
| စိတ်+စေတသိက် | ဥပါဒ် | ဋ္ဌီ | ဘင် | ခဏငယ် ၃-ခုအသက်ရှည်၏။ |
| (နာမ်)သက် | ၀ | ၀ | ၀ | |

လင်္ကာ - **ဖြစ်+တည်+ချုပ်လတ်၊ ဤသုံးရပ်၊ ဥပါဒ်+ဋ္ဌီ+ဘင်ယူ။ ခဏငယ် သုံးချက်၊ အပေါင်းနက်၊ စိတ္တက္ခဏယူ။**

စိတ္တက္ခဏတစ်ခုတွင် ဥပါဒ်+ဋ္ဌီ+ဘင် (ဖြစ်+တည်+ချုပ်)ဟု အခိုက် အတန့်သုံးပါး ပါဝင်သည်။ အခိုက်အတန့် တစ်ခုစီကိုကား ခဏအငယ် လေးများဟုခေါ်သည်။ ထို့ကြောင့် ခဏအငယ်လေး သုံးချက်ကို စိတ္တက္ခဏ တစ်ခုဟု ခေါ်သည်။

စိတ္တက္ခဏတစ်ခု၏ အချိန်အခါကာလမှာ အလွန်နည်းလှပေသည်။ *ဘုရားရှင်၏ ဉာဏ်တော်သည် မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက်ခန့်အတွင်းမှာပင် စိတ္တက္ခဏပေါင်း ကုဋေတစ်သိန်းခန့် ချုပ်+ပျက်သည်ကို သိနိုင်သည်ဟုဆိုသဖြင့် မျက်စိတစ်မှိတ်၊ လျှပ်တစ်ပြက်အချိန်ကလေးတစ်ခုကို ကုဋေတစ်သိန်းပုံ တစ်ပုံခန့်မျှသာ အချိန်ရှိသည်။* စိတ် + စေတသိက်(နာမ်)သက်၏ဖြစ်ပျက်ပုံမှာမြန်ဆန်လွန်းလှသည်။

## ရုပ်၏သက်တမ်း

- **ဝိညတ်ဒွေ**သည် စိတ်သို့ အစဉ်လိုက်သောတရားဖြစ်၍ စိတ်-စေတသိက်(နာမ်)သက်နှင့် တူ၏။
- **ဥပစယ-သန္တတိ ၂-ပါး**သည် စိတ်-စေတသိက်(နာမ်)၏ **ဥပါဒ်** ခဏမျှ အသက်ရှည်၏။
- **အနိစ္စတာ**သည် စိတ်-စေတသိက်(နာမ်)၏ **ဘင်** ခဏမျှ အသက်ရှည်၏။
- **ဇရတာ**သည် ရုပ်၏ ဌီခဏ=ခဏငယ် ၄၉-ချက်မျှ အသက်ရှည်၏။
- ဝိညတ်ဒွေ-လက္ခဏရုပ် ၄-မှ **ကြွင်းသောရုပ် ၂၂-ပါး**တို့၏ အသက်ကား စိတ္တက္ခဏအားဖြင့် ၁၇-ချက်၊ ခဏငယ်အားဖြင့် ၅၁-ချက် အသက်ရှည်၏။

| | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| ၁<br>ooo | ၂<br>ooo | ၃<br>ooo | ၄<br>ooo | ၅<br>ooo | ၆<br>ooo | ၇<br>ooo | ၈<br>ooo | ၉<br>ooo | ၁၀<br>ooo |
| ၁၁<br>ooo | ၁၂<br>ooo | ၁၃<br>ooo | ၁၄<br>ooo | ၁၅<br>ooo | ၁၆<br>ooo | ၁၇<br>ooo | | | |

ရုပ်၏ဥပါဒ် | ရုပ်၏ဌီ-ခဏငယ် ၄၉ ချက် | ရုပ်၏ဘင်

ရုပ်၏ သက်တန်းမှာ ***ယေဘုယျအားဖြင့်*** စိတ္တက္ခဏ **၁၇-ချက်၊ ခဏငယ် ၅၁-ချက်** အသက်ရှည်၏။ ထို့ကြောင့် စိတ်+စေတသိက်(နာမ်)သက် ၁၇-ဆသည် ရုပ်သက်တစ်ခု ဖြစ်သည်။

ရုပ် ၂၈–ပါးတွင်

ကာယဝိညတ်+ဝစီဝိညတ်–ဟူသော ဝိညတ်ရုပ်နှစ်ပါးသည် စိတ်သို့ အစဉ်လိုက်သောတရား ဖြစ်၍ စိတ်စေတသိက်(နာမ်)သက်နှင့် ဘူ၏။ အစဉ်လိုက်၍ တူပုံမှာ--ကားမောင်းသမားတစ်ဦးသည် ကားမောင်းနေစဉ် ကားရှေ့မှ လူတစ်ယောက် အမှတ်မထင် ဖြတ်ဝင်လာသောအခါ စိတ်က လူကိုတိုက်တော့မည်ဟု သိလိုက်သည်နှင့် တစ်ပြိုင်နက်ပင် ခြေထောက်ကလည်း ဘရိတ်ကို နင်းပြီးသား လက်ကလည်း စီယာတိုင်ကို ကွေ့ပြီးသား၊ ပါးစပ်ကလည်း အော်ပြီးသား ဖြစ်တော့သည်။ ထို့ကြောင့် ကာယဝိညတ်နှင့် ဝစီဝိညတ် ရုပ်နှစ်ပါးသည် စိတ်နှင့်ပြိုင်တူလောက် အဖြစ်မြန်သဖြင့် စိတ်+စေတသိက်(နာမ်)သက်နှင့် အတူပင် ဖြစ်သည်။

ဥပစယ+သန္တတိ၊ ရုပ်နှစ်ပါးသည် ရုပ်တို့၏ ဖြစ်စ၊ တည်စ အခါကာလ ဖြစ်၍ စိတ်+စေတသိက်(နာမ်)သက်၏ ဥပါဒ်ခဏမျှသာ အသက်ရှည်သည်။ နာမ်တရားထက်ပင် အသက်တိုသော ရုပ်ဖြစ်သည်။ အနိစ္စတာလည်း စိတ်၏ဘင်ခဏမျှသာ အသက်ရှိသည် ဖြစ်၍ နာမ်တရားအောက် အသက်တိုသောရုပ်ဖြစ်သည်။ ကြွင်းသိသာပြီ။

ရုပ်သက်+နာမ်သက်များ သိပြီးလျှင် ရုပ်+ရုပ်ချင်း ထိခိုက်၍ စိတ်များဖြစ်ပေါ်သောအခါ ရုပ်သက်တစ်ခု ပြီးစီးဖို့အတွက် စိတ်ပေါင်း ၁၇–ချက်အထိ ပြည့်အောင် ရေတွက်ရမည်ကို သဘောပေါက်နိုင်မည် ဖြစ်သည်။

ဝီထိစိတ်များ ဖြစ်ရန်လိုအပ်သော အင်္ဂါများ

| စက္ခုဒွါရဝီထိ | စက္ခုပသာဒ | ရူပါရုံ | အာလောက (အလင်းဓါတ်) | မနသိကာရ |
|---|---|---|---|---|
| သောတဒွါရ ဝီထိ | သောတ ပသာဒ | သဒ္ဒါရုံ | အာကာသ | ။ |
| ဃာနဒွါရဝီထိ | ဃာနပသာဒ | ဂန္ဓာရုံ | ဝါယောဓာတ် | ။ |
| ဇိဝှါဒွါရဝီထိ | ဇိဝှါပသာဒ | ရသာရုံ | အာပေါဓာတ် | ။ |
| ကာယဒွါရဝီထိ | ကာယပသာဒ | ဖောဋ္ဌဗ္ဗာရုံ | ပထဝီဓာတ် | ။ |
| မနောဒွါရဝီထိ | ဟဒယဝတ္ထု | ဓမ္မာရုံ | ဘွင် | ။ |

ကာမဇောဝါရ ပဥ္စဒွါရနှင့် စပ်ဆိုင်သော ဝိထိစိတ်များ–ဘဝင်စိတ်များ ဖြစ်ပေါ်ပုံကို အောက်ပါ ဥပမာဖြင့် သိသာနိုင်ပေသည်။

## စက္ခုဒွါရ၌ ၁၇–ဝီထိ(အမြင်အာရုံနှင့် စပ်၍) ဝီထိစိတ်နှင့် ဘဝင်စိတ်များ ဖြစ်ပေါ်နေပုံ

သတ္တဝါတို့ သန္တာန်၌ အသက်မသေသေးသမျှ စိတ်များဖြစ်နေကြသည်။ ထိုစိတ်များမှာ အကျဉ်းအားဖြင့် အမျိုးအစား နှစ်မျိုးသာ ရှိသည်။ လှုပ်ရှားနိုးကြားစိတ်နှင့် ငြိမ်သက်(အိပ်စက်)သောစိတ်ဟု ခွဲနိုင်သည်။ ထိုနှစ်မျိုးတို့ တစ်လှည့်စီ ဖြစ်နေကြသည်။ လှုပ်ရှားနိုးကြားစိတ်ကို ဝိထိစိတ်ဟု ခေါ်ပြီး၊ ငြိမ်သက်အိပ်စက်သောစိတ်ကို ဘဝင်စိတ်(သို့)ဝိထိမုတ်စိတ်(သို့)ဒွါရဝိမုတ်စိတ်ဟု ခေါ်သည်။

ထိုစိတ်နှစ်မျိုး ဖြစ်ပုံကို ထင်ရှားသောဥပမာတစ်ခု ပြရလျှင်၊ ပင့်ကူတစ်ကောင်သည် ပင့်ကူအိမ်၏ အလယ်၌ ငြိမ်သက်(အိပ်စက်)နေသည်ကို ဘဝင်စိတ် ဖြစ်နေသည်ဟု မှတ်ယူပြီး၊ ပင့်ကူအိမ်သို့ ယင်ကောင်တစ်ကောင် လာတိုးလိုက်သောအခါ ထိုဘဝင်စိတ်များ လှုပ်ရှားမှုပေါ်လာပြီး ဘဝင်ပြတ်ကာ ဝိထိစိတ်များ ဖြစ်ပေါ်လာသည်။ မည်သို့ ဝိထိစိတ်များ ပေါ်လာသနည်း၊ ပင့်ကူသည် မျက်စိဖွင့်၍ ယင်ကောင်ကို ကြည့်လိုက်သောအခါ ပင့်ကူ၏ စက္ခုပသာဒ(မျက်စိအကြည်ဓာတ်)နှင့် ယင်ကောင်တည်းဟူသော ရူပါရုံတို့ ဆုံတွေ့၍ ပထမဆုံးအနေဖြင့် မူလရှေးဘဝင်စိတ် **(အတီတဘဝင်စိတ်ကလေး)** စိတ္တက္ခဏတစ်ကြိမ် လွန်သွားသည်။ ဒုတိယမြောက် ထိုမူလဘဝင်စိတ်ကလေးတစ်ကြိမ် လှုပ်ရှားသွားပြန်၏။ **(ဘဝင်္ဂစလန)**ဟု ခေါ်သည်။ တတိယမြောက်–ရူပါရုံအားကောင်းသဖြင့် မူလဘဝင်စိတ်ကလေး လုံးလုံးပြတ်စဲသွားတော့၏။ **(ဘဝင်္ဂုပစ္ဆေဒ)**ဟု ခေါ်၏။ ဘဝင်စိတ် လုံးဝပြတ်စဲသွားသောအခါ ဝိထိစိတ် ပေါ်တော့မည်။ ထိုမြင်သောအာရုံအပေါ် ဘာပါလိမ့်ဟု **ဆင်ခြင်သောပဥ္စဒွါရာဝဇ္ဇန်းစိတ်** ကလေးသည် စတုတ္ထမြောက် (ပထမဆုံးသောဝိထိစိတ် အနေဖြင့်) ဆက်လက်ဖြစ်ပေါ်လာသည်။ ဘာပါလိမ့်ဟု ဆင်ခြင်လိုက်သောအခါ မြင်မှု ပီပီပြင်ပြင်ဖြစ်လာပြီဖြစ်၍ **မြင်သိစိတ် စက္ခုဝိညာဏ်စိတ်**သည် ပဥ္စမမြောက်စိတ်အဖြစ်ဆက်လက်ဖြစ်ပေါ်လာပြန်၏။ ထိုသို့ မြင်သိပြီးသော် ထိုမြင်သိလိုက်သော **အာရုံကိုလက်ခံသော သမ္ပဋိစ္ဆိုင်းစိတ်**ကလေးသည် ဘယ်လူ၊ ဘယ်နတ်၊ ဘယ်ဗြဟ္မာကမှ မခိုင်းစေရဘဲ စိတ္တနိယာမ–စိတ်တို့၏ ဖြစ်စဉ်အတိုင်း ဆဋ္ဌမမြောက် ဆက်ဖြစ်ရပြန်သည်။ ထိုမျှဖြင့်လဲ မရပ်သေး၊ အာရုံကို လက်ခံလိုက်ပြီး ဘာကောင်လဲ၊ စားလို့ရသလား၊ မရလား စသည်ဖြင့် **စူးစမ်းသောသန္တီရဏစိတ်သည်လည်း**

စိတ်တို့၏သဘာဝအလျှောက် သတ္တမစိတ်အနေဖြင့် ဖြစ်ပြန်၏။ တစ်ဖန် စားလို့ရသည့် အကောင်၊ စားလို့မရသည့်အကောင် စသည်ဖြင့် **ဆုံးဖြတ်ခြင်း** ဝုဋ္ဌော-စိတ်လည်း မလွဲမသွေ အဋ္ဌမမြောက် ဖြစ်ပေါ်လာပြန်၏။ ဆုံးဖြတ်ပြီးလျှင်လည်း ရပ်မနေ၊ ဆုံးဖြတ်သည့်အတိုင်း စားလို့ရလျှင် စားသည့်စိတ်၊ အာရုံကို ခံစားစိတ်၊ အာရုံ၌ အရှိန်အဟုန်ပြင်းစွာဖြစ်သော **ဇောစိတ်သည် ခုနစ်ကြိမ်+ခုနစ်ခါ လျှင်စွာဖြစ်ပေါ်** လာပြန်၏။ (၁၅-ကြိမ်မြောက် ဖြစ်သွားပြီ) အရသာကောင်းကောင်း **စားလိုက်ပြီး** သောအခါ စားပြီးပြီးခြင်း အရသာခံစားမှု မပြတ်သေး၊ အကြွင်းအကျန်လေးများကို အရှိန်မပြေ ဆက်လက်ခံစားသော **ဇောသို့ အစဉ်လိုက်သည့် တဒါရုံစိတ် ၂-** ကြိမ် ဖြစ်သေး၏။ ၁၇-ကြိမ်မြောက် ဖြစ်သွားပြီ၊ **နာမ်သက် ၁၇-ကြိမ်မြောက်** ဖြစ်သွားသောအခါ ရုပ်သက်တစ်ကြိမ် ပြည့်သွားပြီဖြစ်၍ (စက္ခုပသာဒ=မျက်စိ အကြည်ဓာတ် ရုပ်တရားနှင့် ရူပါရုံ(ရုပ်တရား ၂-ခု)ထိခိုက်ရာမှ ပေါ်လာသော ရုပ်ဝီထိစိတ်သက်တန်း တစ်ကြိမ်အဖြစ် ရပ်ပြီး ဘဝင်စိတ်များ **ဆက်ဖြစ်ရပြန်၏။** ပင့်ကူသည် ပင့်ကူအိမ်အလယ်သို့ ပြန်သွား၍ အိပ်သည်နှင့် ဘဝင်များ **ဆက်ဖြစ်** သွားသည်နှင့် တူ၏။ ဤဥပမာပုံအတိုင်း ဝီထိစိတ်နှင့် ဘဝင်စိတ်တို့သည် သတ္တဝါတို့ သန္တာန်ဝယ် တစ်လှည့်စီ မပြတ်မလပ် ဒလစပ် ဖြစ်ပေါ်၍ နေပေ၏။

## စက္ခုဒွါရ(အတိမဟန္တာရုံဝီထိ) ဖြစ်ပုံကို

## သရက်သီးမှည့် ကောက်၍စားသော ဥပမာဖြင့် ပြဆိုခြင်း

သရက်ပင်ရင်း၌ လူတစ်ယောက်သည် ခေါင်းမြီးခြုံ အိပ်နေခြင်းသည် မူလအတီတဘဝင်စိတ်များ ဖြစ်နေခြင်းနှင့် တူ၏။ သရက်သီးကြွေကျ၍ ခေါင်းမြီး ခြုံကို ဖွင့်ကြည့်သောအခါ ထိုလူ၏ စက္ခုပသာဒ=မျက်စိအကြည်ဓာတ်နှင့် သရက်သီး တည်းဟူသော ရူပါရုံတို့ ထိခိုက်စဉ် ချက်ခြင်း အာရုံမထင်ရှားသေး၍ **မူလအတီတ ဘဝင်** တစ်ချက်လွန်သွား၏။ ထိုနောင် မူလဘဝင်စိတ် လှုပ်ရှားသွားခြင်း **ဘဝင်** စလနတစ်ကြိမ်ဖြစ်၏ထို့နောင်အမြင်ကြည်လင်လာပြီးမူလဘဝင်စိတ်ကလေးလုံးဝပြတ်သွားခြင်း **ဘဝင်ုပစ္ဆေဒ** ဖြစ်၏။မူလဘဝင်ပြတ်သွားသဖြင့်ဘာပါလိမ့်ဟုဆင်ခြင်သော**ပဉ္စဒွါရာ ဝဇ္ဇန်းစိတ်** ဖြစ်လာ၏။ ဆင်ခြင်လိုက်သောအခါ မြင်သိမှု ပီပီပြင်ပြင် လာ၍ စက္ခုဝိညာဏ်စိတ် ဆက်ဖြစ်ပြန်၏။ မြင်သိပြီး၍ သရက်သီးကို ကောက်ယူသည်နှင့် **သမ္ပဋိစ္ဆိုင်း** ဖြစ်ပုံကို မှတ်အပ်၏။ ကောက်ယူပြီး မှည့်၊ မမှည့် စူးစမ်းသည်နှင့် **သန္တီရဏ**ဖြစ်ပုံကို မှတ်အပ်၏။ အမှည့်ပဲ စားလို့ရပြီဟု ဆုံးဖြတ်ခြင်းနှင့် **ဝုဋ္ဌောစိတ်** ဖြစ်ပုံကို မှတ်အပ်၏။ အရှိန်အဟုန် ကောင်းစွာ ကြာကြာဝါး၍ စားခြင်းနှင့် **ဇော-၇ကြိမ်** ဖြစ်ပုံကို မှတ်အပ်၏။ စားပြီး၍ အကြွင်းအကျန်လေးများကို သိမ်းကာ အမြှင်မပြတ် ဆက်လက်အရသာခံသည်နှင့် **တဒါရုံစိတ် နှစ်ကြိမ်**ဖြစ်ပုံကို **မှတ်အပ်၏။** ပြန်၍ ခေါင်းမြီးခြုံ အိပ်သည်နှင့် ဘဝင်စိတ်များ ပြန်ဖြစ်သွားခြင်းကို **မှတ်အပ်၏။**

## ပထမဦးဆုံးသော ကာမဇောဝါရ အတိမဟန္တာရုံစက္ခုဒွါရဝီထိ

၁။ **အတီတဘဝင်** – (အာရုံနှင့် ပသာဒတို့ ကောင်းစွာမထိခိုက်၊ မတိုက်ဆိုင် မထင်မြင်မီ ချုပ်ပျောက်သွားသောဘဝင်)

၂။ **ဘဝင်္ဂစလန** – (အာရုံနှင့် ပသာဒတို့ ထိခိုက်တိုက်ဆိုင် ထင်မြင်လာသဖြင့် မူလဘဝင်စိတ်ကလေး လှုပ်ရှားခြင်း)

၃။ **ဘဝင်္ဂုပစ္ဆေဒ** – (အာရုံနှင့် ပသာဒတို့ ထိခိုက်၊ တိုက်ဆိုင်ထင်မြင်မှု အားကောင်းလာသဖြင့် မူလဘဝင်စိတ်ကလေး ပြတ်သွားခြင်း၊ ပျောက်သွားခြင်း)

၄။ **ပဉ္စဒွါရာဝဇ္ဇန်း** – (မူလဘဝင်ပြတ်သွားသောအခါ အာရုံသစ်ကို ကောင်းစွာ ယူနိုင်ပြီဖြစ်၍ ဆင်ခြင်မှု ဆက်ဖြစ်လာခြင်း)

၅။ **စက္ခုဝိညာဏ်** – (အာရုံသစ်ကို ကောင်းစွာယူနိုင်၊ ထင်မြင်လာနိုင် ဆင်ခြင်နိုင်သဖြင့် မြင်သိစိတ် ဖြစ်လာခြင်း)

၆။ **သမ္ပဋိစ္ဆိုင်း** – (ထိုမြင်သိသည့် အာရုံကို လက်ခံသိမ်းပိုက်ခြင်း)

၇။ **သန္တီရဏ** – (လက်ခံပြီး၊ စူးစမ်းစိတ် ဆက်ဖြစ်လာခြင်း)

၈။ **ဝုဋ္ဌော** – (စူးစမ်းပြီး ကောင်း/မကောင်း ဆုံးဖြတ်ခြင်း)

ဆုံးဖြတ်မှုတွင် အသင့်အတင့် ကုသိုလ်ဖြစ်အောင် ဆင်ခြင်တတ်သည့် **ယောနိသောမနသိကာရ**၊ မသင့်မတင့် အကုသိုလ်ဖြစ်အောင် ဆင်ခြင်တတ်သည့် **အယောနိသောမနသိကာရ** နှစ်မျိုးရှိရာ ယောနိသောမနသိကာရဖြစ်ဖို့ အရေးကြီး၏။

**ဇော** – ဆုံးဖြတ်သည့်အတိုင်း အာရုံကို လျှင်မြန်စွာ အရှိန်အဟုန်ကောင်းကောင်းဖြင့် ခံစားသည့်ကုသိုလ်ဇော၊ အကုသိုလ်ဇော (ရဟန္တာပုဂ္ဂိုလ်တို့အတွက် ကြိယာဇော)တို့ ၇–ကြိမ် ဖြစ်လေသည်။

**တဒါရုံ** – အရှိန်ကောင်းကောင်းဖြင့် ၇–ကြိမ် ဖြစ်ပြီးသော ဇောနောက်တွင် (ခုတ်မောင်းသွားသော သင်္ဘောသို့ ရေသည် အနည်းငယ် အစဉ်လိုက်သကဲ့သို့) အမြှင်မပြတ် ဆက်လက်ဖြစ်သည့်၊ တဒါရုံစိတ် ၂–ကြိမ်ခန့် ဖြစ်လာခြင်း၊

လကာ -ဆယ့်ခွန်နှစ်ချက်၊ ထိုစိတ်သက်၊ ရုပ်သက်တစ်ခုယူ၊
လက္ခဏလေး၊ ဝိညတ်ငွေး၊ ကြဉ်ရေးရုပ်ဒွိဒူ။

ဝီထိပုံစံ

ကီ+န+ဒ + ပ+စ+သမ်+တီ+ဝု+ဇော-၇+တဒါရုံ-၂ + ဘဝင်+ဘဝင်

ဘဝင်စိတ်များ ဝီထိစိတ်များ ဘဝင်စိတ်များ

သတ္တဝါတို့၏ သန္တာန်၌ ဘဝင်စိတ်နှင့် ဝီထိစိတ်များ တစ်လှည့်စီ ဖြစ်ပေါ်နေရာတွင် ဘဝင်စိတ်မှ ဝီထိစိတ်သို့ ပြောင်းခါနီးတွင်လည်းကောင်း၊ ဝီထိစိတ်မှ ဘဝင်စိတ်သို့ ပြောင်းခါနီးတွင်လည်းကောင်း၊ ချက်ခြင်း ပြောင်းသွားသည်မဟုတ်၊ ဘဝင်စိတ်တို့၏အလျှင်သည် ချက်ခြင်းမပြတ်သေးဘဲ အနည်းဆုံး ဘဝင် ၃-ကြိမ်လောက် ဖြစ်ပြီးမှ ဝီထိစိတ်များ ဖြစ်လာသည်။ ဝီထိစိတ်တွင်လည်း အလွန်ထင်ရှားသော အတိမဟန္တာရုံဝီထိတွင် ဇောပြီးသည်နှင့် မရပ်သေးဘဲ အမြွင်မပြတ်၊ အရှိန်မသေသေးသော တဒါရုံစိတ် ၂-ကြိမ်ဖြစ်ပြီးမှ ဘဝင်စိတ်များ ဆက်ဖြစ်ရလေသည်။ မဟန္တာရုံဝီထိကား အာရုံထင်ရှားမှု အားမကောင်းသောကြောင့် အမြွင်မပြတ် အရှိန်မသေသေးသော တဒါရုံစိတ်များ ဖြစ်ခြင်းမရှိ။ ပရိတ္တာရုံ၌လည်း အာရုံမထင်ရှားတော့သဖြင့် ဇောစိတ်ပင် မဖြစ်၊ အတိပရိတ္တာရုံ၌လည်း အာရုံအလွန်မထင်ရှားသောကြောင့် ဝီထိစိတ်များပင် မဖြစ်နိုင်တော့ပေ။

## စက္ခုဒွါရ ၁၅-ဝီထိ ဖြစ်ပုံသော

**အတိမဟန္တာရုံ ၁-ဝီထိ**

တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝု၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ရုံ၊ ရုံ)
(တဒါလမ္ဗဏဝါရ)

**မဟန္တာရုံ ၂-ဝီထိ**

၂ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝု၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ)င်
၃ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝု၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ)
(ဇဝနဝါရ)

ပရိတ္တာရုံ ၆-ထိ

၄ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ) ငံ၊ ငံ၊ ငံ၊ ငံ၊ ငံ
၅ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ) ငံ၊ ငံ၊ ငံ၊ ငံ
၆ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ) ငံ၊ ငံ၊ ငံ
၇ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ) ငံ၊ ငံ
၈ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ) ငံ
၉ တီ၊ န၊ ဒ(ပ၊ စ၊ သံ၊ ဏ၊ ဝုဲ ဝုဲ)

ဇဝနဝါရ

အတိပရိတ္တာရုံ ၆-ထိ

၁၀ တီ၊ န၊ န-ငံ၊ ငံ၊ ငံ၊ ငံ၊ ငံ
၁၁ တီ၊ န၊ န-ငံ၊ ငံ၊ ငံ၊ ငံ
၁၂ တီ၊ န၊ န-ငံ၊ ငံ၊ ငံ
၁၃ တီ၊ န၊ န-ငံ၊ ငံ
၁၄ တီ၊ န၊ န-ငံ
၁၅ တီ၊ န၊ န

မောဃဝါရ

## စက္ခုဒွါရ ၁၅-ဝိထိဖြစ်ပုံ

**အတိမဟန္တာရုံဝီထိ**

ပင့်ကူဥပမာပုံ၌၊ ပင့်ကူအိမ်၌ ယင်ကောင်လာတိုးသောအခါ ယင်ကောင်သည် အလွန်ထင်ရှားအားကြီး၍ ပင့်ကူအတွက် အတိမဟန္တာရုံဝီထိ ဖြစ်သည်၊ အလွန်ထင်ရှားအားကြီးသော ယင်ကောင်ကို မြင်ရသဖြင့် အတီတဘဝင် အကြာကြီး ဖြစ်မနေဘဲ တစ်ကြိမ်မျှသာလွန်ပြီး ဘဝင်စလန၊ ဘဝင်ုပစ္ဆေဒဖြစ်ကာ ဝီထိစိတ်သို့ ရောက်သွားသည်။ ဝီထိစိတ်တို့ ဆက်ဖြစ်ပြီး ဇောဖြင့် အရှိန်ကောင်းစွာ ၇-ကြိမ် ခံစားပြီးသောအခါ အာရုံမှာ အလွန်ထင်ရှား အားကောင်းသဖြင့် ခံစားမှုချက်ချင်း မပြတ်ဘဲ ဇောသို့ အစဉ်လိုက်၍ အမြင်မပြတ် အရှိန်မသေသေးသည့် တဒါရုံစိတ် နှစ်ကြိမ်ဖြစ်ပြီးမှ ဝီထိစိတ်အဖြစ် ရပ်သွားသည်။ တဒါရုံစိတ်၌ ဝီထိစိတ် အဆုံးသတ်သွားသဖြင့် အတိမဟန္တာရုံဝီထိကို **တဒါရုမ္မဏဝါရ**ဟု ခေါ်သည်။ (အတိမဟန္တာရုံ ဝီထိအမျိုးအစား တစ်မျိုးသာရှိသည်။)

**မဟန္တာရုံဝီထိ**

တစ်ဖန် ပင့်ကူအိမ်၌ **ခြင်တစ်ကောင်** လာ၍တိုးသောအခါ ယင်ကောင်လောက် အလွန်မထင်ရှားဘဲ သာမန်သာ ထင်ရှား အားကောင်းတော့သည်။

ထို့ကြောင့် အတီတဘဝင်စိတ်သည် တစ်ကြိမ်မက နှစ်ကြိမ်၊ သုံးကြိမ်လောက် လွန်ပြီးမှ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒတို့ ဖြစ်ပြီး ဝီထိစိတ်များ ဖြစ်လာသည်။ **ဝီထိ** စိတ်တို့ အစဉ်အတိုင်း ဆက်ဖြစ်ပြီး၍ ဇောဖြင့် အရှိန်ကောင်းကောင်း ၇-ကြိမ် ခံစားပြီးသောအခါ အာရုံမှာ ယင်ကောင်လောက် မကြီးမား၊ မထင်ရှားဘဲ ခံစား၍ လည်း အလွန်မကောင်းလှသဖြင့် ခံစားပြီးပြီးချင်း ဝီထိစိတ်များ ပြတ်သွားသည်။ အမြင်မပြတ်သေးသည့် တဒါရုံစိတ် ဆက်မဖြစ်ဘဲ ပြီးပြီးပျောက်ပျောက်သဘော ဖြစ်သွားသည်။ ဇောမှာပင် ဝီထိစိတ်များ အဆုံးသတ်သွား၍ မဟန္တာရုံဝီထိကို **ဇဝနဝါရ** ဟု ခေါ်သည်။ (မဟန္တာရုံဝီထိအမျိုးအစား နှစ်မျိုးရှိသည်။)

## ပရိတ္တာရုံဝီထိ

ထိုနောက်တစ်ဖန် ပင့်ကူအိမ်၌ **ဖြုတ်တစ်ကောင်** လာတိုးသောအခါ ခြင်ကောင်လောက်ပင် ထင်ရှားမှုအားမရှိတော့သဖြင့် မူလအတီတဘဝင်စိတ်များ လေးကြိမ် (သို့မဟုတ်) ငါးကြိမ်၊ ခြောက်ကြိမ်၊ ခုနစ်ကြိမ်၊ ရှစ်ကြိမ်၊ ကိုးကြိမ်တိုင် အသီးသီး လွန်၍ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ ဖြစ်ကာ ဝီထိစိတ်များ ဖြစ်လာသည်။ ဝီထိစိတ်များ အစဉ်အတိုင်း ဆက်ဖြစ်၍ ဝုဋ္ဌောစိတ်သို့ ရောက်သောအခါ အာရုံမှာ သိပ်မကောင်း ထင်ရှားမှု အားနည်း၍ ဝုဋ္ဌောဖြင့် ဆုံးဖြတ်ရသည်မှာ မရေမရာ နှစ်ခါတိုင် ဖြစ်နေရသည်။ အာရုံသိပ်မကောင်းသဖြင့် အရှိန်ကောင်းစွာ ခံစားသည့် ဇောစိတ်အဖြစ်သို့ မရောက်တော့ဘဲ ဝုဋ္ဌောမှာပင် ဝီထိစိတ် အဆုံးသတ်သွားသည်။ ဇောမဖြစ်သော ဝီထိမျိုးတွင် ဝုဋ္ဌောစိတ်သည် နှစ်ကြိမ်ဖြစ်ပေးရသောထုံးစံ ရှိပေ သည်။ ဝုဋ္ဌောစိတ်၌ ဝီထိစိတ် အဆုံးသတ်သွားသဖြင့် ပရိတ္တာရုံဝီထိကို **ဝေါဋ္ဌဗ္ဗန ဝါရ**-ဟု ခေါ်သည်။ (ပရိတ္တာရုံဝီထိ အမျိုးအစားမှာ ၆-မျိုး ရှိသည်။)

## အတိပရိတ္တာရုံဝီထိ

နောက်ဆုံးအနေဖြင့် ပင့်ကူအိမ်သို့ **အမှုန်အမွှားလေးတစ်ခု** လာတိုးသော အခါ ပင့်ကူသည် မျက်စိဖွင့်၍ ကြည့်သော်လည်း မြင်ရသလို မမြင်ရသလိုနှင့် ဖြစ်နေပြီး မူလအတီတဘဝင်စိတ်များ ဆယ်ကြိမ်မှ ဆယ့်တစ်ကြိမ်၊ ဆယ့်နှစ်ကြိမ်၊ ဆယ့်သုံးကြိမ်၊ ဆယ့်လေးကြိမ်၊ ဆယ့်ငါးကြိမ်ထိအောင် အသီးသီးလွန်၍ ဖြစ်ပြီးမှ ဘဝင်္ဂစလန၊ ဘဝင်နှစ်ကြိမ် လှုပ်သည်၊ အာရုံမှာ အလွန်မထင်ရှားသဖြင့် မြင်သလို မမြင်သလို ဖြစ်နေသည်။ ဘဝင်သာ နှစ်ကြိမ်လှုပ်ပြီး ဘဝင်ပြတ်ခြင်းသို့ မရောက် နိုင်ဘဲ ဖြစ်နေသည်။ ဘဝင်မပြတ်သဖြင့် ဝီထိစိတ်လည်း ဖြစ်မလာတော့ပေ။ ဤ

အတိပရိတ္တာရုံဝိထိကို ဘဝင်လှုပ်ရုံသာ လှုပ်ပြီး (ဘဝင်္ဂစလန)၌သာ ရပ်သွား၍ ဝိထိများ ဖြစ်လာခြင်း မရှိသောကြောင့် **(ဝိထိစိတ်တို့မှ အချည်းနှီးသော ဝိထိစိတ်တို့ ဖြစ်ခြင်းမရှိသော=မောဃဝါရ)**ဟု ခေါ်သည်။(ဤအတိပရိတ္တာရုံဝိထိအမျိုးအစား ခြောက်မျိုးရှိသည်။)

**လင်္ကာ** = အတိမဟန်၊ တစ်ချက်လွန်၊ မဟန်–နှစ်+သုံးသာ။
လေးကအစ၊ ကိုးတိုင်ကျ၊ လွန်က ပရိတ္တာ။
တစ်ဆယ်အာဒိ၊ ဆယ့်ငါးထိ၊ လွန်တိ ပရိတ္တာ။

**မှတ်ချက်**

- စက္ခုဒွါရဝိထိ၌ ၁၅ ဝိထိရသကဲ့သို့–သော၊ ဃာ၊ ဇိ၊ ကာ–တို့၌လည်း ၁၅ ဝိထိစီရသဖြင့် ပဉ္စဒွါရဝိထိပေါင်း ၇၅ ဝိထိ ရ၏။
- တဒါရုံဝိထိစိတ် အဆုံးရှိသော စိတ်အကြိမ်ကို **တဒါလမ္ဗဏဝါရ** ဟုခေါ်သည်။ (အတိမဟန္တာရုံ)
- ဇောဝိထိစိတ် အဆုံးရှိသော စိတ်အကြိမ်ကို **ဇဝနဝါရ** ဟုခေါ်သည်။ (မဟန္တာရုံ)
- ဝုဋ္ဌောဝိထိစိတ် အဆုံးရှိသော စိတ်အကြိမ်ကို **ဝေါဋ္ဌဗ္ဗနဝါရ** ဟုခေါ်သည်။(ပ၆
- ဝုဋ္ဌောဝိထိစိတ် ဖြစ်ခြင်းမရှိဘဲ ဘဝင်စိတ်များသာဖြစ်၍ ဝိထိစိတ်မှ အချည်းနှီးဖြစ်သော **အတိပရိတ္တာရုံဝိထိကို မောဃဝါရ** ဟု ခေါ်သည်။

**အာရုံ ၅–ပါးတို့သည် စိတ္တက္ခဏတချက်လွန်သည်ဖြစ်စေ–များစွာလွန်သည်ဖြစ်စေ၊ ဌီခဏသို့ရောက်သည်ဖြစ်၍သာလျှင် ဒွါရ ငါးပါးတို့၌** ရှေ့ရှုထင်ခြင်းသို့ ရောက်ကုန်၏။

## ဝိထိချဆိုရိုး။ ။ တဒါရမ္မဏဝါရ စက္ခုဒွါရ–အတိမဟ န္တာရုံဝိထိ ဖြစ်ဟန်ကား

*ရူပါရုံနှင့် စက္ခုပသာဒတို့ ရှေ့ရှုအတူ ဥပါဒ်ကြသည်မှ၊ အတီတ ဘဝင် တစ်ချက်အလွန်တွင် စက္ခုပသာဒ၌ ရူပါရုံထင်ခြင်းသို့ ရောက်သဖြင့် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇော ၇–ကြိမ်၊ တဒါရုံ ၂–ကြိမ် ဖြစ်ပြီးလျှင်* ***ရူပါရုံ စက္ခုပသာဒတို့ ၁၇–ချက် ရပ်သက်စေ့ရကား၊*** *ဒုတိယတဒါရုံ၏ ဘင်နှင့် ပြိုင်၍ ချုပ်ခြင်းရှိသော ဝိထိသည် တဒါရမ္မဏဝါရ စက္ခုဒွါရ အတိမဟန္တာရုံ ဝိထိမည်၏။ ထို့နောက် ဘဝင်ဖြစ်ထိုက်သမျှ ဖြစ်၏။*

(ကာမဇောဝါရ ပဉ္စဒွါရဝီထိပေါင်း (၇၅)ဝီထိလုံးကို ဆိုရိုးလေးတစ်ခု ကျက်ထားရုံနှင့် အစားထိုး၍ ဆိုနိုင်ပြီ ဤဆိုရိုးလေးကို ရအောင် ကျက်ထားပါ။)

ခင်းကျွန်းဘိဓမ္မာကဆရာတော်၏ ပရမတ္ထသံခိပ်အဖြေမှ ငိုသင်ဆိုရိုး ငိုသင်ဆိုရန်

ခြောက်ဒွါရ၌ဖြစ်သော စိတ်အစဉ်သည် ဝီထိမည်၏။

ထိုဝီထိသည်လည်း၊ ပဉ္စဒွါရဝီထိ၊ မနောဒွါရဝီထိဟူ၍ နှစ်ပါး အပြားရှိ၏။ ထိုနှစ်ပါးတို့တွင် ပဉ္စဒွါရဝီထိသည်လည်း စက္ခုဒွါရဝီထိ၊ သောတဒွါရဝီထိ၊ ဃာနဒွါရဝီထိ၊ ဇိဝှါဒွါရဝီထိ၊ ကာယဒွါရဝီထိဟူ၍ ငါးပါး အပြားရှိ၏။

ထိုငါးပါးတို့တွင် စက္ခုဒွါရဝီထိသည်လည်း အတိမဟန္တာရုံဝီထိ၊ မဟန္တာရုံဝီထိ၊ ပရိတ္တာရုံဝီထိ၊ အတိပရိတ္တာရုံဝီထိဟူ၍ လေးမျိုးအပြားရှိ၏။

ထိုလေးပါးတို့တွင် တဒါရုံတွင် ဝီထိစိတ် အဆုံးသတ်သော **တဒါရမ္မဏဝါရ၊ စက္ခုဒွါရ၊ အတိမဟန္တာရုံဝီထိဖြစ်ဟန်ကား-**

င်၊ င်၊ င် / တီ၊ န၊ ဒ(ပ၊ စ၊ သမ်၊ သန်၊ ဝုံ၊ ဇော ၇-ကြိမ်၊ ရုံ ၂) င်၊ င်၊ င်

***ဆိုရိုးကား*** – မိမိ ပဋိသန္ဓေစိတ်နှင့် ဘုမ္မိ၊ ဇာတိ၊ သမ္ပယုတ္တဓမ္မ၊ သင်္ခါရ၊ အာရုံအားဖြင့်တူသော ကာမဘဝင်(၁၀)တို့တွင် တစ်ပါးပါး သည် မိမိသန္ဓေစိတ်၏ အာရုံဖြစ်သော ကံ+ကမ္မနိမိတ်+ဂတိနိမိတ် သုံးပါး တို့တွင် တစ်ပါးပါးကို အာရုံပြု၍ (ဘဝင်+ဘဝင်+ဘဝင်+**အတီတဘဝင်+ ဘဝင်စလန +ဘဝင်ုပစ္ဆေဒ**)ဟု ဘဝင်ကိစ္စဖြစ်၍ ချုပ်၏။

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ **ပဉ္စဒွါရာဝဇ္ဇန်းစိတ်သည် အာရုံကို ဆင်ခြင်ခြင်း အာဝဇ္ဇန်း ကိစ္စ တစ်ကြိမ်ဖြစ်၍ ချုပ်၏။**ထို့နောက်(အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ **စက္ခုဝိညာဏ်ဒွေးတို့တွင် တစ်ပါးပါးသည် ရူပါရုံကို မြင်ခြင်း ဒဿနကိစ္စ တစ်ကြိမ်ဖြစ်၍ ချုပ်၏။**

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ သမ္ပဋိစ္ဆိုင်းဒွေးတို့တွင် တစ်ပါးပါးသည် ရူပါရုံကို လက်ခံသိမ်းပိုက်သကဲ့သို့ဖြစ်ခြင်း၊ **သမ္ပဋိစ္ဆိုင်းကိစ္စ** တစ်ကြိမ်ဖြစ်၍ ချုပ်၏။

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ သန္တီရဏစိတ်သုံးပါးတို့တွင် တစ်ပါးပါးသည် ရူပါရုံကို စုံစမ်းစစ်ဆေးသကဲ့သို့ ဖြစ်ခြင်း **သန္တီရဏကိစ္စ** တစ်ကြိမ်ဖြစ်၍ ချုပ်၏။

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ မနောဒွါရာဝဇ္ဇန်းစိတ်သည် ရူပါရုံကို ပိုင်းခြားမှတ်သားခြင်း **ဝုဋ္ဌောကိစ္စ** တစ်ကြိမ်ဖြစ်၍ ချုပ်၏။

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ ကာမဇောတစ်ခုယုတ် ၃၀-တို့တွင် တစ်ပါးပါးသည် ရူပါရုံကို တွင်ကျယ်စွာသိခြင်း၊ တွင်ကျယ်စွာ ခံစားခြင်း၊ အဟုန်ကောင်းကောင်း ခံစားခြင်း၊ **ဇောကိစ္စ** ၇-ကြိမ် ဖြစ်၍ ချုပ်၏။

ထို့နောင် (အတီတဘဝင်နှင့် ဥပါဒ်ပြိုင်သော) ပစ္စုပ္ပန်ရူပါရုံကို အာရုံပြု၍ တဒါရုံစိတ် ကောဒသတို့တွင် တစ်ပါးပါးသည် ရူပါရုံကို တွယ်တာလိုက်စားသကဲ့သို့ ဇောအာရုံကိုပင် ထပ်မံ၍ အာရုံပြုခြင်း၊ **တဒါရုံကိစ္စ** နှစ်ကြိမ်ဖြစ်၍ ချုပ်၏။

ထို့နောင် မိမိ ပဋိသန္ဓေစိတ်နှင့် ဘုမ္မိ+ဇာတိ+သမ္ပယုတ္တဓမ္မ+သင်္ခါရ အားဖြင့် တူသော ကာမဘဝင်(၁၀)တို့တွင် တစ်ပါးပါးသည် မိမိ ပဋိသန္ဓေစိတ်၏ အာရုံဖြစ်သော ကံ+ကမ္မနိမိတ်+ဂတိနိမိတ် သုံးပါးတို့တွင် တစ်ပါးပါးကို အာရုံပြု၍ ဘဝင်ကိစ္စ ဖြစ်ထိုက်သမျှ ဖြစ်၍ ချုပ်၏။

**ပဥ္စဒွါရဝိထိ၌**

| ဘဝင်အပိုင်း | | ဝိထိအပိုင်း | |
|---|---|---|---|
| (မူလ) အတီတဘဝင် | ⟶ | ၁။ ပဉ္စဒွါရာဝဇ္ဇန်း | ၅။ ဝုဋ္ဌော |
| ဘဝင်္ဂစလန | | ၂။ ပဉ္စဝိညာဏ် | ၆။ ဇော |
| ဘဝင်္ဂုပစ္ဆေဒ | ⟵ | ၃။ သမ္ပဋိစ္ဆိုင်း | ၇။ တဒါရုံ |
| | | ၄။ သန္တီရဏ | |

ပဉ္စဒွါရ၌ ဒိဋ္ဌိခံဘာဘိ့ကို

* သာမညအကျဉ်းအားဖြင့် နာမည်မျှသာ ရေတွက်သော်
  ပ၊ စ၊ သံ၊ ဏ၊ ဝု၊ ဇ၊ ရုံ ဟူ၍ (၇)ပါး။
* ဝိသေသအားဖြင့် (စိတ္တုပ္ပါဒ်အားဖြင့်) မကျဉ်းမကျယ် ရေတွက်သော်-
  ပ၊ စ၊ သံ၊ ဏ၊ ဝု၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ရုံ၊ ရုံ ဟူ၍(၁၄)ပါး။
* စိတ္တာရအကျယ်အားဖြင့် ရေတွက်သော်-

ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်ဒွေ၊ သမ္ပဋိစ္ဆိုင်းဒွေ၊ သန္တီရဏ ၃-ခု၊ ဝုဋ္ဌော၊ ကာမဇော-၂၉၊ တဒါရုံ-မဟာဝိပါက်စိတ် ၈-ပါး၊ ပေါင်း ၄၆-ပါး နှင့် သော+ဃာ+ဇိကာ-ဝိထိတို့အတွက်၊ သောတဝိညာဏ်ဒွေ၊ ဃာဒွေ-ဇိဒွေ ကာဒွေ(၈)ပါးပေါင်းသော် ၅၄-ပါး ဖြစ်၏။(ကာမစိတ် ၅၄-ပါးပင် ဖြစ်၏။)

ပဉ္စဒွါရအတွက် ပေါင်း၍ရေတွက်သော် (၇/၁၄/၅၄)ဟု အကျယ် အားဖြင့် ရေတွက်ရာ၌ ဒွေးပဉ္စဝိညာဏ်တစ်ဆယ်ကို ထည့်၍ ၅၄-ပါး ဖြစ်သည်။

ပဉ္စဒွါရဝီထိ ပြီး၏။

## ကာမဇောဝါရ၊ မနောဒွါရဝိထိ

ကာမဇောဝါရ၊ မနောဒွါရဝိထိ၌ အောက်ပါအတိုင်း ထင်ရှားသော **ဝိဘူတာရုံ**၌ ခြောက်ဝိထိနှင့် မထင်ရှားသော **အဝိဘူတာရုံ**ဝိထိ၌ သုံးဝိထိ ပေါင်း–ကိုးဝိထိ ရှိသည်။

ဝိဘူတာရုံဝိထိ၌ ဝိထိစိတ်သည် တဒါရုံတွင် အဆုံးသတ်သဖြင့် တဒါရုမ္မဏဝါရ မည်၏။ အဝိဘူတာရုံ၌ ဝိထိစိတ်သည် ဇောတွင် အဆုံးသတ်သဖြင့် ဇဝနဝါရ မည်၏။

ဤမနောဒွါရဝိထိတွင် စိတ္တက္ခဏ ၁၇–ချက် ရုပ်သက်စေ့ဝိထိနှင့် ၁၇–ချက် မပြည့်သောဝိထိဟူ၍ နှစ်မျိုးရှိသည်။

### ကာမဇောဝါရ၊ မနောဒွါရ–ဝိထိပုံစံများ

| | | |
|---|---|---|
| ၁ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ) င်၊ င်၊ င်၊ င် | ဝိဘူတာရုံ ၆-ဝိထိ တဒါရုံဝါရ |
| ၂ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ) င်၊ င်၊ င် | |
| ၃ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ) င်၊ င် | |
| ၄ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ) င် | |
| ၅ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ) | |
| X | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ + ရုံ၊ ရုံ)င် /၁၇–မပြည့် | |
| ၆ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ ) င် | အဝိဘူတာရုံ ၃–ဝိထိ ဇဝနဝါရ |
| ၇ | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ ) | |
| X | တီ+န+ဒ(မ + ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ ) င် / ၁၇–မပြည့် | |

### အတီတဘဝင် မချသင့်ရာ

ဤမနောဒွါရ၌ အတိတ်ရုပ်တရား၊ အနာဂတ်ရုပ်တရား၊ စိတ္တက္ခဏ တစ်ချက်မျှသာ အသက်ရှိသော စိတ်+စေတသိက်၊ ထင်ရှားမရှိသော ပညတ်နှင့် နိဗ္ဗာန်များပင် ထင်လာနိုင်ရကား "ဥပါဒ်ပြီးနောက် စိတ္တက္ခဏ ဘယ်လောက်လွန်မှ ထင်လာသည်ဟု မဆိုထိုက်၊ ထိုအာရုံများနှင့် အတီတဘဝင် မရအပ်။

(အခြေပြုသင်္ဂြိုဟ်)

ဤမနောဒွါရ၌ ဝိထိတို့၏ အာရုံသည် ပစ္စုပ္ပန်သာမဟုတ်၊ အတိတ်၊ အနာဂတ်၊ ကာလဝိမုတ် အာရုံတို့လည်း အာရုံဖြစ်ကြသောကြောင့် ဤဝိထိ၌ အတိတဘဝင်ကို သင်္ဂြိုဟ်ကျမ်း၌ ချမပြ၊ လယ်တီဆရာတော်ဘုရားကလည်း ထို့အတူ တည်း။ (မင်းကွန်းတိပိဋကဆရာတော်)

## အတီတဘဝင်ချသင့်ရာ

ပစ္စုပ္ပန် ရုပ်အချို့အတွက်ကား စိတ္တက္ခဏ မည်မျှလွန်မှ ထင်လာသည်ဟု ဆိုထိုက်ပေ၏။ ထိုအာရုံမျိုးနှင့် စပ်၍ အတိတဘဝင် ရအပ်၏။ သို့သော် ထိုရုပ်အာရုံများအတွက် ကျဉ်းမြောင်းလှသော သင်္ဂြိုဟ်ကျမ်းကလေး၌ ကျမ်းဆရာ အထူးမခွက်ဘဲ ဘဝင်္ဂစလနကစ၍ ဝိထိစဉ်ကို ပြလေသည်။

**ဆောင်** ✱ စိတ်+စေတသိက်၊ ရုပ်+တိတ်+နာဂတ်၊ ပညတ်+နိဗ္ဗာန်၊ ထင်လာမှန်လျှင်၊ ဘဝင်တိတ၊ ချဘွယ်မဟုတ်၊ ပစ္စုပ်ရုပ်သာ၊ ထင်သောခါဝယ်၊ လျှော်စွာ နှိုင်းညှိ၊ ချခွင့်ရှိသည်၊ ယုတ္တိယုတ္တာ၊ စမ်းလေလော့။

## မနောဒွါရ၌ ထင်နိုင်သော အာရုံများ

ပစ္စုပ္ပန်၊ အတိတ်၊ အနာဂတ် ကာလသုံးပါး၌ ဖြစ်သော ရုပ်နာမ်တရားများ ထင်ရှားမရှိသော ပညတ်အမျိုးမျိုး၊ နိဗ္ဗာန်တရားတို့ ဖြစ်သည်။ မနောဒွါရ၌ မထင်နိုင်သောတရား မရှိ၊ စိတ်စွမ်းသတ္တိ ရှိသလောက် အာရုံအမျိုးမျိုး ဆန်းဆန်း ကြယ်ကြယ် ထင်နိုင်၏။

## ထင်လာခြင်း၏ အကြောင်းများ–

**ဆောင်** – တွေ့ + အကြား + နှစ်ပါးရယ်နှင့် စပ်၍ကြို၊
သဒ္ဓါယုံ၊ ကိုယ်အကြိုက်ကယ်နှင့်၊ ခြင်းရာကို ကြံကာနှိုက်၊
ကိန်းဆိုက်အာရုံ၊ ဉာဏ်အမှု၊ ကြံရှု၍ နှစ်သက်ပုံ၊
ကံအဟုန်တန်ခိုး --- ဓာတ်ခေါက်၊
နတ်များငယ် ဆော်ဖန်လို့၊ လျှော်ကန်၊ တော်မှန် သိတာကြောင့်၊
ဘဝင်မှာ ထင်လာငြီရတယ်၊ ကျမ်းရှိလက်ရိုး။

*(အကျယ်ကို ဘာသာဋီကာ၌ ရှု)*

**ဝိဘူတာရုံဝီထိဆိုရိုး**

*ထင်ရှားသော အာရုံတစ်ပါးပါးသည် မနောဒွါရ၌ ထင်လာသည် ရှိသော် ဘဝင်္ဂစလန+ဘဝင်္ဂုပစ္ဆေဒ+(မနောဒွါရဝဇ္ဇန်း+ဇော ၇-ကြိမ် + တဒါရုံ ၂-ကြိမ် ဖြစ်ပြီးလျှင်၊ ထို့နောက် ဘဝင်ဖြစ်ထိုက်သ၍ ဖြစ်၏။*

**အဝိဘူတာရုံဝီထိဆိုရိုး**

မထင်ရှားသော အာရုံတစ်ပါးပါးသည် မနောဒွါရ၌ ထင်လာသည် ရှိသော် ဘဝင်္ဂစလန+ဘဝင်္ဂုပစ္ဆေဒ+(မနောဒွါရာဝဇ္ဇန်း+ဇော ၇-ကြိမ်) ဖြစ်ပြီးလျှင်၊ ထို့နောက် ဘဝင်ဖြစ်ထိုက်သ၍ ဖြစ်၏။

**မနောဒွါရဝီထိ၌**




**ကာမဇောဝါရ၊ မနောဒွါရဝီထိစိတ်တို့ကို**

**၁။ သာမညအကျဉ်း (အမည်မျှသာ) ရေတွက်သော်**

(က) မနောဒွါရာဝဇ္ဇန်း၊ (ခ) **ဇော**၊ (ဂ) **တဒါရုံ**ဟူ၍ သုံးမျိုး

**၂။ (ဝိသေသအားဖြင့်) စိတ္တုပ္ပါဒ်အားဖြင့် မကျဉ်းမကျယ် ရေတွက်သော်**

(က) မနောဒွါရဝဇ္ဇန်း၊(ခ) **ဇော** ၇-ကြိမ်၊(ဂ) **တဒါရုံ** ၂-ကြိမ် = ပေါင်း ၁၀ မျိုး

**၃။ စိတ္တဇာရအားဖြင့် ရနိုင်သမျှအကျယ် ရေတွက်သော်**

(က) မနောဒွါရာဝဇ္ဇန်း (ခ) ကာမဇော ၂၉ (ဂ) တဒါရုံ-၁၁ = ပေါင်း ၄၁

## တဒနုဝတ္တက မနောဒွါရဝီထိ

ပဥ္စဒွါရဝီထိတစ်ခု ဖြစ်တိုင်း ဖြစ်တိုင်း ၎င်း၏နောက်လိုက် မနောဒွါရဝီထိ ၃-မျိုးလိုက်၍ ဖြစ်လေ့ရှိသည်။ ထိုနောက်လိုက် မနောဒွါရဝီထိကို တဒနုဝတ္တက မနောဒွါရဝီထိဟု ခေါ်သည်။ ထိုဝီထိသည်-

စက္ခုဒွါရ တဒနုဝတ္တကမနောဒွါရဝီထိ (သော+ဃာ+ဇိ+ကာ)ဟု ၅-မျိုး ရှိ၏။

### စက္ခုဒွါရ တဒနုဝတ္တက မနောဒွါရဝီထိဖြစ်ဟန်(ဘုရားပုံတော်အဆင်းရူပါရုံကို မြင်ရာတွင်)

၁။ ပစ္စုပ္ပန်အဆင်းရူပါရုံ ဘုရားပုံကို အာရုံပြု၍ စက္ခုဒွါရဝီထိဖြစ်၏။

၂။ ထို့နောက် မြင်ပြီးသော **အတီတ်ရူပါရုံ**ကိုပင် အာရုံပြု၍ တဒနုဝတ္တက မနောဒွါရ တစ်ဝီထိကျ၏။

၃။ ထိုအဆင်းရူပါရုံ၏ **အမည်နာမအသံပညတ်**ကို ဆင်ခြင်တွေးတောသော သဒ္ဒမနောဒွါရိက တစ်ဝီထိ။

၄။ ထို့နောက် အသွင်သဏ္ဌာန်ဒြပ် **အတ္ထပညတ်ကို အာရုံပြု၍** သဒ္ဒမနောဒွါရိက တစ်ဝီထိ၊ ဤသို့ လေးဝီထိရောက်မှ ဘုရားပုံသဏ္ဌာန် အမည်နာမ စသည် ကွဲကွဲပြားပြား သိရသည်။

**(သောတစသည် နည်းတူ သိပါလေ)**

## ကာမဇောဝါရ၌

ဘဝင်စိတ်နှင့် ဝိထိစိတ်တို့၏ အာရုံကို ခွဲခြားသော်-

**ကာမဇောဝါရ + ပဉ္စဒွါရဝိထိအတွက်**




**ကာမဇောဝါရ၊ မနောဒွါရဝိထိအတွက်**




## အပ္ပနာဇောဝိထိ

**အပ္ပနာ** = အာရုံ၌ စိတ်ကိုစူးစိုက် သွတ်သွင်းထားခြင်း၊
= ဝင်စားခြင်း၊ ဈာန်သို့သက်ဝင်၍ တည်ခြင်း၊
= ကမ္မဋ္ဌာန်းကို ရခြင်း၊

အပ္ပနာဇောဝိထိ-ဟူသည် မဟဂ္ဂုတ်+လောကုတ္တရာဇောများပင် ဖြစ်သည်။

အကျဉ်းအားဖြင့် ၂၆-ပါး = မဟဂ္ဂုတ်-ကုသိုလ်-၉+မဟဂ္ဂုတ်ကြိယာ-၉ +လောကုတ်-၈

အကျယ်အားဖြင့် ၅၈-ပါး= မဟဂ္ဂုတ်-ကုသိုလ်-၉+မဟဂ္ဂုတ်ကြိယာ-၉ +လောကုတ်-၄၀

ထိုမဟဂ္ဂုတ်လောကုတ္တရာ အပ္ပနာဇောများ ဖြစ်ဘို့ရန် ကသိဏ်း စသော ကမ္မဋ္ဌာန်းများကို အားထုတ်ရမည်။ (ကမ္မဋ္ဌာန်းပိုင်း၌ အကျယ် သိရလတ့ံ) ဉာဏ်ရှိသောပုဂ္ဂိုလ်လည်း ဖြစ်ရမည်။ ကာမသောဘနဉာဏ သမ္ပယုတ်ဇောစိတ်များမှ တစ်ဆင့်သာ အပ္ပနာဇောသို့ တက်ရသည်။ ထို့ကြောင့် ကာမသောဘန ဉာဏသမ္ပယုတ်ဇောများ ဖြစ်သည့် မဟာ **ကုသိုလ် ဉာဏသမ္ပယုတ်ဇော ၄-ပါး+ မဟာကြိယာ ဉာဏသမ္ပယုတ်ဇော** ၄-ပါး ပေါင်း = ၈-ပါးကို အခြေခံရသည်။ **ထို ၈-ပါးကို** အပ္ပနာဇော တို့၏ ရှေ့ပိုင်း အနီးစပ်ဆုံးသော ဇောများဖြစ်သောကြောင့် (ဥပစာရ သမာဓိဇော = အပ္ပနာ၏ အနီး၌ တည်ကြည်သောဇော)ဟု ခေါ်သည်။

ထို ၈-ပါးတွင် တစ်ပါးပါးသည် အပ္ပနာစျာန်ရအောင် အားထုတ် သော ပုဂ္ဂိုလ်အား ပရိကံ၊ ဥပစာ၊ အနုလုံ၊ ဂေါတြဘူ-ဟု မန္ဒပုဂ္ဂိုလ် (ဉာဏ်နုံ့သူ)အတွက် အမည် ၄-မျိုးဖြင့် ဖြစ်ပြီး၊ တိက္ခပုဂ္ဂိုလ်(ဉာဏ်ထက်သူ) အတွက် ပရိကံမပါ ဥပစာ၊ အနုလုံ၊ ဂေါတြဘူ-ဟု အမည်သုံးမျိုးဖြင့် ဖြစ်လေသည်။

**ဥပစာရသမာဓိဇော-၈**

| ကာမာဝစရဉာဏသမ္ပယုတ်ဇော - ၈ | | အပ္ပနာဇောများ |
|---|---|---|
| မဟာကုသိုလ်ဉာဏ သမ္ပယုတ် ၄ + ↓ (တိဟိတ်ပုထုဇဉ်+သေက္ခ-၇) | မဟာကြိယာ- ဉာဏသမ္ပယုတ် ၄ ↓ (ဘုရား + ရဟန္တာ) | ရူပ + အရူပ + လောကုတ္တရာ + အဘိညာဏ် ဇောများ |

(ပ) **ပရိကံ**ဟူသည် ပရိကမ္မပုဒ်ရင်းမှ ဖြစ်လာသော ပါဠိပျက်စကား ဖြစ်သည်။ အပ္ပနာဇောစိတ္တုပ္ပါဒ်များ ဖြစ်ပေါ်လာအောင် **ရှေ့အဖို့မှ ပြုလုပ် စီမံတတ်သောကြောင့် ပရိကံ** မည်၏။

(ဥ) **ဥပစာ**ဟူသည် ဥပစာရပုဒ်ရင်းမှ ဖြစ်လာသော ပါဠိပျက်စကား **အပ္ပနာဇောများ၏ အနီးသို့ ကပ်၍ ဖြစ်တတ်သော ကြောင့် ဥပစာ** မည်၏။

(နု) **အနုလုံ**ဟူသည် ရှေးရှေးပရိကံတို့၏ ကိစ္စကိုလည်း ဆက်လက် ဆောင်ရွက်တတ် နောက်နောက် အပ္ပနာကိုလည်း ပေါ် လာစေတတ်၍ **ရှေးရှေးပရိကံနှင့် နောက်နောက် အပ္ပနာ အားလျော်သောကြောင့် အနုလောမ(အနုလုံ)** မည်၏။

(ဂေါ) **ဂေါတြဘူ**ဟူသည် ကာမနွယ်+လောကီအနွယ်ကို လွှမ်းမိုးနှိပ်စက် ဖျက်စီး၍ မဟဂ္ဂုတ်အနွယ်+ လောကုတ္တရာအနွယ်ကို ဖြစ်စေတတ်သောကြောင့် **ဂေါတြဘူ** မည်၏။

ၐင်းနာမည်လေးမျိုးဖြင့် ဖြစ်သောကာမဇောများကို ဥပစာရ ဘာဝနာ၏ နယ်ပယ်မှာ အတည်ကြည်ဆုံး ထိပ်တန်းအကျဆုံး ဖြစ်၍ **ဥပစာရသမာဓိဇော**ဟု ခေါ်ဝေါ်ခြင်း ဖြစ်သည်။

ၐင်းပရိကံ စသော နာမည်လေးမျိုးလုံးကို ပရိကံဟူသော နာမည် တစ်မျိုးတည်းဖြင့်လည်းကောင်း၊ ဥပစာဟူသော အမည်တစ်မျိုးတည်းဖြင့် လည်းကောင်း၊ အနုလုံဟူသော အမည်တစ်မျိုးတည်းဖြင့်လည်းကောင်း ခေါ်ဝေါ်လိုက ခေါ်ဝေါ်နိုင်သည်။

ဂေါတြဘူ အမည်ဖြင့်ကား ၄-မျိုးလုံးကို မခေါ်ဆိုနိုင်ပေ၊ ဂေါတြဘူ-ဟူ၍ကား နောက်ဆုံးတစ်ခုကိုသာ ခေါ်ဆိုနိုင်သည်။

နာမည်ချင်း မရောယှက်စေခြင်းငှာ-ပထမဇောကို ပရိကံ+ဒုတိယ ဇောကို ဥပစာ+တတိယဇောကို အနုလုံ+စတုတ္ထဇောကို ဂေါတြဘူ-ဟု ခေါ်ဝေါ်ပညတ်ထားခြင်း ဖြစ်သည်။

ပရိကံ+ဥပစာ+အနုလုံ–ဂေါတြဘုတို့ ဖြစ်ပြီးမှ ဈာန်၊ မဂ်၊ ဖိုလ်တို့ ဖြစ်ရပုံ

ဈာန်+မဂ်+ဖိုလ် နိဗ္ဗာန်တရားတို့ရအောင် ကမ္မဋ္ဌာန်းအားထုတ်သော ပုဂ္ဂိုလ်တို့အား–ဈာန်+မဂ်+ဖိုလ် နိဗ္ဗာန်တရားများ ရခါနီးတွင် ပရိကံ၊ ဥပစာ၊ အနုလုံတို့က ကာမအမှောင် နီဝရဏအမှောင်တို့ကို (မဟဂ္ဂုတ်အတွက်) + လောကီအမှောင် မောဟစသော ကိလေသာအမှောင်တရားတို့ကို (မဂ်+ဖိုလ်+နိဗ္ဗာန်အတွက်) ပယ်ပြီးသောအခါ အမှောင်ကင်းစင်သဖြင့် ဂေါတြဘုဖြင့် ဈာန်၊ မဂ်၊ ဖိုလ် နိဗ္ဗာန်တရားတို့ကို လှမ်းမြင်ရတော့သည်။ မြင်ပြီးသည်နှင့် ဈာန် မဂ် ဖိုလ် နိဗ္ဗာန်တရားတို့ကို ဆက်၍ ရရှိတော့မည်။

ဥပမာ–နက္ခတ်ဆရာသည် ညဥ့်အခါ၌ လကိုကြည့်ရှုလေသော် တိမ်တိုက်ဖုံးကွယ်နေသဖြင့် နက္ခတ်ကို မမြင်ရ၊ ထိုအခါ မကြာခင်လေလာသဖြင့် ခပ်ကြမ်းကြမ်း တိမ်တွေကင်းစင်လေ၏။ ဒုတိယ လေလာပြန်ရာ အလတ်စားတိမ်လွှာများကို လွင့်သွားပြီးနောက်၊ တတိယလေတိုက်ခတ်မှ တိမ်လွှာအားလုံး လွင့်စင်သွားသဖြင့် လ–ကို မြင်ရလေသည်။ ထို့အတူ ဈာန်–မဂ်–ဖိုလ်–နိဗ္ဗာန်တည်းဟူသော လမင်းကို ကြည့်ရှုရာဝယ် နီဝရဏအမှောင် + မောဟအမှောင်များ ကွယ်ကာထားသဖြင့် မမြင်ရဘဲရှိလေရာ ပရိကံ+ဥပစာ+အနုလုံဟူသော လေသုံးကြိမ် အစဉ်အတိုင်းတိုက်မှ အမှောင်ကင်းစင်၍ ဂေါတြဘုဖြင့် ဈာန်–မဂ်–ဖိုလ်–နိဗ္ဗာန်ကို ပထမဆုံး မြင်ရသည့်အတွက် ဈာန် မဂ်တို့၏ ရှေ့က ဆင်ခြင်ပေးသည့် အာဝဇ္ဇ န်းအရာ၌ တည်၏ဟု ပြောစမှတ်ပြုကြသည်။

ထိုဥပစာရသမာဓိဇော အမည်များနောက်တွင် အပ္ပနာဇောများ = (ရူပဈာန်၊ အရူပဈာန်၊ လောကုတ္တရာဈာန်စိတ်များ) ဆက်၍ဖြစ်လာသည်။

**ဤအပ္ပနာဇောဝီထိ၌ ဝိဘူတာရုံ၊ အဝိဘူတာရုံ ၂–ပါးမရဘဲ၊ ဝိဘူတာရုံတစ်ခုသာရသည်။ အဘယ်ကြောင့်ဆိုသော် ထင်ရှားသော ကသိုဏ်း စသော ကမ္မဋ္ဌာန်းတို့ကိုသာ အာရုံပြု၍ အပ္ပနာဈာန်ဇောများ ရနိုင်သည်၊ မထင်ရှားသောအာရုံကို အာရုံပြု၍ အပ္ပနာဈာန်ဇောများ မရနိုင်သောကြောင့်တည်း။**

ဤအပ္ပနာဇောဝီထိ၌ တဒါရုံလည်း မကျနိုင် မဖြစ်နိုင်ပေ၊ **တဒါရုံသည် ကာမဇော၊ ကာမသတ္တဝါ၊ ကာမအာရုံ ၃–ပါးစုံမှ ကျနိုင်သည်။**

အပ္ပနာဇောသည် မဟဂ္ဂုတ် လောကုတ္တရာဖြစ်၍ တဒါရုံနှင့် မဆိုင်တော့ပေ။

***လက်ာ*** *= ပုဂ္ဂိုလ်ကာမ၊ ဇောကာမနှင့်၊ ကာမအာရုံ+သုံးချက်စုံ တဒါရုံ၏ အခွင့်တည်း။*

**အပ္ပနာဇောဝိထိ အမျိုးအစားများ**

၁။ ဈာနဝိထိ → ပစ္စဝေက္ခဏာဝိထိ / → သမာပဇ္ဇနဝိထိ

၂။ မဂ္ဂဝိထိ — — — ပစ္စဝေက္ခဏာဝိထိ

၃။ ဖလသမာပတ္တိဝိထိ

၄။ အဘိညာဏ်ဝိထိ

၅။ နိရောဓသမာပတ္တိဝိထိ

(၁) **ဈာနဝိထိဟူသည်**–မဟဂ္ဂုတ်ဇောဝိထိကို ခေါ်၏။ထိုတွင် ရူပါဝစရ–ပထမဈာန်ဝိထိ ဖြစ်ပုံမှာ—ပထမဈာန်ကို ရလို၍ သင့်တော်ရာကမ္မဋ္ဌာန်းကို ပွားများသောအခါ ပရိကမ္မနိမိတ်+ဥဂ္ဂဟနိမိတ်+ပဋိဘာဂနိမိတ် အဆင့်ဆင့် တက်ကာ ပထမဈာန်ရကာနီးတွင် ကံ–ကမ္မနိမိတ်–ဂတိနိမိတ် ၃–ပါးတို့တွင် တစ်ပါးပါးကို အာရုံပြု၍ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒတို့ ဖြစ်ကြ၏။ ထို့နောင် ထိုကမ္မဋ္ဌာန်းနိမိတ်ကိုအာရုံပြု၍ မနောဒွါရာဝဇ္ဇ ·န်းတစ်ကြိမ်၊ မန္ဒပုဂ္ဂိုလ်အား ကာမဝစရဉာဏသမ္ပယုတ်ဇော(ဥပစာရသမာဓိဇော)၈–ပါး တွင် တစ်ပါးပါးသည် ပရိကံ+ဥပစာ+အနုလုံ၊ ဂေါတြဘူ–ဟု ၄–ကြိမ်၊ တိက္ခပုဂ္ဂိုလ်အား (ပရိကံမပါ)၊ ဥပစာ+အနုလုံ၊ ဂေါတြဘူ–ဟု ၃–ကြိမ်၊ ဥပစာရ သမာဓိဇောကိစ္စ ဖြစ်၏။ ထို့နောင် ဈာန်အင်္ဂါငါးပါးရှိသော ပထမဈာန်စိတ်သည် အပ္ပနာဇောကိစ္စ တစ်ကြိမ် ဖြစ်၏။ ထို့နောက် ဘဝင်ဖြစ်ထိုက်သရွေ့ ဖြစ်၏။

(ဥပစာရသမာဓိဇော ၈–ပါးကို ပုဂ္ဂိုလ်အလိုက် ခွဲရမည်။ **တိဟိတ် ပုထုဇဉ်နှင့် သေက္ခပုဂ္ဂိုလ် ၇–ယောက်**ဖြစ်လျှင် မဟာကုသိုလ်ဉာဏ သမ္ပယုတ် ၄–ပါးတွင် တစ်ပါးပါး၊ **ဘုရား+ရဟန္တာ**ဖြစ်လျှင် မဟာကြိယာ ဉာဏသမ္ပယုတ်လေးပါးတွင် တစ်ပါးပါး ဖြစ်မည်။)

ပဉ္စမဈာန်ကို အစဦးဆုံး စီးဖြန်း၍ရသော ဝီထိ
(ပထမဈာန် အာဒိကမ္မိကဝီထိ)

မန္ဒပုဂ္ဂိုလ် = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ၊ ပဈာန်(၁)ကြိမ် ဘင် ဖြစ်ထိုက်သရွေ့-

တိက္ခပုဂ္ဂိုလ် = န၊ ဒ---မ-ဥ၊ နု၊ ဂေါ၊ ပဈာန်(၁)ကြိမ် ဘင်ဖြစ်ထိုက် သရွေ့

ပထမဈာန် ပစ္စဝေက္ခဏာဝီထိ (ကာမဇောဝီထိ)
(ရပြီးဈာန်ကို ဈာန်အင်္ဂါအစိတ်အပိုင်းအားဖြင့် ဆင်ခြင်ခြင်း)

ပထမဈာန် ပစ္စဝေက္ခဏာဝီထိဟူသည် ရပြီးသော ပထမဈာန်ကို (ဝိတက် ဝိစာရ စသော ဈာန်အင်္ဂါအစိတ်စိတ်အားဖြင့် ဆင်ခြင်နှလုံးသွင်းသော ပစ္စဝေက္ခဏာဇောဝီထိ ဖြစ်သည်။

ပုံစံ = န ဒ --- မ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ ----- ဘင်

ပထမဈာန်သမာပဇ္ဇနဝီထိ
(ရပြီးဈာန် မပျက်ရန် အထပ်ထပ်ဝင်စားသောဝီထိ)

ရပြီးဈာန်ကိုပင် အထပ်ထပ်ခိုင်မြဲအောင် ဝင်စားခြင်း ဖြစ်၍ ဈာန်ဇောများ အကြိမ်များစွာ ဖြစ်သည်။ ဝီထိကျပုံမှာ အစဦး ဈာနဝီထိနှင့် တူ၏။

ပုံစံ = မန္ဒပုဂ္ဂိုလ် = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ၊ ဈာန်၊ ဈာန်၊ ဈာန်များစွာ -- ဘင်

တိက္ခပုဂ္ဂိုလ်= န၊ ဒ---မ-ဥ၊ နု၊ ဂေါ၊ ဈာန်၊ ဈာန်၊ ဈာန်များစွာ -- ဘင်

**(ဒု-တ-စ-ပဉ္စမဈာန်၊ အရူပဈာန်တို့ကိုလည်း နည်းတူသိပါ)**

## မဂ္ဂဝီထိ

မဂ် ၄-မျိုး ရှိ၍၊ မဂ္ဂဝီထိလေးမျိုး ဖြစ်သည်။ မဂ်ရလိုသော ပုဂ္ဂိုလ်သည် သမထကမ္မဋ္ဌာန်းအားထုတ်ရုံနှင့် မရတော့ပေ၊ သင်္ခါရတရားတို့ကို **အနိစ္စ-ဒုက္ခ-အနတ္တဟု ဝိပဿနာ ရှုပွားရမည်။** ထိုသို့ရှုပွား၍ ပထမဆုံး သော-သောတာပတ္တိမဂ်ရမည့် ပုဂ္ဂိုလ်သန္တာန်၌ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ တို့ ဖြစ်ချုပ်ကြ၏။ ထို့နောက် မနောဒွါရာဝဇ္ဇန်း တစ်ကြိမ်ဖြစ်ပြီးလျှင် မန္ဒပုဂ္ဂိုလ်အား မဟာကုသိုလ် ဉာဏသမ္ပယုတ်စိတ် ၄-ပါးတွင် တစ်ပါးပါး သည် ပရိကံ၊ ဥပစာ၊ အနုလုံ၊ ဂေါတြဘူဟု ၄-ကြိမ် တိက္ခပုဂ္ဂိုလ်အား ဥပစာ-အနုလုံဂေါတြဘူဟု ၃-ကြိမ် ဥပစာရသမာဓိဇောတို့ ဖြစ်ကြ၏။ ထို့နောင် သောတာပတ္တိမဂ်သည် သစ္စာလေးပါးကို သိလျှက် မဂ်ကိစ္စ တစ်ကြိမ်ဖြစ်၏။ထို့နောက် မန္ဒပုဂ္ဂိုလ်အား သောတာပတ္တိဖိုလ် ၂-ကြိမ် တိက္ခပုဂ္ဂိုလ်အား သောတာပတ္တိဖိုလ် ၃-ကြိမ် ဖြစ်၏။ ထို့နောင် ဘဝင် ဖြစ်ထိုက်သ၍ ဖြစ်၏။

ပုံစံ = မန္ဒ = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ၊ မဂ်၊ ဖိုလ်၊ ဖိုလ် ---ဘွင်

တိက္ခ= နး ဒ---မ- ဥ၊ နု၊ ဂေါ၊ မဂ်၊ ဖိုလ်၊ ဖိုလ်၊ ဖိုလ်---ဘွင်

**ဈာနဝီထိ၌ပါသော ဂေါတြဘူနှင့် မဂ္ဂဝီထိ၌ပါသော ဂေါတြဘူ-အထူး**

ဈာနဝိထိ၌ပါသော ဂေါတြဘူကား ကာမအနွယ်ကို နှိပ်စက်၍၊ မဟဂ္ဂုတ် အနွယ်ကို ပွားစေတတ် ဖြစ်စေတတ်ပါသည်။

မဂ္ဂဝိထိ၌ပါသော ဂေါတြဘူကား- လောကီအနွယ်ကို နှိပ်စက်၍၊ လောကုတ္တရာအနွယ်ကို ပွားစေတတ် ဖြစ်စေတတ်ပါ သည်။ တနည်း ပုထုဇဉ်အနွယ်ကို ဖြတ်၍ အရိယာအနွယ်သို့ ရောက်စေတတ်ပါသည်။

## အထက်မဂ် ၃-ပါး ဝီထိ

အထက်မဂ် ၃-ပါး ဝိထိလည်း သောတာပတ္တိမဂ်ဝိထိနှင့် တူ၏။ **ဂေါတြဘူ**နေရာတွင် **ဝေါဒါန်**ဟု ပြောင်းရန်သာထူးသည်။ **ဂေါတြဘူ ဟူသည်** ပုထုဇဉ်အနွယ်ကို ဖြတ်ခြင်းဖြစ်၍ သောတာပတ္တိမဂ် ရစဉ်ကပင် ပုထုဇဉ်အနွယ်ကို ဖြတ်၍ လောကုတ္တရာ အရိယာအနွယ်သို့ ရောက်ခဲ့ပြီ၊

ထို့ကြောင့် ဂေါတြဘူ မလိုတော့ပေ၊ (**ဝေါဒါန် = ဖွေးဖြူကြည်လင် သန့်ရှင်းသောစိတ်**)သာ ဖြစ်ပြီး၊ မဂ်-ဖိုလ် ဆက်ဖြစ်သည်။

ပုံစံ = မန္ဒ = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ **ဝေါ**၊ မဂ်၊ ဖိုလ်၊ ဖိုလ် ---ဘွင်

တိက္ခ= န၊ ဒ---မ- ဥ၊ နု၊ **ဝေါ**၊ မဂ်၊ ဖိုလ်၊ ဖိုလ်၊ ဖိုလ်---ဘွင်

ဂေါတြဘူနှင့် ဝေါဒါန်အထူး

**သောတာပတ္တိမဂ်၏** အနန္တရပစ္စည်းဖြစ်သော (ရှေ့၌ဖြစ်သော) ဉာဏ်သည် (မဟာကုသိုလ် ကြိယာဉာဏသမ္ပယုတ်ဇော ၈-ခု၌ရှိသော ဉာဏ်တစ်မျိုးမျိုးကို ဆိုသည် ဟု မှတ်ပါ) **ဂေါတြဘူ**မည်ပါသည်။

**အထက်မဂ် ၃-ပါး၏** အနန္တရပစ္စည်းဖြစ်သော (ရှေ့၌ဖြစ်သော၊)ဉာဏ်သည် **ဝေါဒါန်** မည်ပါသည်။) ဤသို့ထူးပါသည်။

## မဂ္ဂပစ္စဝေက္ခဏာဝီထိ

## (ရပြီးမဂ်ဖိုလ် စသည်ကို ပြန်လည်ဆင်ခြင်ခြင်း)

မဂ္ဂဝီထိဆိုသော်လည်း မဂ်ရလျှင် ဖိုလ်ပါ တစ်ပါတည်းဆက်ရသည်သာ ဖြစ်၍-မဂ်+ဖိုလ် ၂-ပါးလုံးရပြီး ဖြစ်တော့သည်။ ထို့ကြောင့် မဂ်ကို ဆင်ခြင်သည်ဟုဆိုလျှင် ဖိုလ်ကိုပါ ဆင်ခြင်ပြီးသား ဖြစ်သည်ကို သိရမည်။ ဤဝီထိတွင် ရပြီးသောမဂ်-ဖိုလ်-နိဗ္ဗာန်၊ ပယ်အပ်ပြီးသော ကိလေသာ၊ ကြွင်းကိလေသာတို့ကို အသေးစိတ် ဆင်ခြင်ခြင်းသာ ဖြစ်၍ ပစ္စဝေက္ခဏာ ဇောကိစ္စများသာဖြစ်ပြီး ဘွင်ကျတော့သည်။

ပုံစံ = န - ဒ - - - - - - မ - ဧ ဧ ဧ ဧ ဧ ဧ ဧ -
- - - ဘွင်

## ဖလသမာပတ္တိဝီထိ(ရပြီးဖိုလ်ကို အထပ်ထပ်ဝင်စားခြင်း)

မဂ်ရပြီးလျှင် ဖိုလ်ပါ ရပြီးဖြစ်၍ ဖလဝီထိဟု သီးသန့်မရှိ၊ ရပြီး ဖိုလ်ကို အထပ်ထပ်အခါခါ ဝင်စားခြင်းပင် ဖြစ်သည်။ မန္ဒအတွက် ၄-

ကြိမ်၊ တိက္ခအတွက် ၃-ကြိမ် ဖြစ်ပြီး ဖိုလ်စိတ်တို့သာ အကြိမ်များစွာ ဖြစ်ကာ ဘွင်ကျတော့သည်။

ပုံစံ = မန္ဒ = န၊ ဒ---မ၊ နု၊ နု၊ နု၊ နု ဖိုလ်၊ ဖိုလ်များစွာ ---ဘွင်
တိက္ခ= န၊ ဒ --- မ - နု၊ နု၊ နု ဖိုလ်၊ ဖိုလ်များစွာ---ဘွင်

**အဘိညာဏ်ဝိထိ (အဘိ = ထူးကဲသော / ဉာဏ = ဉာဏ်)**

ရိုးရိုးစျာန်များမှ ထူးကဲလွန်မြတ်သောဉာဏ်၊ အလိုရှိသလို ဖန်ဆင်းနိုင်၊ မြင်နိုင်၊ ကြားနိုင်၊ ရှေ့နောက်ဘဝတို့ကို သိနိုင်သော တန်ခိုး အဘိဉာဏ်များ ဖြစ်သည်။ ထိုအဘိဉာဏ်တန်ခိုးကို ရရှိရန်၊ ရူပါဝစရ ပဥ္စမစျာန်ကို အခြေခံယူကာ အလိုရှိသလို ဖန်ဆင်းနိုင်အောင် အဓိဋ္ဌာန် ပြု၍ ထိုရူပါဝစရပဥ္စမစျာန်ကိုပင် အထပ်ထပ်ပွားများလျှင် အဘိညာဏ် တန်ခိုးများ ရရှိသည်။

**ပထမ**-ရူပါဝစရပဥ္စမစျာန်ကို ပွားများသဖြင့် အခြေခံ ရူပါဝစရပဥ္စမစျာန် ဝိထိဖြစ်၏။

ပုံစံ = မန္ဒ = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ၊ ပဥ္စမစျာန် ---ဘွင်
တိက္ခ= န၊ ဒ---မ- ဥ-နု၊ ဂေါ၊ ပဥ္စမစျာန် ---ဘွင်

**ဒုတိယ**-ထိုပဥ္စမစျာန်ကို အခြေခံ ပွားများပြီးလျှင် မိမိ အလိုရှိသလို ဖန်ဆင်းနိုင် မြင်နိုင် ကြားနိုင် သိနိုင်အောင် အဓိဋ္ဌာန်ရ၏။ထိုအခါ အဓိဋ္ဌာနဝိထိ ဖြစ်၏။ (ပစ္စဝေက္ခဏာဝိထိပုံစံနှင့် တူ၏။)

ပုံစံ = န - ဒ - - - မ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ၊ ဇ --- ဘွင်ဟုဖြစ်၏။

**တတိယ**-ထိုသို့ အဓိဋ္ဌာန်ဝိထိပြီးလျှင် အခြေခံရူပါဝစရပဥ္စမစျာန်ကို အထပ်ဲ ဝင်စားရပြန်၏။(သမာမဇ္ဇနဝိထိနှင့် တူ၏။)

ပုံစံ = မန္ဒ = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ၊ ပဥ္စမစျာန်များစွာ---ဘွင်
တိက္ခ= န၊ ဒ---မ- ဥ-နု၊ ဂေါ၊ ပဥ္စမစျာန်များစွာ---ဘွင်

**စတုတ္ထ**-ထိုနောင် အဓိဋ္ဌာန်သောအတိုင်း အဘိညာဏ်ဝိထိ ဖြစ်လာ၏။

ပုံစ • မန္ဒ= န၊ ဒ---မ၊ ပ၊ ဉ၊ နု၊ ဂေါ၊ အဘိညာဏ်စျာန် တစ်ကြိမ် --- ဘွင်

တက္ခ= န၊ ဒ --- မ-ဉ-နု၊ ဂေါ၊ အဘိညာဏ်စျာန် တင်ကြိမ် --- ဘွင်

*ပါဒကစျာန်၊ အဓိဋ္ဌာန်နှင့်၊ တစ်ဖန်ပါဒက၊ စတုတ္ထ ကျတုံ အဘိညာ၊*

ထိုအဘိညာဏ်ဝီထိဖြစ်ပြီးလျှင် အလိုရှိသလို ဖန်ဆင်းနိုင်၊ မြင်နိုင်၊ ကြားနိုင်၊ သိနိုင်တော့သည်။

## နိရောဓသမာပတ္တိဝီထိ (ချုပ်ငြိမ်းမှုကို ဝင်စားခြင်း)

ခန္ဓပရိနိဗ္ဗာန်မစံခင် စိတ်၏ငြိမ်းချမ်းခြင်းကိုခံစားလို၍ စိတ်၊ စေတသိက်၊ စိတ္တဇရုပ်တို့ ၇-ရက်ခန့် ချုပ်ငြိမ်းအောင် ပြုခြင်းကို **နိရောဓသမာပတ်ဝင်စား** သည်ဟု ခေါ်သည်။ နိရောဓသမာပတ်ကို သမာပတ် ၈-ပါး, ၉-ပါး ရရှိပြီးသော အနာဂါမ်နှင့် ရဟန္တာပုဂ္ဂိုလ်တို့သာဝင်စားနိုင်၏။ လူ့ပြည်၌ အလွန်ဆုံး ၇-ရက်သာ ဝင်စားနိုင်သည်။နတ်ပြည်, ဗြဟ္မာပြည်တို့၌ ထို့ထက်ပို၍ ဝင်စားနိုင်သည်။

နိရောဓသမာပတ်ကို ဝင်စားလိုသော **အနာဂါမ်ရဟန္တာတို့သည်** ရူပါဝစရ(ပ+ဒု+တ+စ+ပဥ္စမ)စျာန် အရူပါဝစရ(အာကာသာ-ဝိညာနဉ္စာ-အာကိဉ္စညာယတနစျာန်ထိအောင် အဆင့်ဆင့် ဝင်စားရ၏။ စျာန်တစ်ခုစီဝင်စားပြီးတိုင်း ဝင်စားပြီးတိုင်း ထိုစျာန်ကို အနိစ္စ, ဒုက္ခ,အနတ္တဟု-လက္ခဏာရေးသုံးပါးဖြင့် ဝိပဿနာရှုရ၏။ အာကိဉ္စညာယတန စျာန်ကို ဝင်စားပြီးသောအခါ၌ကား လက္ခဏာရေးသုံးပါးဖြင့် ဝိပဿနာ ဆက်မရှုသေးဘဲ၊ မိမိပစ္စည်းများမပျက်စီးရန် ဘုရားရှင်နှင့် သံဃာတော်များခေါ်လျှင် သိရန်၊ **အသက်အပိုင်းအခြားကို ကြည့်၍** ၇-ရက်နေမည် စသည်ဖြင့် အဓိဋ္ဌာန်ခြင်း ပြုရမည်။

ထို့နောက်မှ နေဝသညာ နာသညာယတနစျာန်ကို **ဆက်ဝင်စား၍** နေဝသညာနာသညာယတနစျာန် ၂-ကြိမ်ဖြစ်ပြီး (စိတ်-စေတသိက်-စိတ္တဇရုပ်တို့ ချုပ်ခြင်း = **(နိရောဓ)**သို့ ရောက်တော့၏။

၇-ရက်စေ့၍ နိရောဓသမာပတ်မှ ထသောအခါ အနာဂါမ်ပုဂ္ဂိုလ်ဖြစ်လျှင် အနာဂါမိဖိုလ်ဇော တစ်ကြိမ်၊ ရဟန္တာဖြစ်လျှင် အရဟတ္တဖိုလ်ဇော တစ်ကြိမ်ဖြစ်၍ ဘဝင်ကျ၏။

## နိရောဓသမာပတ်ဝီထိပုံစံ

ပုံစံ = မန္ဒ = န၊ ဒ---မ၊ ပ၊ ဥ၊ နု၊ ဂေါ-**နေဝသညာစျာန် ၂-ကြိမ် (နိရောဓ)**ဖိုလ် --- ဘွင်။

တိက္ခ= န၊ ဒ---မ- ဥ-နုဂေါ-နေဝသညာစျာန် ၂-ကြိမ်**(နိရောဓ)** ဖိုလ် --- ဘွင်။

အပ္ပနာဝီထိများ အကျဉ်းချုပ် ပြီး၏။

(အကျယ်ကား များစွာ ရှိသေး၏။)

## ကာမာဝစရ ဉာဏသမ္ပယုတ်ဇော ၈-ခုနောင် – အပ္ပနာ ဇောများ နောင်းပုံ

| စည်းကမ်းချက် လင်္ကာ | **သောမှာ-သောချင်း၊ ဥ-ဥ ချင်း၊ ယှဉ်လျှင် ကာ-ပနာ။** ကု=ကု-ဖိုလ်သုံး၊ ကြီ=ကြီ-ရုံး၊ ထက်ဆုံး ဖိုလ်အပါ။ |
|---|---|

| ကာမဉာဏ်ဇော | အပ္ပနာဇောအကျယ်-၅၈ | စုစုပေါင်း |
|---|---|---|
| မဟာကုသိုလ် ပ-ဒွေ = | မဟဂ္ဂုတ်ကု သော-၄+မဂ်ကု သော-၁၆ အောက်ဖိုလ် ၃-ခု-သော-၁၂ | ၃၂ |
| မဟာကု-တ- | မဟဂ္ဂုတ်ကု-ဥ-၅ + မဂ်ကု-ဥ - ၄ + အောက်ဖိုလ် ၃-ခု ဥ-၃ | ၁၂ |
| မဟာကြီ-ပ- ဒွေ = | မဟဂ္ဂုတ်ကြီ သော-၄ + အရဟတ္တဖိုလ် သောမနဿ-၄ | ၈ |
| မဟာကြီ-တ ဒွေ = | မဟဂ္ဂုတ်ကြီ-ဥပေက္ခာ ၅+အရဟတ္တဖိုလ် ဥပေက္ခာ-၁ | ၆ |

**လင်္ကာ =သော-ကု**နောင်ဖြစ်၊ **သုံးဆယ့်နှစ်။တစ်ဆယ့်နှစ် ဥ-ကု**မှာ။
**သော-ကြီ**နောင်**ရှစ်၊ ဥ-ကြီနှစ်၊** နောက်ဖြစ် **ခြောက်ပနာ။**

## ဝိပါက နိယာမ (ဝိပါက်ဖြစ်ပုံ စည်းကမ်းချက်)

နိယာမ-ဟူသည် စည်းကမ်းချက်၊ မှတ်သားခြင်းကို ခေါ်သည်။ ဝိပါကနိယာမဟူသည် ဝိပါက်ဖြစ်ပုံ၊ ချပုံစည်းကမ်းပင် ဖြစ်သည်။ ဇော ဖြစ်ပုံ၊ ချပုံ စည်းကမ်းချက်ကို ဇဝနနိယာမ-ဟု ခေါ်သည်။

**ဝီထိများချခဲ့စဉ်က**

ပဉ္စဝိညာဏ် + သမ္ပဋိစ္ဆိုင်း + သန္တီရဏ + ဝုဋ္ဌော + ဇော + တဒါရုံ

↓ ↓ ↓ ↓

ဝိပါက်စိတ် ဝိပါက်စိတ် ဝိပါက်စိတ် ဝိပါက်စိတ်

အထက်ပါဝိထိစဉ်တွင် ဝိပါက်စိတ်များကို ဝီထိချစဉ်က ဖော်ပြပါ အတိုင်း အမည်သာမည်ကိုသာ ဆိုခဲ့သည်။ အကုသလဝိပါက်နှင့် ဆိုင်သော ပဉ္စဝိညာဏ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ-လော၊ အဟိတ်ကုသလဝိပါက်နှင့် ဆိုင်သော၊ ပဉ္စဝိညာဏ် + သမ္ပဋိစ္ဆိုင်း+ သန္တီရဏ-လော-ဟု ခွဲခြား၍မဆိုခဲ့၊ တဒါရုံတွင်လည်း သောမနဿ တဒါရုံလော၊ ဥပေက္ခာ တဒါရုံလော-ဟု ခွဲခြား၍မဆိုခဲ့၍ ဝိပါကနိယာမ၌ ကုသလဝိပါက်၊ အကုသလဝိပါက်၊ သောမနဿ၊ ဥပေက္ခာ စသည်ဖြင့် ဝိပါက်စိတ်များကို အာရုံအလိုက် ခွဲခြား၍ သတ်မှတ်ပြမည်။

**ပဉ္စဝိညာဏ်နှင့် သမ္ပဋိစ္ဆိုင်းအတွက်**

၁။ အာရုံသည် **ဣဋ္ဌာရုံ**(ကောင်းသောအာရုံ)၊ **ဣဋ္ဌမဇ္ဈတ္တာရုံ**(အလယ် အလတ် ကောင်းသောအာရုံ **အတိဣဋ္ဌာရုံ**(အလွန် ကောင်းသော အာရုံ) ဖြစ်လျှင် အဟိတ်ကုသလဝိပါက် --> ပဉ္စဝိညာဏ်၊ သမ္ပဋိစ္ဆိုင်းတို့ကို ချရမည်။

၂။ အာရုံသည် **အနိဋ္ဌာရုံ** (အလိုမရှိအပ်၊ မနှစ်သက်အပ်သော မကောင်းသောအာရုံ) ဖြစ်လျှင် အကုသလဝိပါက်-ပဉ္စဝိညာဏ်၊ သမ္ပဋိစ္ဆိုင်းတို့ကို ချရမည်။

## သန္တီရဏသုံးပါးအတွက်

၁။ အာရုံသည် **ဣဋ္ဌာရုံ**(ကောင်းသောအာရုံ)၊ **ဣဋ္ဌမဇ္ဈတ္တာရုံ** (အလယ်အလတ်ကောင်းသောအာရုံ)ဖြစ်လျှင် **ကုသလဝိပါက်-->ဥပေက္ခာသန္တီရဏကို** ချရမည်။ (သာမန်ကောင်းသည့် မြင်+ကြား+နံ+စား+ထိ+သိ အာရုံများ)

၂။ အာရုံသည် **အတိဣဋ္ဌာရုံ** (အလွန်အလိုရှိအပ် ကောင်းမြတ်သောအာရုံ)ဖြစ်လျှင် **အဟိတ်ကုသလဝိပါက် သောမနဿသန္တီရဏစိတ်**ကို ချရမည်။(အလွန်ကောင်းသော ရတနာသုံးပါးနှင့် စပ်သောအာရုံ၊ စိန်၊ ရွှေ၊ နန်းတော် စသော အလွန်ကောင်းသည့် မြင် + ကြား + နံ + စား + ထိ + သိ အာရုံများ)

၃။ အာရုံသည် **အနိဋ္ဌာရုံ** (အလိုမရှိအပ်၊ မနှစ်သက်အပ်သော မကောင်းသောအာရုံ)ဖြစ်လျှင် **အကုသလဝိပါက် ဥပေက္ခာသန္တီရဏ**စိတ်ကို ချရမည်။(မနှစ်သက်အပ်သောမစင် ခွေးကောင်ပုပ်အစရှိသော မြင်၊ ကြား၊ နံ၊ စား၊ ထိ၊ သိ၊ အာရုံများ)

## တဒါရုံအတွက် (မဟာဝိပါက်စိတ် ၈-ပါး၌)

(သန္တီရဏသုံးပါးအတွက် အထက်က ဆိုပြီးဖြစ်၍ မဟာဝိပါက်စိတ် ၈-ပါးအတွက်သာ ကျန်တော့သည်)

၁။ အာရုံသည် **ဣဋ္ဌာရုံ**(ကောင်းသောအာရုံ)၊ **ဣဋ္ဌမဇ္ဈတ္တာရုံ** (အလယ်အလတ်ကောင်းသောအာရုံ)ဖြစ်လျှင် **မဟာဝိပါက်ဥပေက္ခာလေးပါး**ကို ချရမည်။

၂။ အာရုံသည် **အတိဣဋ္ဌာရုံ** (အလွန်ကောင်းသောအာရုံ)ဖြစ်လျှင် **မဟာဝိပါက် သောမနဿလေးပါး**ကို ချရမည်။

## ကာမဇောများ နောင် တဒါရုံဖြစ်ရာ၌ ဝေဒနာအလိုက် ဖြစ်ပုံ

၁။ သောမနဿကြိယာဇောနောင် --> သောမနဿတဒါရုံ

၂။ ဥပေက္ခာကြိယာဇောနောင် --> ဥပေက္ခာတဒါရုံ

၃။ ဒေါသမူဇောနောင် --> ဥပေက္ခာတဒါရုံတို့ ဖြစ်ပါသည်။

အာရုံအားဖြင့် ဝေဒနာကို သတ်မှတ်သော်

၁။ **အနိဋ္ဌာရုံ** (မကောင်းသောအာရုံ)၌ ဒေါမနဿဝေဒနာ

၂။ **ဣဋ္ဌာရုံ (ဣဋ္ဌမဇ္ဈတ္တာရုံ)** အလယ်အလတ် ကောင်းသောအာရုံ၌ ဥပေက္ခာဝေဒနာ

၃။ **အတိဣဋ္ဌာရုံ** (အလွန်ကောင်းသောအာရုံ)၌ သောမနဿဝေဒနာ

နည်းကမ်းချက်လင်္ကာ

*ဣဋ္ဌာရုံတွင်၊ ကု-ဝိယှဉ်၊ တိ-တွင် သောမနဿ်။*
*အနိဋ္ဌာပြို၊ အကု-ဝိ၊ ကြိယည်း ဝိ-နှယ်တပ်။*
*ဒေါနောက်မှာမူ၊ တဒါဘဝင်၊ သောမယှဉ် ဥ-လျှင် အမြဲမှတ်။*

ကာမဇောများ နောင် တဒါရုံဖြစ်ပုံကို ခွဲခြားမှတ်သားခြင်း

| ကာမဇော-၂၉ | | တဒါရုံ-၁၁ | |
|---|---|---|---|
| ကြိယာဥပေက္ခာဇော-၄ | ၄ | ဥပေက္ခာသန္တီ ၂+ မဟာဝိ-ဥပေက္ခာ-၄ | ၆ |
| ဒေါသမူဇော-၂ | ၂ | ဥပေက္ခာသန္တီ ၂+မဟာဝိ-ဥပေက္ခာ-၄ | ၆ |
| ဟသိတုပ္ပါဒ်ကြိယာဇော-၁ မဟာကြိယာ သောမနဿဇော-၄ | ၅ | သောမနဿသန္တီရဏ- ၁ + မဟာဝိပါက်သောမနဿ-၄ | ၅ |
| လောဘမူဇော ၈+မောဟမူဇော-၂+မဟာကုသိုလ်-၈= | ၁၈ | တဒါရုံ ၁၁-ပါးလုံး ဖြစ်။ | ၁၁ |

### ကာမဇောနောင် တဒါရုံဖြစ် လင်္ကာ

***လော+မော+ကု***-နောင်-->***အကုန်ဆောင်***၍၊ ***ဒေါ်***-နောင် --> ***ဥ-ဆ***၊ ***သောမန်-ကြိ***မှာ -->***သောပဥ္စ***တည်း၊ ***ကြိယာ-ဥ-မှ***-->***ဥ-ဆ***-တဒါ ဖြစ်ပို့လာသည်။ သေချာမှတ်လေ၊ အမြဲတည်း။

တဒါရုံသည် ကာမဇောနောက်၌သာ ကျရိုးထုံးစံရှိ၏။ အပ္ပနာဇော တို့ နောင် မကျသည်ကို ပြခဲ့ပြီ။ ကာမဇော၊ ကာမသတ္တဝါ၊ ကာမအာရုံ ၃-ပါးစုံမှ တဒါရုံကျသည်။

**လင်္ကာ** = ပုဂ္ဂိုလ်ကာမ၊ ဇောကာမနှင့်၊ ကာမအာရုံ ၃-ချက်စုံ တဒါရုံ၏ အခွင့်တည်း။

## အာဂန္တုကဘဝင်စိတ် (ဧည့်သည်ဘဝင်စိတ်) အကြောင်း

မူလ ပဋိသန္ဓေတုန်းက **သောမနဿ**ဖြင့် ပဋိသန္ဓေ နေခဲ့၏။ ထိုပုဂ္ဂိုလ်၏သန္တာန်၌ ယခုအခါ **ဒေါသဇော** ဇောနေ၏။ ထိုသောမနဿ ဖြင့် ပဋိသန္ဓေနေပြီး ဒေါသဇော ဇောနေသူသန္တာန်၌ အဘယ်တဒါရုံဘဝင် စိတ်များ ဖြစ်မည်နည်းဟု စိစစ်ရာ၌ သောမနဿဖြင့် ပဋိသန္ဓေနေခဲ့သူ ဖြစ်၍ (တစ်ဘဝ၌ တူမြဲတရား ၃-ပါး=ပဋိသန္ဓေ၊ ဘဝင်၊ စုတိစိတ်တို့ တူရမည်ဟူသော စည်းကမ်းချက်ဖြင့်) **သောမနဿတဒါရုံ** ဘဝင်စိတ်ချ ခဲ့သော် လောလောဆယ်ဖြစ်နေသော **ဒေါသဇော**နှင့် (ဝမ်းမြောက်မှုနှင့် စိတ်ဆင်းရဲမှု) **ဝေဒနာချင်း ဆန့်ကျင်ဘက်** ဖြစ်နေ၏။တစ်ဖန် **ဒေါသဇော** နောင် **ဥပေက္ခာတဒါရုံဘဝင်** ချရန်မှာလည်း **မူလပဋိသန္ဓေ သောမနဿ** နှင့် **အာရုံချင်း ဆန့်ကျင်နေပြန်**၏။

ထိုအခြေအနေမျိုးတွင် ၂-ခုလုံးနှင့် မဆန့်ကျင်အောင် **ဥပေက္ခာ သန္တီရဏစိတ်တစ်ခုသည် သန္တီရဏကိစ္စအနေဖြင့် မဟုတ်ဘဲ** အပို ဧည့်သည် (အာဂန္တုကဘဝင်ကိစ္စ)တပ်၍ ရှေးက လေ့ကျက်ခဲ့ဖူးသော ထိုအချိန်၌ မနောဒွါရဝယ် ထင်လာသော ကာမအာရုံ ၆-ပါးတွင် တစ်ပါး ပါးကို အာရုံပြု၍ တစ်ကြိမ် ဖြစ်ပေးရ၏။ ထို့နောက်မှ မူလသောမနဿ ပဋိသန္ဓေစိတ်နှင့် တူစွာ သောမနဿဘဝင် ဆက်၍ကျနိုင်တော့၏။ **(ထိုသို့**

**ကြားထဲ၌ အပိုညှော်သည်ပမာ ပါဝင် ဆောင်ရွက်ပေးရသည်ကို အာဂန္တုက ဘဝင်ကျသည်ဟု ခေါ်သည်။)**

## ဝိပါက်အမှန် ဇောအပြန်

ဝိပါက်အမှန်ဆိုသည်မှာ ဝီထိစိတ်များတွင် စက္ခုဝိညာဏ် စသည် + သမ္ပဋိစ္ဆိုင်း+သန္တီရဏ+တဒါရုံ ဝီထိစိတ်များမှာ ဝိပါက်စိတ်များ ဖြစ်သည်။ ထိုဝိပါက်စိတ်များသည် ဝိပါကနိယာမက စည်းကမ်းအတိုင်း **အနိဋ္ဌာရုံ၌ အကုသလဝိပါက်၊ ဣဋ္ဌာရုံနှင့် အတိဣဋ္ဌာရုံတို့၌ ကုသလဝိပါက်ဖြစ်မှု** မြဲသည့်အပြင် ဝေဒနာဖြစ်မှုမှာလည်း **အနိဋ္ဌာရုံ၌ ဒေါမနဿဝေဒနာ၊ ဣဋ္ဌာရုံ၌ ဥပေက္ခာဝေဒနာ၊ အတိဣဋ္ဌာရုံ၌ သောမနဿဝေဒနာဖြစ်မှု** မှန်ကန်လေသည်။ မပြောင်းလဲပေ၊ ထို့ကြောင့် **ဝိပါက်အမှန်**ဟု ဆိုရလေသည်။

**ဝိပါက်စိတ်များသည်** ကံ၏အကျိုးတရားဖြစ်၍ အားထုတ်မှု ဥဿာဟသတ္တိကင်းသဖြင့် ထိုထို၌၌ ကြံဆ၍ အာရုံကို မယူကြကုန်၊ **အာရုံအတိုင်းသာ ဖြစ်ကြရကုန်၏။ မှန်ကိုကြည့်ရာ၌ ကြည့်သူအတိုင်းသာ ပေါ်သကဲ့သို့ မှတ်အပ်၏။**

**ဇောမှာကား** ထိုသို့မဟုတ် ဝိပ္ပလ္လာသ(ဖောက်ပြန်မှု) မကင်းသေးသော ပုထုဇဉ်၊ သေက္ခပုဂ္ဂိုလ်တို့ သန္တာန်၌ အကောင်းကိုလည်း မကောင်း ထင်တတ်၏။ မကောင်းသည့်အရာကိုလည်း အကုသိုလ်ကံကြောင့် အကောင်းဟု ထင်တတ်၏။ ပုဂ္ဂိုလ်ကိုလိုက်၍ ကောင်း+မကောင်း ဖောက်ပြန်တတ်၏။ သာမန်အစားအစာကို သူတောင်းစားသည် အကောင်းဟု သတ်မှတ်သော်လည်း ရှင်ဘုရင်နှင့် သူဌေးသူကြွယ်တို့သည် အညံ့စားဟုသာ ထင်မှတ်သည်။ မစင်+ခွေးကောင်ပုပ် စသည်ကို ကျီး+လင်းတ+ခွေးတို့က သောမနဿဇော စောနေပြီး၊ လူတို့အတွက် ဒေါသဇော ဖြစ်နေသည်။ ဘုရား စသည်၌ ဗုဒ္ဓဘာသာတို့ သောမနဿဖြစ်သော်လည်း၊ အယူများရှိသူတို့က ဒေါသဇော ဖြစ်နေတတ်၏။ ဤသို့ ဇောများမတူ ဖောက်ပြန်ကွဲပြားတတ်သည်ကို **ဇောအပြန်**ဟု ခေါ်သည်။

ဝိပ္ပလ္လာသကင်းပြီးသော ဘုရားရဟန္တာတို့ သန္တာန်၌ကား ဝိပါက်လည်း အမှန်၊ ဇောလည်း မဖောက်ပြန် အမှန်ချည်းသာ ဖြစ်သည်။

## ဇောနိယာမ(ဇောအကြိမ်အရေအတွက် မှတ်သားခြင်း)

| | | |
|---|---|---|
| ကာမဇော တို့သည် | သာမာန်အခါ၌ | ၇-ကြိမ်(သို့)၆-ကြိမ် |
| | **သေခါနီးအခါ၊မိန်းမောသောအခါ၌** | ၅ |
| | **ဘုရားရှင်၏တန်ခိုးပြာဋိဟာ** ပြသောအခါ၌ | ၅ (သို့) ၄ |
| | ဉာဏသမ္ပယုတ် ကု+ကြိ(ဥပစာရ ဇော)တို့သည် | မန္ဒ - ၄ ။ တိက္ခ - ၃ |
| မဟဂ္ဂုတ် ဇော တို့သည် | **ဈာန်ကို အစဆုံးရသူ (အာဒိကမ္မိက ပုဂ္ဂိုလ်အား) ဈာန်ဇော** | ၁ |
| | **အဘိညာဏ်ဇော** | ၁ |
| | **နိရောဓသမာပတ်ဝင်စားသောအခါ** နေဝသညာ-ဇော(နိရောဓရှေ့) | ၂ |
| | ရပြီးဈာန်ကို **ပြန်ဝင်စားသော** ပုဂ္ဂိုလ်အား(ဈာနသမာပတ္တိဝီထိ၌) | ဈာန်အကြိမ်များစွာ |
| လောကုတ် ဇော တို့သည် | **မဂ်ဇော** - တို့သည် | ၁ |
| | **နိရောဓမှ ထသောအခါ** - ဖိုလ် ဇောတို့သည် | ၁ |
| | မဂ္ဂဝီထိ၌၊ မဂ်၏အခြားမဲ့၌- **ဖိုလ်**ဇောတို့သည် | မန္ဒ - ၂။ တိက္ခ - ၃ |
| | (ဖလသမာပတ္တိဝီထိ၌) **ဖိုလ် ပြန်ဝင်စား**သောပုဂ္ဂိုလ်အား | ဖိုလ်အကြိမ်များစွာ |

ဈာန်၊ ဖလသမာပတ္တိဝီထိတို့၌ ဘဝင်၏အယဉ်ကဲ့သို့ ဝီထိကိုမှတ်ခြင်းမရှိသောကြောင့် အပ္ပနာဇောတို့ အကြိမ်များစွာဖြစ်ကုန်၏။ (သင်္ဂဟ) (နေ့ညဉ့်ပတ်လုံးသမာပတ်ဝင်စားခြင်းငှာ ဖြစ်နိုင်သောကြောင့် ၊ ဋီ ၊ )

**ဈာန်နှင့် တွဲကြည့်ရန် လင်္ကာ**

အရိုး**သတ်ဆ**၊ အားနည်းလှ **ပဉ္စ** အကြိမ်သာ။
ဝသီခေါင်ဖျား၊ စျာန်နှင့်ငြား၊ **လေး-ငါး** နှစ်တွေလာ။
ကာမ ရှစ်တန်၊ ကု + ကြိ-ဉာဏ်၊ **သုံး**-တန် **လေး**ကြိမ်သာ။
အာဒိကမ္မ၊ မဂ် + ဘိညာ၊ ရောဆုံး**ကော** (တစ်ကြိမ်ဇောများ)
မဂ်နောင်ဖိုလ်လေး၊ **နှစ် သုံး**ရေး၊ နိရှေး၊ နေ-**နှစ်**သာ။
ဆိုပြီးသည်မှ၊ ကြွင်းသမျှ၊ **များ**လှ၊ ကြိမ်ပနာ။

**ဘုံ၌ ဝီထိစိတ်ရ**

**(ဘုံအသီးသီးတို့၌ ရနိုင်သော ဝီထိစိတ်ကို ပြဆိုခြင်း)**

**ကာမဘုံ၌-** (မဟဂ္ဂုတ်ဝိပါက် ၉-ခုကြဉ်သော) စိတ်ပေါင်း ၈၀-တို့ကို ရအပ်၏
(မဟဂ္ဂုတ်ဝိပါက်-၉-ပါးသည် ဝီထိမုတ်စိတ်ဖြစ်၏။)

**လင်္ကာ** = မဟဂ်ဝိကြဉ်၊ ကာမတွင်၊ စိတ်လျှင် **ရှစ်ဆယ်ရ**။

**(အသညသတ်ကြဉ်)** ဃာနဝိညာဏ်ဒွေ+ ဇိဝှါဝိညာဏ်ဒွေ+ကာယဝိညာဏ်ဒွေ+
**ရူပ ၁၅-ဘုံ၌-** မဟာဝိပါက်စိတ် ၈-ပါး+ ဒေါသမူဒွေ+ အရူပဝိပါက် ၄-ခု
ဤ ၂၀-သောစိတ်တို့ကို ကြဉ်၍ ကျန်စိတ် ၆၉-ပါးတို့ကို ရအပ်၏

(၆၉ မှ ရူပဝိပါက် ၅-ပါးနှုတ် -၆၄-ပါးသည် ရူပဘုံ၌ရသောဝီထိဖြစ်၏။)

**လင်္ကာ** -ဆဃာနဒိ၊ မဟာဝိရှစ်၊ ဒေါနှစ်တမူ၊ အရူဝိလေး+ ကြဉ်ရေးနှစ်ဆယ်
ဆနော ကြွယ်၊ **ခြောက်ဆယ်ကိုး** ရူပ။

**အရူပ ၄-ဘုံ၌-** ဝတ္ထုရုပ်ကိုမှီ၊ မမှီမူ၍ ဖြစ်သောစိတ် ၄၂+အရူပဝိပါက် ၄=၄၆-
ပါးတို့ကို ရအပ်၏။

(၄၆-မှ- အရူပဝိပါက်-၄-ပါးနှုတ်၍ ၄၂-ပါးသည် အရူပဘုံ၌ရသောဝီထိစိတ် ဖြစ်သည်။)

**လင်္ကာ** -ဝတ္ထုရုပ်စီ၊ မှီ/မမှီလစ်၊ လေးဆယ့်နှစ်ဟူ၊ အရူဝိလေး၊ ပေါင်းထွေး
တုံနောက်၊ လေးဆယ့်ခြောက်၊ ရွေးကောက်အရူပ။

မှတ်ချက်။ ။ရနိုင်သောစိတ်ဟုဆိုလျှင်-ရူပ၌-၆၉၊ အရူပ၌-၄၆၊ ရနိုင်သောဝီထိစိတ်ဟု ဆိုလျှင်
ရူပ၌-၆၄၊ အရူပ၌-၄၂ ဖြစ်သည်။)

**ဝတ္ထုရုပ်ကို မှီ/မမှီ စိတ်-၄၂** *(လောမောဆယ်ဖြာ၊ မနောဒွါ၊ မဟာကု၊ ကြိ-ရှစ်၊ ကု-ကြိရှစ်ဖြာ၊ အရူပါ၊ ကုတ်မှာထက်ခုနှစ်။ ဝတ္ထုရုပ် စီ၊ မှီ + မမှီ၊ ပေါင်းညီ လေးဆယ့်နှစ်။)*

ပုဂ္ဂိုလ်စိတ်ရ

(ပုဂ္ဂိုလ်အသီးသီး၌ ရသောစိတ်ကို ရေတွက်ခြင်း)

**ပုဂ္ဂိုလ် ၁၂-ယောက်**

**ဒု + သု + ဒွိ + တိ၊ ယာအရိ၊ ပေါင်းဘိ ဒွါဒသာ၊**

ဒုဂ္ဂတိအဟိတ်၊ သုဂတိအဟိတ်၊ ဒွိဟိတ်၊ တိဟိတ်။ အရိယာ ၈-ပေါင်း၊ ၁၂-ယောက်။

**ကာမဘုံအတွက်**

| | | | |
|---|---|---|---|
| ဒုဂ္ဂတိအဟိတ်ပုဂ္ဂိုလ် | မဟာကုသိုလ် ၈-ပါး<br>အကုသိုလ်စိတ် ၁၂-ပါး<br>ဟသိကြဉ်၊အဟိတ်၁၇-ပါး | ၃၇-ပါး | (စျာန်ရ မရှိ) |

**လက်ာ** = *မဟာကုသိုလ်၊ အကုသိုလ်၊ ဟိတ်ကို ဟသိကြဉ် ဒုဂ္ဂတိအဟိတ်၊ ပုဂ္ဂိုလ်စိတ်၊ ကိလိဋ္ဌ အမြဲယှဉ်* ***သုံးဆယ့်ခုနှစ်၊*** *ဤမျှဖြစ်၊ လေးရစ် အပါယ်ခွင်*

| | | | |
|---|---|---|---|
| ဒွိဟိတ်ပုဂ္ဂိုလ်<br>သုဂတိအဟိတ်ပုဂ္ဂိုလ် | အထက် ၃၇-ပါး<br>+<br>**မဟာဝိပါက်ဝိပ္ပယုတ်-၄** | ၄၁-ပါး | (စျာန်ရ မရှိ) |

**လက်ာ** = *ဝိ - ဝိပ္ပယုတ် လေး၊ သွင်းပြန်သေး၊* ***လေးဆယ့်တစ်*** *ခုပင် ဒွိ - သု-တို့မှာ၊ ဤမျှသာ ရရာအမြဲယှဉ်။*

| | | | |
|---|---|---|---|
| တိဟိတ်ပုဂ္ဂိုလ်<br>(စျာန်မရရိုးရိုးတွက်) | အထက် ၄၁-ပါး+<br>**မဟာဝိပါက်သမ္ပ<br>ယုတ် ၄-ပါး** | ၄၅ | (စျာန်ရ)တိဟိတ်အတွက်<br>၄၅-ပါးတွင် မဟဂ္ဂုတ်<br>ကုသိုလ် ၉-ပါးထည့်။(၅၄)

*လင်္ကာ* = *ဝိ-သမ္ပယုတ္တ၊ သွင်းပြန်က၊ ကာမတိဟိတ်ပင်။*
*ဈာန် မရခြား၊ **လေးဆယ့်ငါး**၊ မှတ်သား သတိထင်။*
*ဈာန်ရတုံသေး၊ **ငါးဆယ့်လေး**၊ မှတ်ရေးကြံ ဆင်ခြင်။*

*(မှတ်ချက်)* မဂ္ဂဋ္ဌာန် (မဂ်ပုဂ္ဂိုလ်) လေးယောက်တို့သည် ဆိုင်ရာမဂ် တစ်ပါးစီသာ ရအပ်၏။

*လင်္ကာ* = **မဂ္ဂဋ္ဌာန်စု၊ မဂ်လေးခု၊ ရမှု ကေသာ။**

| | | | |
|---|---|---|---|
| (ဈာန်မရ) သောတာပတ္တိဖလဋ္ဌာန် ပုဂ္ဂိုလ်(သကဒါဂါမိ ဖလဋ္ဌာန်ပုဂ္ဂိုလ်) | (အထက် ၄၅-ပါးမှ **ဒွိဋ္ဌသံ-၄+ဝိစိကိစ္ဆာကြဉ်** ၄၀+သောတာပတ္တိ ဖိုလ် ၁ = (သကဒါဂါမိဖိုလ်) | ၄၁ | (ဈာန်ရအတွက်) ၄၁+မဟဂ္ဂုတ်ကု-၉=၅၀ |

*လင်္ကာ* = *ဒိဋ္ဌိသံ + ဝိစိ၊ ကြဉ်တုံဘိ၊ အာဒိ - ဒွေ့ ဖလာ။*
***လေးဆယ့်ငါး**တွင်၊ ငါးခုပင်၊ နှုတ်ငင်ပယ်လိုက်ရှား။*
*သော-ဖိုလ်သွင်းလစ်၊ **လေးဆယ့်တစ်**၊တရစ် ကာမ သား။*
*သကဒါဂါမ်တွင်၊ ၎င်းပင်၊ ဖိုလ်လျှင် လှယ်၍ထား။*

| | | | |
|---|---|---|---|
| (ဈာန်မရ) | အထက်ပါ ၄၀-တွင် **ဒေါသမူ** | ၃၉ | (ဈာန်ရအတွက်) |
| အနာဂါမိဖလဋ္ဌာန် ပုဂ္ဂိုလ် | ဒွေကိုထပ်ကြဉ် ၃၈+ အနာဂါမိဖိုလ်-၁ | | ၃၉+မဟဂ္ဂုတ်-ကု-၉=၄၈ |

*လင်္ကာ* = *ဒေါကိုပယ်ပြန်၊ အနာဂါမ်၊ အကျန်သူတို့မှာ၊*
*ဖိုလ်ချင်းဖလှယ်၊ နာဂါမ်ဝယ်၊ **သုံးဆယ့်ကိုးခု**ပွား။*

| | | | |
|---|---|---|---|
| (ဈာန်မရ) | အဟိတ်စိတ် ၁၈-ပါး | | (ဈာန်ရအတွက်) |
| အရဟတ္တဖလဋ္ဌာန် ပုဂ္ဂိုလ် (ရဟန္တာ) | မဟာဝိ-၈+မဟာကြိ-၈ အရဟတ္တဖိုလ်-၁ | ၃၅ | ၃၅+မဟဂ္ဂုတ်ကြိ-၉ ထည့် = ၄၄ |

*လင်္ကာ* = *ဟိတ်ဌာရသာ၊ ကြိယာ၊ မဟာဝိပါက်ငြား။*
*အရဟတ္တဖိုလ်လျှင်၊ တစ်ခုပင်၊ သွင်းလျှင်* ***သုံးဆယ့်ငါး။***
*ဈာန်မရလျှင်၊ ဤမျှပင်၊ ဆင်ခြင်နှလုံးထား။*
*ဈာန်ရပြန်က၊ အရူပ၊ ရူပကြိယာ။*

**ကာမဘုံအတွက် ပုဂ္ဂိုလ်များ စိတ်ရကို** သိလျှင် **ရူပဘုံ၊ အရူပဘုံ** အတွက် သိပြီးသား ဖြစ်သည်။

***မှတ်ချက်*** ရူပ၊ အရူပဘုံတို့သည် ဈာန်ဘုံများဖြစ်၍ ကာမပုဂ္ဂိုလ်ထဲမှ ဈာန်ရ ပုဂ္ဂိုလ်တို့သာ ရူပ၊ အရူပဘုံတို့၌ ဖြစ်နိုင်၏။

**ကာမဘုံဈာန်ရ ပုဂ္ဂိုလ်တို့၏ စိတ်ရထဲမှ** ရူပ အရူပဘုံတို့၌ မရနိုင်သောစိတ် များကို နုတ်လျှင် ရူပ အရူပပုဂ္ဂိုလ်တို့၏ စိတ်ရများ ဖြစ်တော့ သည်။

*ဥပမာ။* **ကာမတိဟိတ် ဈာန်ရပုဂ္ဂိုလ်တွင်** အကုသိုလ် ၁၂+ဟသိကြဉ် အဟိတ် ၁၇+ မဟာကုသိုလ် ၈+ မဟာဝိ ၈-ပါး မဟာဂ္ဂုတ်ကုသိုလ် ၉ = ၅၄ ဖြစ်၏။ ထို ၅၄-တွင် ရူပဘုံ၌ မရနိုင်သော ဆယာနဒိ မဟာဝိ ၈၊ ဒေါနှစ်တမူပေါင်း ၁၆-ပါးကို နုတ်လျှင် ၅၄-၁၆ = ၃၈-ပါး ၎င်း-၃၈ပါးတွင် ရူပဝိပါက် -၅ပါးထည့်လျှင် ၄၃-ပါးသည် ရူပတိဟိတ် ဈာန်ရအတွက် စိတ်ရများဖြစ်၏။(အရူပဝိ ၄-ကား၊ ကာမတိဟိတ်ဈာန်ရတွင် မပါဝင်သဖြင့် နုတ်စရာမလို) ကြွင်းနည်းတူသိနိုင်ပြီ။






## အနှစ်ချုပ်သံပေါက်

* သဗ္ဗေသတ္တာ၊ ဝေနေယျာ၊ သံသာရှည်လှပြီ။
* အတည်ကျကျ၊ ဘယ်ဘဝ၊ ရကြ မရှိပြီ။
* ရအံ့နိုးနိုး၊ လောဘမျိုး၊ အကျိုးယုတ်လှပြီ။
* သုံးပါးညီးညီး၊ လောင်မီးကျီး၊ ဖိစီးလှလေပြီ။
* လောင်မှန်းမသိ၊ မောဟဖိ၊ မိမိမိုက်လှပြီ။
* ပိုးဖလံမျိုး၊ မီးကိုတိုး၊ ကိုယ်ကျိုးနဲလှပြီ။
* ကာမဂုဏ်မွဲ၊ သည်မိုက်မဲ၊ မခွဲနိုင်ကြပြီ။
* မခွဲနိုင်ကြ၊ လူဗာလ၊ မိုက်စသိမ်းသင့်ပြီ။
* ဂဂါသဲတူ၊ ပွင့်တော်မူ၊ ဆူဆူများလှပြီ။
* များအသချေ၊ ရှင်စောတွေ၊ ရှောင်သွေလွဲခဲ့ပြီ။
* တစ်ဆူမသင့်၊ တစ်ဆူသင့်၊ ဖူးခွင့်တွေ့ထိုက်ပြီ။
* မတော်မလျား၊ ကျင့်ဖောက်ပြား၊ မိုက်အားကြီးလှပြီ။
* အလိုမလိုက်၊ သည်အမိုက်၊ ပယ်ထိုက်သင့်လှပြီ။
* မပယ်မချိုး၊ ဆင်ကန်းတိုး၊ ဟုတ်နိုးထင်လှပြီ။
* တရားလက်လွှတ်၊ ငှက်တောင်ကျွတ်၊ ဝဋ်နှင့်မကင်းပြီ။
* မနုဿတ္တ၊ ဒုလ္လဘ၊ မရများလေပြီ။
* အရတော်စွ၊ သည်ဘဝ၊ လှလှကျင့်ထိုက်ပြီ။
* ကြိုကြိုက်တော်စွာ၊ သာသနာ၊ ရောင်ဝါထွန်းလှပြီ။
* သတိရရ၊ မြတ်ပုည၊ ပြုကြကောင်းသင့်ပြီ၊
* တစ်နေ့တစ်နေ့၊ နက်ဖြန်ရွှေ့၊ မမေ့ကောင်းသင့်ပြီ။
* ငါ့ကိုယ် ငါ့သား၊ ငါ့မယား၊ ထင်မှားလှလေပြီ။
* ထင်မှားတတ်စွာ၊ သက္ကာယာ၊ မိစ္ဆာကင်းသင့်ပြီ။
* ငါးခုခန္ဓာ၊ ရုပ်နာမ်မှာ၊ မှန်စွာမှတ်သင့်ပြီ။
* သမ္မုတိ၊ ညာဏ်အစ၊ ထင်လှသင့်ကြပြီ။
* နင်ဖြင့် နင့်ကိုယ်၊ ဆုံးမလို၊ နင့်ကိုယ်အမှုသည်။
* နှလုံးဖုံဖုံ၊ ထုံတုံတုံ၊ နင့်ပုံကြော့ကြမ်းသည်။
* နင်နှင့် နင့်ကံ၊ ဝီရင်ဖန်၊ အမှန်ဖြစ်တော့သည်။
* ယခုနင့်ကိုယ်၊ နင့်အလို၊ ဘယ်ကိုပြည့်စုံသည်။
* နင့်ကိုယ်နင်နှစ်၊ နင့်အပြစ်၊ နင်ဖြစ်ခံရမည်။
* နင့်ကိုယ်နင်အား၊ နင်မသနား၊ နင်မှားရှာတော့မည်။
* နင်မဆုံးမ၊ နင့်တာပ၊ ဘယ်ကခံလိမ့်မည်။
* ဒါန, သီလာ၊ ဘာဝနာ၊ နင်သာပြုသင့်သည်။

## အနန္တကောင်းကင်

| ပဋိသန္ဓေစိတ် ဘဝင်စိတ်+စုတိစိတ် | ဘုံဌာန | သက်တန်း |
|---|---|---|

| | ဇော်-၄-ကြိမ် | | |
|---|---|---|---|
| နေဝ-ဝိပါက် | | * နေဝသညာနာသညာယတန | မဟာကပ်(ကမ္ဘာ) ၈၄၀၀၀ |
| အာကိ-ဝိပါက် | | * အာကိဉ္စညာယတန | မဟာကပ်(ကမ္ဘာ) ၆၀၀၀၀ |
| ဝိညာဝိပါက် | | * ဝိညာနဉ္စာယတန | မဟာကပ်(ကမ္ဘာ) ၄၀၀၀၀ |
| အာကာဝိပါက် | | * အာကာသာနဉ္စာယတန | မဟာကပ်(ကမ္ဘာ) ၂၀၀၀၀ |

| | | | | |
|---|---|---|---|---|
| ရူပပဉ္စမစျာန်ဝိပါက် | စတုတ္ထစျာန် ၇-ဘုံ | ဇော်-၅-ကြိမ်-၁၀ | အကနိဋ္ဌာ<br>သုဒဿီ<br>သုဒဿာ<br>အတပ္ပါ<br>အဝိဟာ | ကမ္ဘာ= ၁၆၀၀၀<br>ကမ္ဘာ= ၈၀၀၀<br>ကမ္ဘာ= ၄၀၀၀<br>ကမ္ဘာ= ၂၀၀၀<br>ကမ္ဘာ= ၁၀၀၀ |

အသညသတ်ဝိပါက ရုပ်ပဋိသန္ဓေ

ဝေဟပ္ဖိုလ် — အသညသတ် — ကမ္ဘာ-၅၀၀

| | | | | | |
|---|---|---|---|---|---|
| စ-ဈာန်-ဝိ | ၄-၆ | ပရိတ္တသုဘာ | အပ္ပမာဏ သုဘာ | သုဘကိဏှာ | မဟာကပ် ၁၆-၃၂-၆၄ |
| ဒု-တ-ဈာန်-ဝိ | ၄-၈ | ပရိတ္တာဘာ | အပ္ပမာဏာ ဘာ | အာဘဿ ရာ | မဟာကပ် ၂-၄-၈ |
| ပ-ဈာန် ဝိ | ၄-၁ | ဗြဟ္မပါရိသဇ္ဇာ | ဗြဟ္မပုရော ဟိတာ | မဟာဗြဟ္မာ | အသင်္ချေယျကပ် ၁/၃-၁/၂-၁ |
| မဟာဝိ-၈ | ကာမသုဂတိ-၇ ၄° | ပရနိမ္မိတဝသဝတ္တီ | | ၁၆၀၀၀ | ၉၂၁၆ သန်း |
| လူ+စတုနှစ်ဘုံ၌ | | နိမ္မာနရတိ | | ၈၀၀၀ | ၂၃၀၄ သန်း |
| လူစဉ်နတ်စဉ်မမှီ | | တုသိတာ | | ၄၀၀၀ | ၅၇၆ သန်း |
| သူများ | | ယာမာ | | ၂၀၀၀ | ၁၄၄ သန်း |
| ကု-ဝိ-ဥ သန္တိ-၁ | | တာဝတိံသာ | | ၁၀၀၀ | ၃၆ သန်း |
| | | စတုမဟာရာဇ် | | ၅၀၀ | ၉ သန်း |
| | | လူ့ဘုံ | | သက်တန်းအမြဲမရှိ | |
| အကုဝိပါက် ဥ သန္တိ ၁ | | ငရဲ - ၈ (၁၅၀၀၀)စိ ဝေးကွာ | တိရစ္ဆာန် | ပြိတ္တာ | အသူရကာယ် |
| မြေထုယူဇနာ ၂၄၀၀၀၀ | | | ပံသုပထဝီ = ၁၂၀၀၀၀ | | |
| | | | သီလာပထဝီ = ၁၂၀၀၀၀ | | |
| ရေထု - ယူဇနာ = = ၄၈၀၀၀၀ | | | | | |
| လေထု - ယူဇနာ = = ၉၆၀၀၀၀ | | | | | |

## ဝိထိမုတ်ပိုင်း(ဘုံပိုင်း)

သတ္တဝါတို့သန္တာန်၌ ဝိထိစိတ်နှင့်ဝိထိမုတ်စိတ်(ဘဝင်စိတ်)တို့သာ အလှည့်အပြောင်း ဖြစ်ပျက်၍နေ၏။ ထိုနှစ်မျိုးတို့တွင် ပဝတ္တိအခိုက် ဝိထိစိတ်တို့ ဖြစ်ပုံကို ဝိထိအခန်းတွင် ပြခဲ့ပြီ၊ ယခုအခါ ဆိုင်ရာဘုံ + ပုဂ္ဂိုလ်တို့အလိုက် ပဋိသန္ဓေအခိုက် + ဘဝင်အခိုက် + စုတိအခိုက်တို့၌ ဝိထိမုတ်စိတ်(ဘဝင်စိတ်)တို့၏ ဖြစ်ပုံကိုပြခြင်းငှာ ဝိထိမုတ်ပိုင်း(ဘုံပိုင်း)ကို ဆက်၍ပြမည်။

(ရှေ့ဝိထိပိုင်းတွင် ဝိထိမုတ်စိတ်ကို ဘဝင်စိတ်အမည်ဖြင့် အသုံးပြုခဲ့သည်။ ဤအပိုင်း၌ ဝိထိမုတ်စိတ်များကို ပဋိသန္ဓေစိတ် + ဘဝင်စိတ်+ စုတိစိတ်အမည်များဖြင့် အသုံးပြုမည်။

ဤအပိုင်း၌ ဇယားပါအတိုင်း မည်သည့်ဘုံ+ မည်သည့်ပုဂ္ဂိုလ်၌+ မည်သည့်ပဋိသန္ဓေစိတ်များဖြစ်သည်ကို ကျေညက်အောင် သိထားရမည်။)

### ဘုံသုံးဆယ့်တစ်

**အပါယ်လေးဘုံ**- (များသောအားဖြင့် ကုသိုလ်ကောင်းမှုမှ ကင်းသောကြောင့် အပါယမည်၏။)

(အနည်းငယ်အားဖြင့် နဂါး၊ ဂဠုန်စသော တိရစ္ဆာန်တို့အား ကုသိုလ်ဖြစ်သေးသည်။)

လူ+ နတ်+ နိဗ္ဗာန် သုံးတန်ချမ်းသာရကြောင်း ကုသိုလ်ကောင်းမှု ပြုခွင့်ဖြစ်ခွင့်မရ အကုသိုလ်သာ များများရသောဘုံကို အပါယ်ဘုံဟု ခေါ်သည်။

(က) ဧရဲဘုံ - (ချမ်းသာသုခကင်းသောဘုံဘဝ)

ချမ်းသာသုခမြူမျှမရှိ၊ ဆင်းရဲအတိသာခံစားနေရသောပုဂ္ဂိုလ်၊ ထိုပုဂ္ဂိုလ်တို့ဖြစ်ရာဘုံသည် ငရဲဘုံမည်၏။

ငရဲ(၈)ထပ်

| | ခံရပုံ |
|---|---|
| ၁။ သဉ္ဇီဝငရဲ | အဖန်ဖန်အသက်ရှင်၍ခံရခြင်း |
| ၂။ ကာဠသုတ်ငရဲ | မျဉ်းသား၍အမျိုးမျိုးခုတ်ဖြတ်ညှင်းဆဲခံရခြင်း |
| ၃။ သံဃာတငရဲ | အပြင်းအထန်ကြိတ်ချေသတ်ဖြတ်ခံရခြင်း |
| ၄။ ရောရုဝငရဲ | မီးလောင်၍ ပြင်းစွာငိုကြွေးပြီး ခံစားရခြင်း |
| ၅။ မဟာရောရုဝငရဲ | အလွန်ပြင်းစွာငိုကြွေးမည်တမ်း၍ခံစားရခြင်း |
| ၆။ တာပနငရဲ | မီးလျှံ-သံတံကျင်ထိုး၍ပြင်းစွာပူလောင်ခံရခြင်း |
| ၇။ မဟာတာပနငရဲ | အလွန်ပြင်းစွာပူလောင်ခံစားရခြင်း |
| ၈။ အဝီစိငရဲ | မီး,ဆင်းရဲ,သတ္တဝါ-အကြားမရှိမပြတ်-ဒလစပ်-ခံရခြင်း |

လင်္ကာ။ ။ သဉ္ဇိုင်း,ကာဠ,သံဃာတနှင့်၊ ရောရုဝနှစ်၊ တာပန်နှစ်၊ တွက်စစ် အဝီစိ၊

အထပ်တိုင်းမှာ၊ ဘင်+ပြာ+လက်+သန်၊ ကြိမ်ပိုက်ရံ၊
ငါးတန် ဥဿဒရှိ။
- ဘင်ပုပ်, ပြာပူ, လက်ပံတော, သန်လျက်ရွက်တော၊
ကြိမ်ပိုက်ချောင်း,
(ဥဿဒ= ငရဲငယ် ၅ မျိုး အထပ်တိုင်းတွင် ရှိသည်။)

**(ခ) တိရစ္ဆာန်** - လူ +နတ်တို့ကဲ့သို့ မဂ်+ ဖိုလ်+နိဗ္ဗာန်ဟူသော အထက်သို့ တက်ရောက်နိုင်ခြင်းမရှိ၊ များသောအားဖြင့် အောက်အဖို့ဟု ဆိုအပ်သော ငရဲစသည့်ဘဝသို့သာ လားတတ်ရောက်တတ်သောကြောင့် တိရစ္ဆာန်မည်၏။( အနည်းငယ်အားဖြင့် **ကဏ္ဍကမြင်း၊ ဖားနတ်သားတို့** နတ်ပြည်သုဂတိသို့ ရောက်ကြသေးသည်။ မပြောပလောက်ပေ။) (လူ + နတ်တို့ကဲ့သို့ မတ်မတ်မသွား၊ (မဂ် + ဖိုလ်မှ ဖီလာကန့်လန့်) အလျားလိုက် သွားတတ်သောကြောင့်လည်း တိရစ္ဆာန်မည်၏။)

**(ဂ)ပြိတ္တာ(ပေတ)** - ချမ်းသာသုခမှ ဝေးသောအရပ်သို့ရောက်နေသည့် သတ္တဝါ။

တော, တောင်, မြစ်, ချောင်းတို့၌ မှီတင်း၍ နေ၏၊ တစ္ဆေမှင်စာ ဘီလူးသူရဲ စသည်များစွာ ရှိ၏။ နှစ်ပေါင်းများစွာ မစားရ၊ မသောက်ရ၊ အချို့မှာ လူများက စွန့်ပစ်လိုက်သော ထမင်းဟင်းကျန်များနှင့် တံတွေး၊ သလိပ်၊ ချွဲ၊ မစင်များကို စားရသည်။ အချို့အရိုးစုသက်သက်၊ အချို့ အသားတစ်သက်သက် တစ်ကိုယ်လုံးသို့ အပ်များလှံများဖြင့် အစဉ်မပြတ် စူးဝင်ထိုးကျင့်ခံနေရသော သတ္တဝါများအမျိုးမျိုးရှိ ကြလေသည်။

**(ဃ) အသူရကာယ်(အသူရာ)** - နတ်များကဲ့သို့ အစိုးရခြင်း + ချမ်းသာခြင်းတို့နှင့် မပြည့်စုံသဖြင့် မြူးတူးတောက်ပခြင်း မရှိသော သတ္တဝါ။ ၁။ နတ်အသူရာ ၂။ ပြိတ္တာအသူရာ ၃။ ဝိနိပါတိကအသူရာဟူ၍ အသူရကာယ် သုံးမျိုးရှိသည်။

**(၁) နတ်အသူရာ** - မြင်းမိုရ်တောင်ခြေ၌နေသော အဆင့်မြင့်နတ် အသူရာများဖြစ်သည်။ သိကြားမင်းနှင့် စစ်ခင်းသော သိကြားမင်း၏

6

ယောက္ခမ အသူရာနတ်မင်းကြီး၏ ဘုံဘဝဖြစ်သည်။ တာဝတိံသာနတ်မျိုးဝင် အသူရာများ ဖြစ်သည်။

(၂) **ပြိတ္တာအသူရာ** - ပြိတ္တာမျိုးဝင်အသူရာများဖြစ်သည်။ **ခန္ဓဝိဘင်း၌** ကာလကဉ္စိက ပြိတ္တာ အသူရာများကိုပြသည်။ သမုဒ္ဒရာ မြစ်ကမ်းစသည်၌ နေ၏။ အလွန်ငတ်မွတ်၏။ ၎င်းအသူရာသည် ရေငတ်၍ ဂင်္ဂါမြစ်တွင်းသို့ ဆင်းရာ ရေများခန်းခြောက်ပြီး မိုးခိုးသာ ထ၏။ တစ်ညဉ့်လုံး ရေရှာရင်း မိုးလင်း၏။ ရဟန်းများက ပက်လက်အိပ်စေ၍ သပိတ်ဖြင့် ရေလောင်းထည့်သော်လည်း ပါးစပ်တွင်းသို့ တစ်စက်မျှ မဝင်ဟုဆို၏။

(၃) **ဝိနိပါတိကအသူရာ** - ဘုမ္မစိုး၊ ရုက္ခစိုးနတ်မင်းကြီးများကို မှီခို၍ကပ်ရပ်၍နေရသောနတ်သေးနတ်မွှားများနှင့် နေ့စံ + ညခံ ပြိတ္တာများ ဖြစ်ကြသည်။

**(ဤတွင် နံပါတ် ၂ ပြိတ္တာများကိုယူရမည်။)**

( တိရစ္ဆာန်ပြိတ္တာအသူရကာယ် **တို့သည် ဘုံသီးခြားမရှိ၊ ၎င်းတို့၏ ခန္ဓာသည်ပင် ဘုံမည်၏။**

**တစ်နည်း** - တော + တောင် + မြစ် + သမုဒ္ဒရာတို့သည် ၎င်းတို့၏ ဘုံမည်၏။)

**လူ့ဘုံ(မနုဿ)** - မဂ်+ဖိုလ်ရနိုင်သောအခွင့်ထူး(ဂုဏ်ထူး)၊ ရဟန်းပဉ္စင်း ဖြစ်နိုင်သော အခွင့်ထူး(ဂုဏ်ထူး)တို့ဖြင့် ရဲရင့်ထက်မြက်သော စိတ်ရှိသော ပုဂ္ဂိုလ်ကို လူဟုခေါ်သည်။ (လူသည် မကောင်းမှုအရာ၌လည်း မိဘကိုပင် သတ်ရဲသည်။ ကောင်းမှုအရာ၌လည်း ဘုရားဖြစ်သည့်တိုင် ကြိုးစားအားထုတ်နိုင်သည့် ထက်မြက်သောစိတ်ဓာတ် ရှိသည်။)

**တစ်နည်း** - ကုသိုလ် + အကုသိုလ်ကို သိတတ်သောကြောင့်လည်း လူမည်၏။

လူတို့၏ နေရာဖြစ်ရာသည် လူ့ဘုံမည်၏။

**တစ်နည်း** - ကမ္ဘာဦးအစ မနုအမည်ရှိသောမင်း၏ သားသမီးများဖြစ်သောကြောင့် မနုဿ(လူ)မည်၏။

## နတ်ပြည် ၆ဆင့်

**၁။ စတုမဟာရာဇ်ဘုံ - ဓတရဋ္ဌ +ဝိရုဠှက +ဝိရူပက္ခ + ကုဝေရ** နတ်မင်းကြီး လေးယောက်ကို **စတုမဟာရာဇ**ဟု ခေါ်သည်။ ၎င်း နတ်မင်းကြီးများထံ၌ ခစားဆည်းကပ်နေကြသော လက်အောက်ခံနတ်များကို စတုမဟာရာဇ်နတ်များဟု ခေါ်သည်။ (တောစောင့် +တောင်စောင့် + ကိုယ်စောင့်+ မြေစောင့် (ဘုမ္မစိုး)+သစ်ပင်စောင့်(ရုက္ခစိုး)+ နတ်ဘီလူး+ ကုမ္ဘဏ်+ယက္ခိုက်+ဂန္ဓဗ္ဗ + ဝိနိပါတိက အသူရာ + ဝေမာနိက ပြိတ္တာမျိုး အားလုံးပင် စတုမဟာရာဇ်နတ်မျိုးဝင်များ ဖြစ်ကြသည်။ မြင့်မိုရ်တောင်၏ အောက်ပိုင်း အလယ်ပိုင်းတို့၌ နေကြသည်။ ၎င်းတို့၏ နေရာသည် စတုမဟာရာဇ်ဘုံမည်၏။

**၂။ တာဝတိံသာ - မာဃလုလင်**နှင့် ကောင်းမှုပြုဖက် **၃၃** ယောက်တို့ ဦးဆောင်ပြု၍နေသောဘုံဌာန၊ မြင့်မိုရ်တောင်ထိပ်၌ တည်၏။ သိကြားမင်း၏ ဘုံတည်း။
(စတုမဟာရာဇ်+တာဝတိံသာနှစ်ဘုံသာ မြေနှင့်ထိစပ်၍ တည်၏။ ယာမာမှစ၍ အထက်ဘုံများသည် ကောင်းကင်ဘုံများသာ ဖြစ်သည်။)

**၃။ ယာမာဘုံ** - ပူပန်ပြင်းထန်သောဆင်းရဲအမျိုးအမျိုးတို့မှ ကင်း၍ နတ်၏ ချမ်းသာခြင်း အမျိုးမျိုးတို့နှင့် ပြည့်စုံစွာ ခံစားရသောကြောင့် ယာမာနတ် မည်၏။ ၎င်းနတ်တို့၏နေရာ ဖြစ်ရာသည် ယာမာဘုံမည်၏။ **(သုယာမနတ်မင်းကြီး၏ ဘုံဌာနတည်း)**

**၄။ တုသိတာဘုံ** - မိမိ၏ စည်းစိမ်အမျိုးမျိုး အသရေအမျိုးမျိုးနှင့် ပြည့်စုံပြီး ရွှင်လန်း နှစ်သက်စရာအာရုံ များ၍ နှစ်သက် ရွှင်လန်းခြင်းသို့ရောက်သောနတ်သည် တုသိတာနတ် မည်၏။ ၎င်းနတ်တို့၏ နေရာဖြစ်ရာသည် တုသိတာဘုံ မည်၏။ (**သန္တုသိတနတ်မင်းကြီး** ဦးဆောင်သော ဘုံတည်း။)

**၅။ နိမ္မာနရတိဘုံ** – ကိုယ်တိုင်စိတ်ကြိုက် ဖန်ဆင်း၍ ခံစားနိုင်သောဘုံ (ပင်ကိုယ်ရှိပြီးသား စည်းစိမ်ထက် အလွန်အကဲ ခံစားလိုသောအခါ စိတ်တိုင်းကျ ဖန်ဆင်း၍ မွေ့လျော်တတ်သောနတ်များ ဖြစ်သည်။ *(အောက်နတ်ပြည်လေးထပ်တို့၌ အမြဲထားအပ်သော ကိုယ်ပိုင်ဇနီးမောင်နှံ ရှိကြသော်လည်း နိမ္မာနရတိ၊ ပရနိမ္မိတဝသဝတ္တီဘုံတို့၌ အမြဲမရှိ၊ လိုရာ အဆင်း, အသံ, အနံ့, အရသာ, ဗိမာန်, ဘုံ,နန်း စိတ်ကြိုက်ဖန်ဆင်း၍ ခံစားနိုင်ကြသည်။)*

**၆။ ပရနိမ္မိတဝသဝတ္တီဘုံ** – နိမ္မာနရတိနတ်တို့ကဲ့သို့ ကိုယ်တိုင် မဖန်ဆင်းတော့ဘဲ အစေအပါးနတ်များက အလိုက်သိစွာ စိတ်တိုင်းကျ အောင် ဖန်ဆင်းပေးအပ်သော ကာမဂုဏ်အာရုံများကို မိမိအလိုသို့ လိုက်စေသောနတ်များ၏ ဘုံတည်း။

ကာမသုဂတိ ၇–ဘုံ = လူ့ဘုံ + နတ်ပြည် ၆ထပ်

- ကုသိုလ်ကောင်းမှုပြုသူတို့သည် ရောက်အပ်သောကြောင့် **ဂတိ** မည်၏။
- တင့်တယ်မြင့်မြတ်သောဂတိ ဖြစ်သောကြောင့် **သုဂတိ** မည်၏။
- ကာမတဏှာနှင့်တကွဖြစ်သော သုဂတိသည် **ကာမသုဂတိမည်၏**။

**ကာမ ၁၁ ဘုံ**= အပါယ် ၄ ဘုံ+ ကာမသုဂတိ ၇ ဘုံ

## ရူပဗြဟ္မာပြည် ၁၆ ဘုံ

ဈာန်အဘိညာဏ်ကို ရသည့်အတွက် အထက်ဗြဟ္မာဘုံတို့၌ အသက်ရှည်စွာ ချမ်းချမ်းသာသာနေရခြင်း စသောဂုဏ်တို့ဖြင့် နတ်လူ တို့ထက် မြင့်မြတ်သာလွန်သူများကို **ဗြဟ္မာ**ဟု ခေါ်သည်။

## ပဌမဈာန် ၃ ဘုံ

**၁။ ဗြဟ္မပါရိသဇ္ဇာ** – မဟာဗြဟ္မာမင်း၏ ပရိသတ်၌ဖြစ်သော လက်ပါး စေ အလုပ်အကျွေး ဗြဟ္မာငယ်များသည် ဗြဟ္မပါရိသဇ္ဇာဗြဟ္မာမည်၏။

**၂။ ဖြဟ္မပုရောဟိတာ** – ဖြဟ္မာမင်းတို့၏ ပုရောဟိတ်အရာ၌တည်သော ဖြဟ္မာသည် ဖြဟ္မပုရောဟိတာဖြဟ္မာ မည်၏။

**၃။ မဟာဖြဟ္မာ** – ပါရိသဇ္ဇ+ပုရောဟိတ်ဖြဟ္မာတို့ထက် မြင့်မြတ်သော ဖြဟ္မာမင်းသည် မဟာဖြဟ္မာ မည်၏။

ဤဖြဟ္မာသုံးဦး၏ မြတ်သောရတနာရောင်တို့ဖြင့် တောက်ပသော တစ်ပြင်တည်းသောဘုံအပြင်သည် ပထမစျာန်ဖြဟ္မာသုံးပါးတို့၏ ဘုံမည်၏။

## ဒုတိယစျာန် ၃ဘုံ

**၁။ ပရိတ္တာဘာ** – အပ္ပမာဏာဘာ+ အာဘဿရာဖြဟ္မာတို့လောက် ကိုယ်ရောင်မတောက်ပဘဲ နည်းသောကိုယ်ရောင် ကိုယ်ဝါရှိသောဖြဟ္မာသည် ပရိတ္တာဘာဖြဟ္မာ မည်၏။

**၂။ အပ္ပမာဏာဘာ** – အတိုင်းအရှည် ပမာဏကို မပြနိုင်လောက် အောင်ပင် များပြောင်သော ကိုယ်ရောင်ကိုယ်ဝါရှိသော ဖြဟ္မာသည် အပ္ပမာဏာဘာဖြဟ္မာ မည်၏။

**၃။ အာဘဿရာ** – တိမ်တိုက်မှလျှပ်စစ်တွေ ကွန့်မြူးနေသလို ဖြဟ္မာတို့၏ ကိုယ်ရောင်ကိုယ်ဝါများသည် ခန္ဓာကိုယ်မှ တလျှပ်လျှပ်ထွက်နေကြသည်။ ထိုစကားမှန်၏။ ထိုဖြဟ္မာတို့သည် မိမိတို့စျာန်ဖြင့် လွန်စွာပျော်မွေ့ ပီတိတွေ့လျက်ရှိ၏။ ထိုပီတိ ပြည့်လျှမ်းသော စျာန်အစွမ်းကြောင့်ဖြစ်သော စိတ္တဇရုပ်အပေါင်းဖြင့်လည်း တစ်ကိုယ်လုံး ထုံမွှမ်းလျက်ရှိ၏။ ထို့ကြောင့် စိတ်ကြည်လင်သလောက် ခန္ဓာကိုယ်မှလည်း အရောင်တောက်လျှက် တလျှပ်လျှပ်ထွက်နေသော ကိုယ်ရောင်ရှိသော ဖြဟ္မာသည် အာဘဿရာဖြဟ္မာမည်၏။ထိုဖြဟ္မာ ၃-ဘုံလည်း တစ်ပြင်တည်းတန်းလျှက်ရှိကြကုန်၏။

ဘာဝေါ်သများ ၃ ဘုံ

၁။ **ပရိတ္တသုဘာ** - မလှုပ်မယှက်တစ်ခဲနက် တောက်ပတင့်တယ်နေသော နည်းသောကိုယ်ရောင်ရှိသောဗြဟ္မာသည်ပရိတ္တသုဘာ ဗြဟ္မာမည်၏။ (အထက်နှစ်ဘုံလောက်ကားမတောက်ပ)

၂။ **အပ္ပမာဏသုဘာ** - အတိုင်းအရှည် ပမာဏပြု၍ မရနိုင်လောက်အောင် အလွန်တင့်တယ်၍ မလှုပ်မယှက် တစ်ခဲနက် တောက်ပနေသော ကိုယ်ရောင်ရှိသောဗြဟ္မာသည် အပ္ပမာဏသုဘာဗြဟ္မာ မည်၏။

၃။ **သုဘကိဏှာ** - မလှုပ်မယှက်တစ်ခဲနက် တောက်ပတင့်တယ်သော ကိုယ်ရောင်တို့ဖြင့် ရောပြွမ်းသောဗြဟ္မာသည် သုဘကိဏှာဗြဟ္မာ မည်၏။ ထိုသုံးဘုံလည်း တစ်ပြင်တည်းတန်းလျက် တည်ရှိကြသည်။

ဘေဟွှေများ ၇ - ဘုံ

၁။ **ဝေဟပ္ဖိုလ်** - ဈာန်၏အာနုဘော်ဖြင့် ကြီးကျယ်ပြန့်ပြောသော အကျိုးရှိသောကြောင့် ဝေဟပ္ဖိုလ်ဗြဟ္မာမည်၏။

၂။ **အသညသတ္တဗြဟ္မာ** - (အသည+သတ္တ)သညာ၌ စက်ဆုပ်ရွံရှာသော ဘာဝနာ၏အစွမ်းဖြင့် သညာစေတသိက်နှင့်တကွ စိတ်+စေတသိက်အားလုံး မရှိသောကြောင့် **အသည**+ရုပ်ချည်းသက်သက်ဖြစ်၍ သတ္တဝါမှ ဟုတ်ပါလေစဟု ထင်ရလောက်အောင် အလွန်ငြိမ်သက်လွန်းသဖြင့် သတ္တဝါတော့ ဟုတ်ပါသေးသည်ဟု သိသာရန် **သတ္တသဒ္ဒါ**ကိုပါ ထည့်၍ အသညသတ္တ ဗြဟ္မာဟု ခေါ်သည်။ (ရွှေတုံးရွှေဆိုင်ခဲကြီးကဲ့သို့ မလှုပ်မယှက် တည်နေသည်။)

ဤနှစ်ဘုံလည်း တစ်ပြင်တည်းတန်းလျက် တည်နေသည်။

သုဒ္ဓါဝါသ ၅–ဘုံ (ကာမရာဂ + ပဋိဃ – အနုသယတို့ စင်ကြယ်ပြီးသောအနာဂါမ်နှင့် ရဟန္တာတို့၏ဘုံ၊ စင်ကြယ်သော သူတို့ နေရာဘုံ)

၁။ **အဝိဟာဘုံ** –မိမိတို့၏ဘုံဌာနနှင့် စည်းစိမ်ကို ခေတ္တခဏမျှပင် မစွန့်ကြဘဲ ကမ္ဘာပေါင်းအတော်ကြာအောင် တည်နေသောဘုံ။

၂။ **အတပ္ပါဘုံ** – မည်သည့်အကြောင်းကြောင့်မျှ မပူပန်ရဘဲ အလွန် အေးမြသော ဗြဟ္မာများနေရာဘုံ။

၃။ သုဒဿာဘုံ - စင်ကြယ်သောစက္ခုရှိ၍ ချမ်းသာစွာ ကြည့်ရှု ခံစားနိုင်သောဘုံ။

၄။ **သုဒဿီဘုံ** – အလွန်စင်ကြယ်သောစက္ခုဝိညာဏ်ရှိ၍ **ပကတိစက္ခု** + **ပညာစက္ခု**တို့ဖြင့် သူတစ်ပါးတို့ကို ချမ်းသာစွာ ကြည့်ရှုခံစားနိုင်သော ဗြဟ္မာတို့၏ နေရာဘုံ။

၅။ **အကနိဋ္ဌာဘုံ** – စည်းစိမ်ချမ်းသာ လွန်စွာကြီးမားလှသဖြင့် မည်သည့် ဘက်ကမဆို သေးငယ်သော သဘောမရှိကြဘဲ အထက်တန်းကျသော ဗြဟ္မာတို့၏ နေရာဘုံ။

(ထိုငါးဘုံသည် အဆင့်ဆင့်တည်ရှိပေ၏။)

**(ဗြဟ္မာပြည်၌ နတ်ပြည်ထက် စည်းစိမ်ချမ်းသာ များစွာကြီးကျယ် ၏၊ သို့သော် ကာမဂုဏ်များကို ငြီးငွေ့လာသူများဖြစ်၍ မခံစားတော့၊ စက္ခုနှင့် သောတပသာဒနှစ်ပါးသာ ဘုရားဖူး တရားနာဖို့ရန် ကျန်ရှိ သည်။ ကျန်ပသာဒများ မရှိတော့၊ ဗြဟ္မာအားလုံး ယောကျ်ား ပုံသဏ္ဌာန်သာ ဖြစ်ကြသည်။ ကျား+မ အင်္ဂါနှစ်မျိုးလုံး မရှိတော့။**

အရူပ ၄ ဘုံ

(နာမ်ခန္ဓာအစဉ်သက်သက် ဖြစ်တည်နေသောဘုံ၊ ဘုံဟုဆိုသော်လည်း တစ်ကယ့်ဘုံဗိမာန် ရှိသည်မဟုတ်။)

၁။ ကသိုဏ်း ၉ပါးကိုခွာ၍ ရအပ်သော ကောင်းကင်ပညတ်အာရုံသည် အာကာသာနဉ္စာယတနစျာန်မည်၏။

အာကာသာနဉ္စာယတန ဝိပါက်စိတ်+ စေတသိက်ဖြင့် ပဋိသန္ဓေ တည်နေလျှက် အဆက်ဆက်ဖြစ်ပွားသော နာမ်ခန္ဓာအစဉ်၏ ဖြစ်တည်ရာ ကောင်းကင်အပြင်ကို အာကာသာနဉ္စာယတနဘုံဟု ခေါ်သည်။

၂။ ဝိညာနဉ္စာ - ၃။ အာကိဉ္စညာ - ၄။ နေဝသညာနာသညာ ယတနဝိပါက်-

စိတ်စေတသိက်ဖြင့် ပဋိသန္ဓေတည်နေလျှက် အဆက်ဆက် ဖြစ်ပွား နေသော နာမ်ခန္ဓာအစဉ်၏ ဖြစ်တည်ရာ ကောင်းကင်အပြင်ကို နေဝ သညာနာသညာယတနဘုံဟု ခေါ်သည်။ ထိုလေးဘုံသည်လည်း အဆင့် ဆင့် တည်ရှိကြပေသည်။

## ပဋိသန္ဓိစတုက္က

**ပဋိသန္ဓေ ၄ မျိုး**

၁။ အပါယ်ပဋိသန္ဓေ ၂။ ကာမသုဂတိပဋိသန္ဓေ ၃။ ရူပပဋိသန္ဓေ ၄။ အရူပပဋိသန္ဓေ

**ပဋိသန္ဓေစိတ် ၁၉ မျိုး**

| | | |
|---|---|---|
| အပါယ်ပဋိသန္ဓေ | ၁ပါး | (အကုသလဝိပါက် ဥပေက္ခာသန္တီရဏစိတ်) |
| ကာမသုဂတိပဋိသန္ဓေ | ၉ပါး | (ကုသလဝိပါက် ဥပေက္ခာသန္တီရဏ ၁+ မဟာဝိပါက် ၈) |
| ရူပါဝစရပဋိသန္ဓေ | ၅ပါး | (ရူပါဝစရဝိပါက် ၅) |
| အရူပါဝစရပဋိသန္ဓေ | ၄ပါး | (အရူပါဝစရဝိပါက် ၄) |
| ပေါင်း - | ၁၉ပါး | |

**လင်္ကာ - ပဋိ+ဘဝင်၊ စုတိလျှင်၊ စိတ်တွင် ဆယ့်ကိုးပါး။**
**ဥ သန် နှစ်ဖြာ၊ မဟာ+ မဟဂ်၊ ကိုးပါးစွက်၊ ပေါင်းလျက် ဆယ့်ကိုးပါး။**

**၁။ အကုသလဝိပါက်ဥပေက္ခာသန္တီရဏစိတ်သည်** - အပါယ်လေးဘုံ၌ ပဋိသန္ဓေ+ဘဝင်+စုတိကိစ္စတပ်၍ဖြစ်၏။

**လင်္ကာ - ဥ သန္တီရိ၊ အကုဝိ၊ သန္ဓိအပါယ်ရွာ။**

၂။ အဟိတ်ကုသလဝိပါက်ဥပေက္ခာသန္တီရဏစိတ်သည် -လူ့ဘုံ၌ ပဋိသန္ဓေအားဖြင့် မျက်စိ(စက္ခု) ဖြစ်ရမည့်အချိန်၌ စက္ခုပသာဒမဖြစ်ဘဲ မျက်စိကန်းသူ (ဇစ္စန္ဓ)၊ ပဋိသန္ဓေအားဖြင့် နားပင်းသူ(ဇစ္စဗဓိရ)၊ ပဋိသန္ဓေအားဖြင့် ဃာနပသာဒ အနံ့ခံတတ်ချို့တဲ့သူ(ဇစ္စဃာန)၊ ပဋိသန္ဓေအားဖြင့် ဆွံ့အသူ (ဇစ္စမူဂ)၊ ပဋိသန္ဓေအားဖြင့်အရပ်ဒေသ ပဲ+မူး+မတ် ကျပ် စသည်ကိုမျှ မသိသူ (ဇစ္စဠေ)၊ ပဋိသန္ဓေအားဖြင့် ဝမ်းတွင်းရူးသူ(ဇစ္စုမ္မတ္တက)၊ ကာမဂုဏ်ကို ခံစားလိုသောကြောင့် ပန်းစုပ်ခြင်းစသော ယုတ်မာသောအမှုမျိုးကို ပြုလုပ်မှ ကာမဂုဏ်ခံစားနိုင်သူ(ပဏ္ဍုက်)၊ ကျား+မ အင်္ဂါနှစ်ခုပါသူ (ဥဘတောဗျဉ္ဇနက)၊ နှစ်ခုစလုံးမပါသူ(နပုံသက)၊ စကားပြောရာ၌ စကားတစ်လုံးပြောဖို့ အရေးအလွန်ကြိုးစားပြီးပြောသော်လည်း ထစ်ထစ်ငေါ့ငေါ့ ဖြစ်နေသူများသည်လည်းကောင်း၊

စတုမဟာရာဇ်နတ်မျိုး၌ တန်ခိုးကြီးသော မြေစောင့်နတ်(ဘုမ္မစိုး)၊ သစ်ပင်စောင့်နတ်(ရုက္ခစိုး) စသည်တို့ကို မှီတွယ်ကပ်ရပ်နေရသော ဘုန်းကံနည်းပါး အညံ့စား နတ်များသည် **ဘုမ္မဿိတနတ်** မည်၏။ ထိုနတ်တို့သည် မိမိကိုယ်ပိုင် ဘုံဗိမာန်များ မရှိကြဖြင့် တောချုံပိတ်ပေါင်းတို့၌လည်း ကောင်း၊ လှိုဏ်ဂူ၊ မြောင်ရိုး၊ လိုဏ်အိုး၊ ဂူအို၊ ကျောင်းပျက်၊ ကန်ပျက်၊ သင်းချိုင်းတို့၌ လည်းကောင်း မှီခိုကပ်ရပ်၍ ပြိတ္တာများကဲ့သို့ ဆင်းရဲစွာ နေကြရကုန်၏။ **(ယခုကာလခေါ်ကြသော တစ္ဆေ, သူရဲစသော နတ်မျိုးတို့ ပင်တည်း။)**

17
A

ထိုဘုမ္မသိတဖြစ်သော တဒ္ဓေ, သုရဲစသောနတ်တို့သည် ချမ်းသာ အပေါင်းမှ ရွေ့လျောတတ်, ကင်းကွာတတ်သောကြောင့် ဝိနိပါတိကအသူရာ မည်၏။ထိုဝိနိပါတိကအသူရာနတ်မျိုးတို့သည်လည်းကောင်း၊အဟိတ်ကုသလ ဝိပါက်ဥပေက္ခာသန္တီရဏစိတ်ဖြင့် ပဋိသန္ဓေ+ဘဝင်+စုတိတို့ ဖြစ်ကြကုန်၏။

(အချုပ်အားဖြင့်) - လူ့ဘုံမှဇစ္စန္ဓစသည့်ပုဂ္ဂိုလ်များ၊ စတုမဟာရာဇ်မှ ဘုမ္မသိတနတ်နှင့် ဝိနိပါတိကအသူရာနတ်တို့သည်ကုဝိဥတီဖြင့်သန္ဓေနေ၏။

**လင်္ကာ - ကု ဝိ ဥ သန်၊ လူယုတ်ကျန်၊ နတ်ဌာန်ဘုံမဲ့ရွာ။**

လူ့ဘုံ၌ လူစဉ်မိသူများ+အဆင့်မြင့်စတုမဟာရာဇ်နတ်များနှင့် အထက်နတ်ပြည် ၅ထပ်ရှိနတ်များသည် မဟာဝိပါက်စိတ် ၈ပါးဖြင့် ပဋိသန္ဓေ+ ဘဝင်+ စုတိ တို့ဖြစ်ကြကုန်၏။

**လင်္ကာ - ၈စ်မဟာဝိ၊ သုဂတိ၊ သန္ဓိခုနှစ်ရွာ။**

ရူပ+ အရူပတို့ကား -ဇယားအတိုင်းသိသာပြီ။

**လင်္ကာ - မဟဂ္ဂတ၊ ဝိပါက၊ ဖြဟ္မာ့သန္ဓိရွာ၊**

အသညသတ်ဖြဟ္မာကား - ဇီဝိတနဝကကလာပ်ခေါ် ရုပ်သက်သက် ပဋိသန္ဓေသာ ဖြစ်သည်။

**လင်္ကာ - ကလာပ်ဇီဝိ၊ ရုပ်သာရှိ၊ သန္ဓိအသညာ။**

## ရူပပဋိသန္ဓေနှင့် ရူပ ၁၆ဘုံကို တွဲရာ၌

ရူပပဋိသန္ဓေကို စတုက္ကနည်းယူသော် ဒုတိယနှင့် တတိယစျာန် ဝိပါက်သည် ဒုတိယစျာန်ဘုံ၌ ပဋိသန္ဓေ ဘဝင် စုတိကို ဖြစ်စေသည်ဟု တွဲယူလိုက်လျှင် ပဋိသန္ဓေစျာန်စိတ် ၄-မျိုးနှင့် ဘုံလေးမျိုး ကိုက်ညီ သွားမည်။

## နတ်သက်တန်း

**လင်္ကာ - လူ+ဘုမ္မစိုး၊ ပယ်လေးမျိုး၊ သက်ဇိုဝ်းမြဲမရှိ။**

လင်္ကာပါပုဂ္ဂိုလ်တို့သည် သက်တမ်းမမြဲကြ။ ကံရှိသလောက်သာ အသက် ရှည်၏။ ဝိနိပါတိက အသူရာများလည်း သက်တမ်းမမြဲပါ။ (သင်္ဂြိုဟ်ပါဠိ)

လူတို့သည် တစ်ခါတစ်ရံ ၁၀နှစ်၊ တစ်ခါတစ်ရံ အသချေ်ယျတိုင်၊ ဘုမ္မစိုးနတ်တို့သည်အချို့ ၇-ရက်၊ အချို့ အာယုကပ်ပတ်လုံးရှည်၏။ (ကာလနဂါး၊မန္ဓာတ်မင်း၊ အချို့နတ်ဘီလူးတို့ အလွန်အသက်ရှည်ကြ၏။)

**ငါးဆယ်နှစ်သာ၊ လူတို့ရှာ၊ စ မှာတစ်ရက်သိ။**

**ရက်သုံးဆယ်လ၊ ဆယ့်နှစ်လ၊ စ မှာတစ်နှစ်ရှိ။**

**ငါးရာထိုနှစ်၊ သက်တမ်းဖြစ်၊ လူနှစ်ကိုးသန်းသိ။**

လူတို့၏အရေတွက် အနှစ်ငါးဆယ်သည် စတုမဟာရာဇ်နတ်တို့၏ တစ်ရက်ဖြစ်၏။

ထိုရက်ပေါင်းသုံးဆယ်သည်တစ်လ၊ ထို လပေါင်း ၁၂-လသည် တစ်နှစ်ဖြစ်၏။ ထို နှစ်ပေါင်း ၅၀၀ သည် စတုမဟာရာဇ်နတ်တို့၏ သက်တမ်းဖြစ်၏။

ထို စတုမဟာရာဇ်နတ်တို့၏ မြဲသောသက်တမ်းဖြစ်သည့် နှစ်ပေါင်း ၅၀၀သည် လူတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်းကိုးသန်း(၉၀၀၀,၀၀၀) ဖြစ်၏။

**အနှစ်တစ်ရာ၊ လူတို့ရှာ၊ တာ မှာ တစ်ရက်သိ။**

**သူ့ရက်+လ+နှစ်၊ အစဉ်ဖြစ်၊ တာ-နှစ်တစ်ထောင်ရှိ။**

**ဤနည်းနှင့်နှင့်၊ လေးဆတင်၊ ထက်ခွင်ဘုံဇီဝိ။**

လူတို့၏အနှစ်တစ်ရာသည် တာဝတိံသာနတ်တို့၏ တစ်ရက်ဖြစ်၏။ ထိုရက်ပေါင်းသုံးဆယ်သည် တစ်လ၊ ထိုဆယ့်နှစ်လသည် တစ်နှစ်၊ ထို နှစ်ပေါင်း ၁၀၀၀ သည် တာဝတိံသာနတ်တို့၏ သက်တမ်းဖြစ်၏။ ထို တာဝတိံသာနတ်တို့၏ မြဲသောသက်တမ်းဖြစ်သည့် နှစ်ပေါင်း ၁၀၀၀-သည် လူတို့၏ အရေအတွက်အားဖြင့် နှစ်ပေါင်း သုံးကုဋေခြောက်သန်း (၃၆,၀၀၀,၀၀၀) ဖြစ်၏။

**(အထက်ဘုံများအတွက် သိသာပြီ။)**

ဘော့ဋ္ဌာန် = လေးဆဘက်ပုံ (ရက်နှစ်ဆ+နှစ်–နှစ်ဆဘက်)

| | |
|---|---|
| လူ့ပြည်အနှစ် ၁၆၀၀ သည် ပရနိမ္မိတဝသဝတ္တီ ၁ရက် | ပရနိမ္မိတဝသဝတ္တီနတ်သက် ၁၆၀၀၀ |
| လူ့ပြည်အနှစ် ၈၀၀ သည် နိမ္မာနရတိ ၁ရက် | နိမ္မာနရတိ နတ်သက် ၈၀၀၀ |
| လူ့ပြည်အနှစ် ၄၀၀ သည် တုသိတာ ၁ရက် | တုသိတာနတ်သက် ၄၀၀၀ |
| လူ့ပြည်အနှစ် ၂၀၀ သည် ယာမာ ၁ရက် | ယာမာနတ်သက် ၂၀၀၀ |
| လူ့ပြည်အနှစ် ၁၀၀ သည် တာဝတိံသာ ၁ရက် | တာဝတိံသာနတ်သက် ၁၀၀၀ |
| လူ့ပြည်အနှစ် ၅၀ သည် စတုမဟာရာဇ် ၁ရက် | စတုမဟာရာဇ်နတ်သက် ၅၀၀ |




ဖော်ပြပါဇယားအတိုင်း ရက်အားဖြင့်လည်း စတုမဟာရာဇ်နှင့်တာဝတိံသာ ၂–ဆ ကွာသည်။ (နှစ်ဆတက်သည်။) နှစ်အားဖြင့်လည်း နှစ်ဆကွာသည်။ ဤသို့ ရက်နှစ်ဆ+ နှစ် နှစ်ဆအားဖြင့် = ပေါင်း ၄–ဆ တက်ဖြစ်သည်။

စတုမဟာရာဇ်နတ်သက် ၅၀၀ ကို လူ့သက် ၉–သန်းရအောင်ရေတွက်ပုံ

(လူ့နှစ် ၅၀ သည် = စတုမဟာရာဇ် ၁–ရက်)

(၅၀ x ၁ = ၅၀)

၅၀ x ၃၀ ရက် = ၁၅၀၀

၁၅၀၀ x ၁၂ လ = ၁၈၀၀၀

၁၈၀၀၀ x စတုမဟာရာဇ်နတ်သက် ၅၀၀ = ၉၀၀၀၀၀၀ (၉–သန်း)

## ကမ္ဘာပျက်ပုံ ဘည်ပုံ

**မီးခုနှစ်တန်၊ ရေတစ်တန်၊ ဓစ်ပြန် ဆုံးလေတတ်။**
**ပ+ဒု+တ ထွေ၊ ဈာန်ဘုံဗွေ၊ မီး+ရေ+လေ နယ်မှတ်။**

**ကမ္ဘာပျက်ပုံမှာ–**

၁။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၂။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၃။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၄။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၅။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၆။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၇။ မီးခုနှစ်ကြိမ်+ ရေတစ်ကြိမ်
၈။ မီးခုနှစ်ကြိမ်+ **လေတစ်ကြိမ်**

ဤအစဉ်အတိုင်း ပျက်စီး၏။

**မီးဖျက်သောကမ္ဘာ၌ ပဌမဈာန်သုံးဘုံပါ** (ပထမဈာန် သုံးဘုံအထိ) မီးလောင်ပျက်စီး၏။ **ရေဖျက်သောကမ္ဘာ၌ ဒုတိယဈာန် သုံးဘုံပါ** (ဒုတိယဈာန် သုံးဘုံအထိ) ရေလွှမ်းမိုး၍ ပျက်စီး၏။ မီး+ရေအစုံ ခုနှစ်ကြိမ်ပြည့်ပြီး **နောက်ဆုံးမီးခုနှစ်ကြိမ်ဖျက်ပြီးနောက် လေတစ်ကြိမ်** တိုက်ခတ်ဖျက်ဆီးသောအခါ **တတိယဈာန်သုံးဘုံပါ** (တတိယဈာန် သုံးဘုံအထိ) ပျက်စီးလေသည်။

***တစ်နည်းဆိုရသော်–***

**မီး**ဖျက်သောကမ္ဘာ၌ **အာဘဿရာဘုံ**မှအောက် အကုန်မီးလောင်၏။
**ရေ**ဖျက်သောကမ္ဘာ၌ **သုဘကိဏှာဘုံ**အောက် အကုန်ရေလွှမ်းမိုး ပျက်စီး၏။
**လေ**ဖျက်သောကမ္ဘာ၌ **ဝေဟပ္ဖိုလ်ဘုံ**အောက် အကုန် လေတိုက်ခတ် ပျက်စီး၏။

လင်္ကာ = ဇာတိ+အာဏာ၊ ဝိသယာ၊ သုံးဖြာလောကဓာတ်
သောင်း+သိန်းကုဋေ၊ အသင်္ချေ၊ သုံးထွေအစဉ်ဟပ်။
ဖြစ်+ပျက် နှစ်ဖြာ၊ အတူမှာ၊ အာဏာခေတ်ဟုမှတ်။

ဇာတိခေတ်လောကဓာတ် + အာဏာခေတ်လောကဓာတ်+ဝိသယခေတ် လောကဓာတ်ဟူ၍ လောကဓာတ်ခေတ်ကြီး (နယ်ကြီး) သုံးရပ်ရှိ၏။

စကြဝဠာတိုက်ပေါင်း တစ်သောင်းသည် **ဇာတိခေတ်** မည်၏။ (ဘုရားဖြစ်ချိန် စသည်တို့၌ လျှေင်တုံလှုပ်ရာခေတ်)

စကြဝဠာတိုက်ပေါင်း ကုဋေတစ်သိန်းသည် **အာဏာခေတ်** မည်၏။ (ပရိတ်ပံ့နှံ့ရာခေတ်)

မရေမတွက်နိုင်သော စကြဝဠာအနန္တ = အသင်္ချေသည် **ဝိသယခေတ်**မည်၏။ (ရောင်ခြည်တန်ခိုး)

ကမ္ဘာပျက်သောအခါ ကမ္ဘာဖြစ်သောအခါ စကြဝဠာတိုက်ပေါင်း ကုဋေတစ်သိန်းတည်းဟူသော အာဏာခေတ် လောကဓာတ်ကြီးသည် အတူဖြစ်၍ အတူပျက်၏။

ကပ်အပြား

၁။ **အာယုကပ်**=အသက်အသင်္ချေယျတန်း၊ ကုဋေတန်း၊ သိန်း,သောင်း, ထောင်,ရာ-တန်း၊ ယခု ၇၅နှစ်တန်းခန့်ကို အာယုကပ်ဟု **ခေါ်သည်။**

၂။ **အန္တရကပ်**=အသက်အသင်္ချေတန်းမှ ၁၀ နှစ်တန်းထိ၊ ၁၀ နှစ်တန်းမှ အသင်္ချေယျတန်းထိ ဆုပ်ကပ် တက်ကပ် ၁စ်စုံကို **အန္တရကပ်ဟုခေါ်သည်။**

၃။ **အသင်္ချေယျကပ်**= အန္တရကပ် ၆၄ ကပ်ကို အသင်္ချေယျကပ်ဟု ခေါ်သည်၊

၄။ **မဟာကပ်**=အသင်္ချေကပ် ၄ ကပ်ကို မဟာကပ်တစ်ကပ် (တစ်ကမ္ဘာ) ဟု ခေါ်သည်။

**အသင်္ချေယျ ၄ ကောင်**

၁။ **သံဝဋ္ဋအသင်္ချေယျကပ်** =ကမ္ဘာကို မီးရေလေဖျက်၍ ပျက်ဆဲသော အခါ၊

၂။ **သံဝဋ္ဋဋ္ဌာယီအသင်္ချေယျကပ်** = ပျက်ပြီး အပျက်အတိုင်း တည်နေသောအခါ၊

၃။ **ဝိဝဋ္ဋအသင်္ချေယျကပ်** = ကမ္ဘာပြုမိုးရွာသည်မှ နေ၊ လ၊ နက္ခတ် ပေါ်သည့်တိုင်အောင်သောကမ္ဘာသစ်ကြီး ဖြစ်ပေါ်ရာကာလ၊

၄။ **ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေယျကပ်** =ကမ္ဘာတည်ပြီး၊ နောက်တစ်ကြိမ် ပျက်သည်တိုင်အောင် တည်နေသောကာလ၊

***လင်္ကာ*** – *သံ+ဝိဝဋ်တွင်၊ ဌာယီယှဉ်၊ သင်္ချေလေးလီမှတ်၊*
*ပျက်+တည်+ဖြစ်+တည်၊အစဉ်လည်၊ လေးမည်အနက်ဟပ်။*

ကမ္ဘာတည်ပုံ ပျက်ပုံ

စက်ဘီးသဏ္ဌာန်ကဲ့သို့ စကြဝဠာတောင်တန်းကြီးတစ်ခု ဝန်းဝိုင်း၍ တည်ရှိသော တစ်ခုသော လောကဓာတ်ကို ဩကာသလောကတစ်ခု ခေါ်သည်။ ထိုဩကာသလောကတစ်ခုအတွင်း၌ မဟာပထဝီ၊ မဟာသမုဒ္ဒရာ ကျွန်းကြီးလေးကျွန်း ကျွန်းငယ်များ အလယ်တည့်တည့်၌ မြင့်မိုရ်တောင်ကြီး ထိုမြင့်မိုရ်တောင်ကြီး၏အပ၌ မြင့်မိုရ်တောင်ကိုဝိုင်းဝန်း၍ တည်ရှိကြကုန်သော သီတာသမုဒ္ဒရာခုနစ်တန်၊ သတ္တရဘန်တောင်တန်း တောင်ဝိုင်းကြီးခုနစ်ထပ် တည်ရှိကြကုန်၏။ ဤကား ငါတို့ယခု တည်ရှိ၍ နေကြသော ဩကာသလောကတစ်ခု၏ တည်ရှိပုံတည်း။ လောကဓာတ်တစ်ခုလည်း ခေါ်ရ၏။ စကြဝဠာတစ်ခုလည်းခေါ်ရ၏။ ငါတို့စကြဝဠာမှ အရှေ့၊ အနောက်၊ တောင်၊ မြောက် အရပ်လေးမျက်နှာတို့၌လည်း စကြဝဠာအဆက်ဆက် အဆုံးမရှိ၊ အနန္တစီချည်း တည်ရှိကြကုန်၏။ ထို စကြဝဠာအသီးသီးတို့သည်လည်း အညီအမျှ ရွက်ဆောင်ကြကုန်သော ဓာတ်တို့၏ ဓမ္မနိယာမ အစွမ်းအားဖြင့် အဝန်းအဝိုင်း အညီအမျှ ဖြစ်ကြကုန်၏။ ထိုအဆုံးမရှိ အနန္တစကြဝဠာတို့သည်လည်း ကုဋေတစ်သိန်းစီ ကုဋေတစ်သိန်းစီ ဖြစ်အတူ ပျက်အတူ ဖွဲ့စည်းလျက် တည်ရှိ

ကြကုန်၏။ စကြဝဠာတို့၏ အောက်၌ ရေအထုကြီး ခံ၏၊ ရေ၏အောက်၌ လေအထုကြီး ခံ၏၊ လေ၏ အောက်၌ အဇဋာကာသ အနန္တကောင်းကင်ကြီး အဆုံးမရှိ သွားလေ၏။

အထက်ကောင်းကင်တို့၌ တည်ရှိကြကုန်သော မိုဃ်းတိမ်တို့သည် လည်းကောင်း နေ၊ လ၊ နက္ခတ်၊ တာရာအပေါင်းတို့သည်လည်းကောင်း ကောင်းကင်ဘုံကြီးတို့သည်လည်းကောင်း မြေအပြင်မှ အထက်ကောင်းကင်နှင့် အပြည့်ရှိနေသော လေအထုကြီးမှာ တည်ကြရသကဲ့သို့ အောက်ကမ္ဘာရေကြီးသည် ပြင်းထန်စွာ သွားလာ၍နေသော လေရှင် အထုကြီးမှာ တည်ရလေ၏၊ ထိုလေအထုကြီးသည်လည်း အောက်အနန္တကောင်းကင်ကြီးနှင့် အပြည့်ရှိနေသော ပကတိလေသေအထုကြီးမှာ တည်လေ၏။ စကြဝဠာတို့၏ အထက်၌လည်း အဇဋာကာသ အနန္တကောင်းကင်ကြီး အဆုံးမရှိ သွားလေ၏။

လူ့ပြည်မှ အထက်အရပ်မျက်နှာ၌ ယူဇနာပေါင်း ခုနစ်ကုဋေ၊ တစ်သန်း ရှစ်သိန်း ငါးသောင်း ခြောက်ထောင်မျှ ဝေးကွာသော ကောင်းကင်အရပ်၌ ဘဝဂ်ဘုံ တည်ရှိ၏။ ထိုဘုံမှ အောက်ကောင်းကင်အပြင်ကြီး၌ နတ်ဘုံအဆင့်ဆင့် ဗြဟ္မာဘုံအဆင့်ဆင့် ဟူသော ကောင်းကင်ဘုံကြီး၊ ကောင်းကင်နိုင်ငံကြီးတို့သည် အဆင့်ဆင့် တည်ရှိကြကုန်၏။

ဤသြကာသလောကသည် အဘယ်မျှ ကာလကြာမြင့်စွာ တည်နေပါသနည်း ဟူမူ မြန်မာတိုင်အားဖြင့် တစ်တိုင်ခွဲနှင့် တာပေါင်းတစ်ရာကို တဂါဝုတ်ခေါ်၏၊ အလျားတဂါဝုတ် အနံတဂါဝုတ် အမြင့်တဂါဝုတ်ရှိသော တခဲနက် ကျောက်အတိပြီးသော တောင်ကြီးတစ်ခု ရှိရာ၏။ ထိုတောင်ကြီးကို အလွန်သိမ်မွေ့လှစွာသော လဲဝါဂွမ်းဖြင့် အနှစ်တစ်ရာမှ တစ်ခါ။ အနှစ်တစ်ရာမှတစ်ခါ ပွတ်တိုက်သည်ရှိသော် ပွတ်တိုက်ဖန် အနန္တ အများကြီးများလှသဖြင့် ထိုကျောက်တောင်ကြီးသည် ကုန်လေရာ၏။ ဤမဟာပထဝီ မြင့်မိုရ်တို့ ယခုတည်ရှိကြသော သြကာသလောက၏ အသက်သည် မကုန်နိုင်ရာ။ တစ်ကြိမ် တည်ထောင်ပြီးသော မဟာပထဝီ မြင့်မိုရ် အစရှိသော သြကာသလောကသည် ဤမျှလောက် ကာလမြင့်စွာ တည်ရှိ၏။

ပျက်သောအခါ၌ စကြဝဠာပေါင်း ကုဋေတစ်သိန်း တစ်ပြိုင်နက် ပျက်၏။ စကြဝဠာတို့ကိုခံသော ကမ္ဘာရေပြင်ကြီးမှ အထက် **ပဌမဈာန်** ဗြဟ္မာပြည်တိုင်အောင် အကုန် **မီးလောင်၏၊** ပဌမဈာန် ဗြဟ္မာပြည်လည်း ပါလေ၏။ ဤကား ကမ္ဘာတည်ချက် ကမ္ဘာပျက်ချက် အမြွက်စကားတည်း။

**မဟာကပ်ကြီး**

ယခုအခါ အကျယ်ပြဆိုအံ့။ ။ကပ်သည် သံဝဋ္ဋကပ်၊ သံဝဋ္ဋဋ္ဌာယီကပ်၊ ဝိဝဋ္ဋကပ်၊ ဝိဝဋ္ဋဋ္ဌာယီကပ်ဟူ၍ လေးကပ်ရှိ၏။ ထိုလေးကပ်တို့တွင် ပျက်ဆဲသည် သံဝဋ္ဋကပ် မည်၏၊ တစ်စုံတစ်ခု ဖြစ်ပေါ်မှု မရှိသေးဘဲ ပျက်ပြီးအတိုင်း ရှိနေသေးသော ကာလသည် သံဝဋ္ဋဋ္ဌာယီကပ် မည်၏၊ တည်ထောင်ဆဲကာလသည် ဝိဝဋ္ဋကပ် မည်၏၊ တည်ထောင်ပြီးအတိုင်း တည်သောကာလသည် ဝိဝဋ္ဋဋ္ဌာယီကပ် မည်၏။ ထိုလေးကပ်လုံးသည် ကျောက်တောင်ကြီးဥပမာနှင့် အမျှဝ် ကာလရှည်ကြာကြ၏။ ကပ်လေးပါးအပေါင်းကို မဟာကပ်ကြီးတစ်ခု ဆို၏။ ထိုကပ်လေးပါးကို အစဉ်အတိုင်း ပြဆိုအံ့။

**သံဝဋ္ဋကပ် (မီး+ရေ+လေတို့ကြောင့် ပျက်ဆဲကာလ)**

စကြဝဠာပေါင်း ကုဋေတစ်သိန်းစီ အရေအတွက် တည်ရှိကြသော ထိုသြကာသလောကစုသည် ဖြစ်ချိန်၊ ပျက်ချိန် ကျသောအခါ အဘယ်ဓာတ်၏အစွမ်းဖြင့် ဖြစ်ပေါ်လာသနည်း၊ အဘယ်ဓာတ်၏အစွမ်းဖြင့် ပျက်ဆုံးပါသနည်း။ ဥတုခေါ်သော မီးဓာတ်ကြီး၏အစွမ်းဖြင့် ဖြစ်ပေါ်သည်။ ဥတုခေါ်သော မီးဓာတ်ကြီး၏အစွမ်းဖြင့် ပျက်ဆုံးသည်။ ပျက်ဆုံးပုံကို ရှေးဦးစွာပြဦးအံ့။ ယခုတည်ရှိသော ဤကမ္ဘာသည် ကျောက်တောင်ကြီး ဥပမာအတိုင်း နှစ်အသင်္ချေ နှစ်အသင်္ချေပေါင်း မရေမတွက်နိုင် ကြာညောင်းလတ်သော် ကမ္ဘာမီးကြီးလောင်၍ ပျက်လတ္တံ့။

ပျက်ဆုံးပုံကား-ယခုရှိကြသော မဟာပထဝီမြေကြီး စကြဝဠာတောင် သတ္တရဘန်တောင် မြင့်မိုရ်တောင် အလုံးစုံတို့သည် အစဉ်အတိုင်း အိုမှန်းမသိ အို၊ ရင့်မှန်းမသိ ရင့်ဖန်များလတ်သော် အခွံဓာတ်မျိုး၊ အကာဓာတ်မျိုး အဆင့်ဆင့်တို့သည် တဖြည်းဖြည်း ကုန်ခန်းကြကုန်လတ္တံ့။ အနှစ်ဓာတ်မျိုးတို့သည်သာ ကျန်ရှိကြကုန်လတ္တံ့၊ အနှစ်ဓာတ်မျိုးတို့မှာလည်း ညံ့ဖျင်းရာ၊ ညံ့ဖျင်းရာတို့က ကုန်ခန်းဖန်များလတ်သော် အသားမှအနှစ် အနှစ်မှ အဆီမျိုးတို့သာ ကျန်ရှိကြကုန်လတ္တံ့၊ ထိုအခါ၌ မဟာပထဝီ စသည်တို့သည် ဆီဦးခဲ၊ ထောပတ်ခဲ၊ ယမ်းဆီခဲ၊ ကန့်ခဲ၊ ကန့်ဆီခဲတို့ကဲ့သို့ မီးထည့်လျှင် တောက်တဲ့ရန် မြေဆီ၊ မြေနှစ်၊ ကျောက်ဆီ၊ ကျောက်နှစ်တို့သာ ကျန်ရှိကြကုန်လတ္တံ့။ (ထို့ကြောင့် ဆီထောပတ်တို့ကို လောင်သော မီးနှင့် ဥပမာပြတော်မူ၏)။ ဤကဲ့သို့ နှစ်ကာလအလွန်ကြာညောင်းသဖြင့် အိုမင်း ရင့်ဆွေးရခြင်း စသည်အတိုင်း ကုန်ခန်းရခြင်းအမှုသည် ဘယ်သူတစ်ဦးတစ်ယောက်မျှ

ဖန်ဆင်းရသော အမှုမျိုးမဟုတ်၊ အိုမင်း ရင့်ဆွေးအောင် ပြုလုပ်သူမရှိလျှင် မအိုနိုင်၊ မရင့်နိုင်ဟူ၍ပင် မရှိ။ ဓမ္မနိယာမအားဖြင့် တစ်လောကလုံး သိမြင်ထင်ရှား၍ နေကြသော ဓမ္မတာမှုကြီးပေတည်း။

ဤကဲ့သို့ မဟာပထဝီ၊ စကြဝဠာတောင်၊ သတ္တရဘန်တောင်၊ မြင့်မိုရ်တောင်တို့ အိုမင်း ရင့်ဆွေးခြင်းသို့ ရောက်ကြကုန်သောအခါ ကမ္ဘာပျက်မိုးကြီးဖြစ်ပေါ်လိုလတ်သော် ကမ္ဘာပေါ်မှာ မိုယ်းကြီး ကြီးစွာ တစ်ကြိမ်ရွာ၏။ ကမ္ဘာပျက်မိုယ်းကြီးခေါ်၏။ ထိုမှ နောက်၌ မိုယ်းမရွာပြီ၊ အနှစ်တစ်သိန်းခန့် ရှိလတ်သော် ကောင်းကင်၌ နေဗိမာန်အများ ပွါးစီး၍ လာ၏၊ **နေဗိမာန် ခုနှစ်ခုတိုင်အောင် အစဉ်အားဖြင့် တိုးပွါးလေ၏၊ စကြဝဠာကုဋေတစ်သိန်းမှာ နေဗိမာန်ပေါင်း ကုဋေ ခုနှစ်သိန်း ဖြစ်လာ၏၊** ဤသို့ ဖြစ်ပေါ်လာရာ၌လည်း ဤမျှလောက်ကြီးကျယ်၍ ဤမျှလောက် ကြာညောင်းစွာတည်ရှိသော ဓာတ်အသိုက်အအုံကြီး၌ ဓာတ်တို့၏ အကြီးအကျယ် အဆန်းတကြယ် ဖောက်ပြန်ဖွယ် အခွင့်ကြီးတို့သည် အသိုက်အအုံ ကြီးကျယ် ကြာညောင်းမှုနှင့်ပင် ပြီးစီးနိုင်ကုန်၏၊ နေဗိမာန်ပေါင်းများစွာ ကမ္ဘာပျက် မိုးကြီး ဖြစ်ပေါ်လိုလျှင် ဖြစ်ပေါ်နိုင်၏၊ ကမ္ဘာပျက်ရေကြီး ဖြစ်ပေါ်လိုလျှင် ဖြစ်ပေါ်နိုင်၏၊ ကမ္ဘာပျက်လေကြီး ဖြစ်ပေါ်လိုလျှင် ဖြစ်ပေါ်နိုင်၏။ ဖန်ဆင်းသူကို ရှာကြံဖွယ် မရှိ၊ ဉာဏ်မနိုင်ရှိခဲ့လျှင် ဖန်ဆင်းသူကို တွေးယူတတ်ကြ၏။

အနောက်နိုင်ငံများမှာ ရံခါရံခါ မီးတောင်ပေါက်မှု မိုယ်းကြီး ကြီးစွာ ရွာ၍ မြို့ရွာအများ ပျက်ပြားမှု ပင်လယ်ရေ လွှမ်း၍ မြို့ရွာအများ ပျက်ပြားမှု လေကြီး ကြီးစွာလာ၍ မြို့ရွာအများ ပျက်ပြားမှုတို့ကဲ့သို့တည်း။ ဤနေဗိမာန်ခုနှစ်စင်းထွက်၍ ကမ္ဘာပျက်မီးလောင်ပုံကို အင်္ဂုတ္တိုရ်ပါဠိတော်မှာ ငါတို့မြတ်စွာဘုရား ဟောကြားတော်မူသော ပါဠိတော်ကြီး ရှိလေပြီ။ အင်္ဂုတ္တိုရ်ပါဠိတော် ဒုတိယအုပ် သတ္တနိပါတ် နံပါတ်(၄၇၄)မှာ ကြည့်လေ။ ကမ္ဘာပျက် မီးကြီးလောင်ရာ၌ စကြဝဠာပေါင်း ကုဋေတစ်သိန်း ပါဝင်၏၊ အောက်၌ ကမ္ဘာကိုခံသော ရေနယ်ကို ချန်လှပ်၍ ယူဇနာပေါင်း နှစ်သိန်းလေးသောင်း အထုရှိသော ပံသုသေလာ မဟာပထဝီမြေကြီး စကြဝဠာတောင်ကြီး သတ္တရဘန်တောင်ရံ ခုနစ်ထပ်တို့နှင့်တကွ မြင့်မိုရ်တောင်ကြီးပေါင်း ကုဋေတစ်သိန်း ကုန်လေ၏။ ဤလူ့ပြည်မှ ယူဇနာပေါင်းလေးသိန်းကျော်မြင့်ကွာသော ပဋ္ဌမဈာန်ဗြဟ္မာဘုံကြီးတိုင်အောင် ကမ္ဘာမီးသိမ်း ယူလေ၏။ ထိုနယ်ခေတ်အတွင်းမှာ မီးစာဟူ၍ အဏုမြူမျှ အကျန်မရှိမှ မီးခဲ မီးတောက် အကုန်ကွယ်ငြိမ်းလေ၏၊ မီး၏ အခိုက်အတွံ့သည် အနု၊ အရင့်၊ အလျှံဟူ၍ သုံးမျိုးရှိ၏။ ဥတုအခိုက်အတွံ့ မီးခဲအခိုက်အတွံ့ မီးတောက်မီးလျှံ အခိုက်အတွံ့ဟူ၍ သုံးမျိုးရှိ၏ဟု

ဆိုလိုသည်။ ထိုသုံးမျိုးတို့တွင် မီးစာဝတ္ထုဌ် ရိုးရိုးရဲရဲမစွဲမိ တည်ရှိသော ဥတုခေါ်သော **မီးမျိုးစေ့စုသည် အနု**မည်၏၊ မီးစာဝတ္ထုဌ် ရိုးရိုးရဲရဲစွဲသော မီးခဲသည် **အရင့်**မည်၏။ တောက်၍ထသော မီးတောက်သည် **အလျှံ** မည်၏။ မီးစာဟူ၍ မုန်ညင်းစေ့မျှ အကြွင်းအကျန် မရှိသောအခါ မီးခဲ မီးလျှံတို့သည် အကြွင်း အကျန်မရှိ ကွယ်ငြိမ်းကုန်၏။ ။ ဥတုခေါ်သော ဓာတ်နုတို့သည်သာလျှင် မီးလောင်ရာနယ်တခွင်၌ ကောင်းကင်နှင့်အပြည့် ကျန်ရှိလေ၏၊ **ကျောက်တောင်ကြီးဥပမာမျှ ကြာလေ၏။** သံဝဋ္ဋကပ် ပြီး၏။

**သံဝဋ္ဋဋ္ဌာယီကပ် (ပျက်ပြီးသောအတိုင်း တည်နေသောကာလ)**

မီးလောင်ရာ နယ်တစ်ခွင်မှာ ကောင်းကင်နှင့်အပြည့် ကျန်ရှိကြကုန်သော ဥတုမျိုးစေ့တို့သည် အထူးထူးအပြားပြား များကုန်၏။ အောက်သိလာပထဝီကို လောင်သောမီးတို့မှ ကျန်ရှိကြကုန်သော ဥတုတို့သည် နောင်ထိုနေရာမှာ သိလာပထဝီဖြစ်ပေါ်နိုင်ရန် သိလာပထဝီမျိုးအနေနှင့် ကျန်ရှိကြကုန်၏။ ထို့အတူ စကြဝဠာရတောင်ကို လောင်သောမီး သတ္တရဘန်တောင်တို့ကို လောင်သောမီး၊ မြင့်မိုရ်တောင်ကို လောင်သောမီးတို့မှ ကျန်ရှိကြကုန်သော ဥတုတို့သည်လည်း နောင်ထိုထိုနေရာတို့မှာ စကြဝဠာတောင် စသည် ဖြစ်ပေါ်နိုင်ကြရန် ကျောက်ပထဝီမျိုးအနေဖြင့် ကျန်ရှိကုန်၏။ ပံသုပထဝီ တည်ရာ၌ ပံသုပထဝီမျိုးအနေနှင့် ကျန်ရှိကုန်၏။ နေ လ နက္ခတ် တာရာတို့ကို လောင်သောမီး ထိုထိုနတ်ဘုံ, ဗြဟ္မာဘုံတို့ကို လောင်သောမီးတို့မှ ကျန်ရှိကြကုန်သော ဥတုတို့သည်လည်း ထိုအတူပင်တည်း။ မီးလောင်ရာ နယ်တစ်ခွင်မှာ ကောင်းကင်နှင့်အပြည့် ကျန်ရှိကြကုန်သော ဥတုတို့သည် တဖြည်းဖြည်း ပွါးစီးကြကုန်၍ ကာလကြာမြင့်လတ်သော် မိုယ်းတိမ် မိုယ်းဓာတ် မိုယ်းဥတု မိုယ်းရာသီအဖြစ်သို့ရောက်၍ တည်ကြကုန်၏။ **(ကျောက်တောင်ကြီး ဥပမာ တစ်ခုစာ ကြာမြင့်လေ၏။)**

**သံဝဋ္ဋဋ္ဌာယီကပ် ပြီး၏။**

**ဝိဝဋ္ဋကပ် (ကမ္ဘာသစ် တည်ထောင်ဖြစ်ပေါ်ချိန်ကာလ)**

ကမ္ဘာတည်ထောင်ခြင်းဟူသော ဝိဝဋ္ဋကပ် ပေါ်လိုလတ်သော် မိုယ်းတိမ် မိုယ်းဓာတ် မိုယ်းဥတု မိုယ်းရာသီအနေနှင့် တည်ရှိကြကုန်သော ထိုဥတုတို့မှ ရှေးဦးစွာ မိုယ်းသေး၊ မိုယ်းဖွဲတို့သည် ရွာကုန်၏။ထိုအခါ၌ လေတို့သည် သံဝဋ္ဋဋ္ဌာယီကပ် ထက်ဝက်ခန့်ကာလမှ နောက်၌ ပူရှိန်၊ ပူငွေ့ အလျှင်းမတွေ့ကြရကုန်သဖြင့်

အလွန်ထက်အလွန် အေးမြကြကုန်၏။ ထိုလေတို့နှင့် တွေ့ထိကြကုန်သော မိုယ်းရေ၊ မိုယ်းစာတ်တို့သည် များသောအားဖြင့် မိုယ်းသီး မိုယ်းခဲတွေဖြစ်ကြလေကုန်၏။ တရွေ့ရွေ့ တိုးပွါးကြကုန်သဖြင့် ကာလကြာမြင့်လတ်သော် ယူဇနာ တစ်ရာရှိ တစ်ထောင်ရှိ ကြီးမားစွာ ရှာကုန်၏၊ ပဋမစျာန် ဗြဟ္မာဘုံတိုင်အောင် ရေခဲ မိုယ်းခဲတို့သည် ပြည့်လေကုန်၏၊ စကြဝဠာကုဋေတစ်သိန်းသည် ရေခဲ မိုယ်းခဲ တစ်ပြင်ထဲ တည်ရှိလေ၏၊ ထိုရေခဲတို့နှင့် ထိစပ်ကြကုန်ရာ အောက်အောက်ရေတို့သည်လည်း ခဲ၍ခဲ၍ လိုက်ကြကုန်၏၊ ထိုရေတို့၏နေရာမှ အပသို့ ထွက်ကြကုန်သော လေတို့သည် ထိုရေတို့ကို ဝန်းဝိုင်းလျက် တည်ကုန်၏။ မိုယ်းရွာမှု ပြတ်စဲလတ်သော် ထိုရေခဲ၊ မိုယ်းခဲတို့သည် တဖြည်းဖြည်း လျော့ကျလေကုန်၏၊ အောက်၌ ကမ္ဘာကိုခံသော ရေ၊ လေတို့သည် မိုးရေမိုးခဲ အားကြီးလှသောအခါ မဆောင်ကြဉ်းနိုင် ရှိကြကုန်ရာ ပိုမိုသမျှသောမိုယ်းရေမိုယ်းခဲတို့သည် အောက်ကောင်းကင်သို့ လျော့ကျလေကုန်၏၊ မဟာပထဝီတည်ရာသို့ ကျရောက်သောအခါ ကမ္ဘာကိုခံသောလေတို့သည် ဆောင်ကြဉ်းနိုင်သောအခါ မိမိတို့အဟုန်ဖြင့် ပိတ်ဆို့ကုန်လျက် ရွက်ဆောင်မြဲ ရွက်ဆောင်ကြလေကုန်၏။

ထိုရေခဲပြင်ကြီးသည် အစဉ်အတိုင်း လျော့ကျလေရာ ထိုထို႒ာန၌ ရှိကြကုန်သော ဥတုအထူးတို့၏ အစွမ်းဖြင့် ဗြဟ္မာဘုံနေရာ၌ ဗြဟ္မာဘုံဖြစ်၍ လာကုန်၏၊ နတ်ဘုံနေရာ၌ နတ်ဘုံဖြစ်၍ လာကုန်၏၊ မြင့်မိုရ်တောင်နေရာ၌ မြင့်မိုရ်တောင်ဖြစ်၍ လာကုန်၏၊ စကြဝဠာတောင်နေရာ၌ စကြဝဠာတောင်ဖြစ်၍ လာကုန်၏၊ သတ္တရဘန်တောင်တို့၏ နေရာ၌ သတ္တရဘန်တောင်တို့သည် ဖြစ်လာကုန်၏၊ ပံသုပထဝီနေရာ၌ ပံသုပထဝီဖြစ်၍ လာ၏၊ သိလာပထဝီနေရာ၌ သိလာပထဝီဖြစ်၍ လာ၏၊ သီတာသမုဒ္ဒရာတို့နေရာ၌ သီတာသမုဒ္ဒရာတို့သည် ဖြစ်၍ လာကုန်၏။ နေ လ နက္ခတ် တာရာတို့သည်မူကား နှင်းမြူနှင်းခိုးတို့ ဖုံးအုပ်လျက် ရှိနေကြကုန်၏။ နေ လ နက္ခတ် တာရာ ဘုံဗိမာန်ဖြစ်၍ နေကြကုန်သော ရွှေ၊ ငွေ၊ ရတနာတို့သည် အလွန်ပေါကြကုန်၏၊ မြေမှအထက် ကောင်းကင်တစ်ခွင်လုံးတို့၌ မလှုပ်မရှား တည်နေသော လေသေ၊ လေထုကြီးသည် ခံလေ၏၊ အတွင်း၌ ငှက်တို့သည် ထိုလေသေတို့ကို လှံ့ဆော်၍ ကောင်းကင်၌ ပျံကြရကုန်၏။

မြင့်မိုရ်တောင်၊ သတ္တရဘန်တောင်တို့မှ အပသို့ထွက်သော လေရှင်တို့အပ၌ စကြဝဠာ တောင်ဝိုင်းကြီးမှ အတွင်းသို့ ထွက်သော လေရှင်တို့သည် တိုက်ဆိုင်ကြကုန်ရာ မြင့်မိုရ်တောင်ကို မဏ္ဍိုင်ပြု၍ စကြဝဠာတောင်ဝိုင်းကြီးအလိုက် ပတ်ဝိုက်တိုလျှင်း အဟုန်ပြင်းစွာ လက်ျာရစ်လှည့်လည်၍နေသော လေဗွေဝဲကြီး

လေဗွေဝန်းကြီး လေဗွေစက်ဝိုင်းကြီးသည် ရှိ၏၊ ထိုလေဗွေဝန်းကြီးသည် နေ လ နက္ခတ်တာရာတို့ကို အမြဲတွန်းဆောင် လှည့်နှင်လေ၏၊ ဘုံဗိမာန်အပေါ် အသေးသို့ လိုက်၍ အမြန်အနှေး အပြေးအသွား ခြားနားလျက် ရှိကြကုန်၏၊ အထက်ဖြဟ္မာပြည်မှ စုတေ၍ ဥပပါတ်သန္ဓေဖြင့် မြေမပေါ်မီခင် ရေအပြင်ကြီး၏အထက်မှာ ကျရောက် ပေါ်ပေါက်လာကြကုန်သော ဗြဟ္မာလားတူ ကပ်ဦးသူတို့လည်း မိမိတို့ကိုယ်ရောင် ကိုယ်ဝါတို့ဖြင့် ကောင်းကင်အပြင်မှာ သွားလာရပ်ထိုင်၍ နေကြကုန်လေရာ ကာလ ကြာက မြေအစတွင် ရေအပြင်မှာ ဖြစ်ပေါ်လာသော မြေလွှာ၊ မြေဆီများကို စားသုံးကြကုန်၍ ကိုယ်ရောင်ကိုယ်ဝါကွယ်ပျောက် မှောင်ကြီးရောက်ခါမှ နေနှင့်လကို တ သ ကြကုန်ရာ နေ လ နက္ခတ် တာရာတို့သည် ထိုအခါမှ ထင်လင်းစွာ ပေါ်လာ ကြလေကုန်သတည်း။

ဤ ဝိဝဋ္ဋကပ်စကားရပ်၌ အလွန်ထက်အလွန် အေးမြလှကုန်သော လေတို့၏ တွေ့ထိမှုကြောင့် ကမ္ဘာမိုယ်း ကမ္ဘာရေတို့ အခဲအပြင်တွေ ဖြစ်ကြကုန်သည်ဟူရာ၌ - ကမ္ဘာပေါ်မှာ အချို့သောမြို့ရွာတို့၌ မိုယ်းသီးမိုယ်း ကြီးစွာရွာ၍ လူသူကျွဲနွား များပင် ပျက်စီးကြောင်း အိမ်ရာတိုက်တာများ ပြိုပျက်ကြောင်း ဆောင်းရာသီအခါတွင် ဟိမဝန္တာတောတောင်များမှာ ကောင်းကင်မှ ကျလာသော ဆီးနှင်းတို့သည် မြေသို့ ရောက်ရှိ၍ အလွန်အေးမြသော လေတို့နှင့်တွေ့ကြရာ ဆီးနှင်းခဲတွေ တောင်ရှိ၊ ကမ်းရှိ ဖြစ်ကြကြောင်း၊ ဇမ္ဗူဒီပါ၏ မြောက်အရပ်မျက်နှာတို့၌ ဆောင်းရာသီအခါ အေးမြလှစွာသော လေတို့၏တွေ့ထိမှုကြောင့် သမုဒ္ဒရာ ပင်လယ်ရေနယ်တခွင် ခဲပျဉ်၍နေသောကြောင့် လှေ မီးသင်္ဘောများ မသွားမလာနိုင် ရှိနေကြကြောင်း၊ မြောက်အရပ်ဒေသ ရုရှားနိုင်ငံရှိ မြစ်ကြီးမြစ်ငယ်တို့မှာလည်း ထို့အတူ ဆောင်းရာသီ၌ မြစ်ရေချောင်းရေ ခဲပျဉ်၍နေသောကြောင့် လှေ မီးသင်္ဘောများ မသွားနိုင် မလာနိုင် ရှိနေကြောင်း၊ ဆောင်းရာသီအခါ၌ ငါတို့နိုင်ငံတွင် မိုယ်းကုတ်၊ မိုယ်းမိတ်စသော ရှမ်းပြည်နယ်ပယ်များမှာလည်း ဆီးနှင်းခဲမှု ထင်ရှားရှိနေကြောင်းများကို မျှော်ထောက် ကြလေ၊ ရေခဲပြုလုပ်သော ပညာရှင်ကြီးများနှင့်လည်း ညှိနှိုင်းကြလေ။

ယခုပြဆိုခဲ့သော ဆီးနှင်းခဲ၊ ရေခဲတို့မှာမူကား နေပူ၊ လေပူတို့နှင့် တွေ့ထိမှု ရှိနေသောကြောင့် မကြာမီ အရေဖြစ်မြဲဖြစ်၍ သွားကုန်၏၊ ကမ္ဘာရေပြင်၊ ကမ္ဘာရေခဲ တို့မှာမူကား သံဝဋ္ဋဘာယိနောက်ပိုင်းမှစ၍ ဝိဝဋ္ဋကပ်ပတ်လုံး နေပူ၊ လေပူဟူ၍ မတွေ့မထိကြသဖြင့် အရည်ဖြစ်ရန် အရေးနှင့် အဝေးကြီးဝေးကြလျက် ခက်မာသည် ထက် ခက်မာဘက်သို့သာ ရောက်ကြလေကုန်၏။

**ဝိဝဋ္ဋကပ် ပြီး၏။**

ဝိဝဋ္ဋဋ္ဌာယီကပ် (ကမ္ဘာသစ် တည်ပြီး ဆက်လက်တည်နေသောကာလ)

ဤသို့မြင့်မိုရ်၊ စကြဝဠာစသည်တို့ တည်ထောင်၍ ပြည့်စုံကြသောအခါမှ စ၍ တစ်ဖန် ဤကမ္ဘာကြီး ပျက်စီးပြန်ရန် ကမ္ဘာပျက်မိုယ်းကြီး ရွာသည့်တိုင်အောင် ဩကာသ လောကကြီးသည် ကျောက်တောင်ကြီးဥပမာ တစ်ခုတစ်မျှ အစွန့်ရှည် ကြာစွာ တည်လေ၏။

အနမတဂ္ဂသံယုတ် ဝေပုလ္လသုတ်ပါဠိတော်၌ -

"ဤကမ္ဘာတွင် ပွင့်ကြကုန်သော ဘုရားငါးဆူတို့တွင် တစ်ဆူနှင့်တစ်ဆူ အကြားမှာ ဤမဟာပထဝီမြေကြီးသည် တစ်ယူဇနာခန့် တစ်ယူဇနာခန့် တိုးတက်၏၊ ဝေပုလ္လတောင်သည် တစ်ယူဇနာခန့် တစ်ယူဇနာခန့် မြေထဲသို့ မြုပ်လေ၏"။

ဟူ၍ ဟောတော်မူသောကြောင့် ပံသုပထဝီမြေကြီးသည် အန္တရကပ်တစ်ကပ်၊ တစ်ကပ်အတွင်းမှာ တစ်ယူဇနာ တက်မြဲဟု သိအပ်၏။ အန္တရကပ်ဆိုသည်ကား ကမ္ဘာဦးအခါ၌ လူတို့၏ အသက်တမ်းသည် အသင်္ချေယျတမ်း ဖြစ်၏၊ လူတို့သည် နှစ်ပေါင်းအသင်္ချေ အသက်ရှည်ကြကုန်၏။ အသင်္ချေတမ်းမှ တရွေ့တရွေ့ ဆုတ်ယုတ် လေရာ ဆယ်နှစ်တမ်းသို့ ဆိုက်၏၊ ဆယ်နှစ်တမ်းမှ တရွေ့ရွေ့ တက်ပြန်ရာ အသင်္ချေတမ်းသို့ ရောက်ပြန်၏၊ ဤသို့ အသင်္ချေတမ်းမှဆုတ်၍ တဖန် အသင်္ချေတမ်းသို့ ရောက်ပြန်သောကာလသည် အန္တရကပ် တစ်ကပ် မည်၏။

ယခုတည်ရှိသော ဤဝိဝဋ္ဋဋ္ဌာယီကပ်သည် အန္တရကပ်ပေါင်း ၆၄ ပြန်တည်နေ၏၊ ကမ္ဘာဦးပထမ အန္တရကပ်၌ ကကုသန်ဘုရား ပွင့်တော်မူ၏၊ ဒုတိယအန္တရကပ်၌ ကောဏဂုံဘုရား ပွင့်တော်မူ၏၊ တတိယအန္တရကပ်၌ ကဿပဘုရား ပွင့်တော်မူ၏၊ စတုတ္ထအန္တရကပ်၌ ငါတို့သခင် အရှင်ဂေါတမ ဘုရား ပွင့်တော်မူ၏၊ နောက်ပဉ္စမ အန္တရကပ်၌ မေတ္တေယျဘုရား ပွင့်တော်မူလတ္တံ့၊ (နောက်၌ အန္တရကပ်ပေါင်း ၅၉ ကျန်ရှိ၏၊ ဘုရားပွင့်မှု မရှိလေပြီ။)

ဝိဝဋ္ဋဋ္ဌာယီကပ် ပြီး၏။

## လောကနှင့်နိဗ္ဗာန်အကျဉ်း

### ဩကာသလောက

ဝိဝဋ္ဋဋ္ဌာယီ၌ ဤမျှလောက် ကြီးကျယ်စွာတည်ရှိမှုသည် နောက်ကမ္ဘာ ပျက်စီး ကြီးကျယ်စွာ ပေါ်လာဘို့ ဖြစ်၏၊ ကမ္ဘာပျက်စီးပေါ်လာရန် ဖန်ဆင်းသူကို ရှာကြံဘွယ် မရှိ၊ ကမ္ဘာပျက်စီး ကြီးကျယ်စွာ လောင်မှုသည် နောက်ကမ္ဘာသစ် တည်ထောင်ရန် ဥတုအသိုက်အအုံ ကြီးကျယ်စွာ ပေါ်လာဘို့ဖြစ်၏၊ ဥတုအသိုက်အအုံ ဖန်ဆင်းသူကို ရှာကြံဘွယ် မရှိ။ ဥတု အသိုက်အအုံ ကြီးကျယ်မှုသည် ကမ္ဘာပြုမိုဃ်းကြီး ကြီးကျယ်စွာပေါ်လာဘို့ ဖြစ်၏၊ ကမ္ဘာပြုမိုဃ်းဖန်ဆင်းသူကို ရှာကြံဘွယ် မရှိ၊ ကမ္ဘာပြုမိုဃ်း ကြီးကျယ်စွာ ရွာမှုသည် မဟာပထဝီ မြင့်မိုရ်တောင် အစရှိသော ဩကာသလောကကြီး ဖြစ်ပေါ်ဖို့ဖြစ်၏။ ဤဩကာသလောကကြီးကို ဖန်ဆင်းသူ အခြားရှာကြံဘွယ် မရှိ၊ ဤ ဩကာသလောကကြီး ကြီးကျယ်စွာ တည်မှုသည် ကမ္ဘာပျက်စီးကြီး ကြီးကျယ်စွာလောင်ဘို့ ဖြစ်၏၊ ဤသို့လျှင် ဖန်ဆင်းသူကို ရှာကြံဘွယ် ကိစ္စမရှိသည့်ပြင် ထာဝရ ဘုရားပေါင်း တစ်သောင်းအား၊ တစ်သိန်းအားနှင့်ပင် တားဆီးနိုင်ခွင့်မရအောင် ကြီးကျယ်လှသော ဓမ္မနိယာမ၏ အစွမ်းအားဖြင့် ရှေး၌ လည်း အစမရှိ၊ နောက်၌လည်း အဆုံးမရှိ၊ အနမတဂ္ဂ သံသရာ ကမ္ဘာအဆက်ဆက် ကြီး ဖြစ်လေသတည်း။

ဩကာသလောကကြီး ပြီး၏။

********

# ကပ်အပြား

ပျက်သည့်အတိုင်း တည်




ဖြစ်သည့်အတိုင်းတည်

* အာယု+အန္တရာ၊ အသင်္ချာ၊ မဟာလေးမျိုးတပ်။
* သံ+ဝိဝဋ္ဋတွင်၊ ဌာယီယှဉ်၊ သင်္ချေလေးလီမှတ်။
* ပျက်+တည်+ဖြစ်ထည်၊ အစဉ်လည်၊ လေးမည် အနက်ဟပ်။
* သင်္ချေလေးဖြာ၊ အပေါင်းမှာ၊ မဟာကမ္ဘာမှတ်။
* မီးခုနစ်တန်၊ ရေတစ်တန်၊ ရှစ်ပြန် ဆုံးလေဓာတ်။
* ပ+ဒု+တ-ထွေ၊ စျာန်သုံးဘွေ၊ မီး+ရေ+လေ-နယ်မှတ်။

## ဘုံ-ပုဂ္ဂိုလ်ရ

| ပုဂ္ဂိုလ် / ဘုံ | ပုထုဇဉ်-၄ | | | | အရိယာ-၈ | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | ဒုဂ္ဂတိအဟိတ် | သုဂတိအဟိတ် | ဒွိဟိတ် | တိဟိတ် | သောတာပတ္တိမဂ္ဂဋ္ဌ | သောတာပတ္တိဖလဋ္ဌ | သကဒါဂါမိမဂ္ဂဋ္ဌ | သကဒါဂါမိဖလဋ္ဌ | အနာဂါမိမဂ္ဂဋ္ဌ | အနာဂါမိဖလဋ္ဌ | အရဟတ္တမဂ္ဂဋ္ဌ | အရဟတ္တဖလဋ္ဌ | ပုဂ္ဂိုလ် | အပေါင်း |
| အရူပ ၄ဘုံ | | | | ။ | | ။ | ။ | ။ | ။ | ။ | ။ | ။ | ၈ | ၃၂ |
| သုဒ္ဓါဝါသ ၅ ဘုံ | | | | | | | | | | ။ | ။ | ။ | ၃ | ၁၅ |
| အသညသတ် ၁ဘုံ | | ။ | | | | | | | | | | | ၁ | ၁ |
| ပဒုတ ၃-ဘုံစီ + ဝေဟပ္ဖိုလ်၁၀ဘုံ | | | | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ၉ | ၉၀ |
| အထက်နတ်ပြည် ၅ ဘုံ | | | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ၁၀ | ၅၀ |
| လူ၊ စတုမဟာရာဇ် ၂ဘုံ | | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ။ | ၁၁ | ၂၂ |
| အပါယ် ၄ ဘုံ | ။ | | | | | | | | | | | | ၁ | ၄ |
| | | | | | | | | | | | | | | ၂၀၄ |

* ဒု, သု, ဒွိ, တိ၊ ယာ, အရိ၊ ပေါင်းဘိ ဒွါဒသာ။
* **အပါယ်ဘုမ္မိ၊** ဒုဂ္ဂတိ၊ ရဘိတစ်ယောက်သာ။
* **လူ, မဟာရာဇ်၊** ဘုံနှစ်ဆင့်၊ ကြဉ်ပစ် ဒုဂ္ဂတာ။
* ဒု, သု, မဝင်၊ တစ်ကျိပ်လျှင်၊ **ထက်ခွင်နတ်ဘုံမှာ။**
* တိဟိတ်, ရိယံ၊ ကိုးယောက်စံ၊ **ဆယ်တန်ဗြဟ္မာ့ရွာ။**
* သုဂတိ, တစ်၊ ရ-တုံလစ်၊ **ရပ်ပြစ်အသညာ။**
* အနာဂါမိ၊ ဖိုလ်, စ-ဘိ၊ ရှိ၏ **သုဒ္ဓမှာ။**

19
A

* မဂ်-သောတာ, ဖျောက်၊ တိဟိတ်လျှောက်၊ **ရှစ်ယောက်အရှုပါ။**

* နှစ်ရာ့တစ်ဆယ်၊ လေးယောက်ကယ်၊ ဉာဏ်ကျယ်ခွဲစိတ်ဖြာ။

သုံးဆယ့်တစ်ဘုံတွင်

- **ပုထုဇဉ်သက်သက်ရှိသောဘုံ**=အပါယ်လေးဘုံ + အသညသတ်ဘုံ = ပေါင်း ၅-ဘုံ
- **အရိယာသက်သက်ရှိသောဘုံ**=သုဒ္ဓါဝါသ ၅-ဘုံ
- **နှစ်မျိုးလုံးရှိသောဘုံ** = ကြွင်း ၂၁-ဘုံ

ဘဝ်ဘဝ၌ ဘူမိ်ဘရား ၃-ပါး

ဘဝတစ်ခု၌ **ပဋိသန္ဓေစိတ် ဘဝင်စိတ် စုတိစိတ်**တို့သည် အတူတူပင် ဖြစ်ပါသည်။ အာရုံပြုပုံလည်း အတူတူပင် ဖြစ်သည်။

*ဥပမာ* = ပဋိသန္ဓေစိတ်သည် မဟာဝိပါက် ပထမစိတ်ဖြစ်လျှင် ဘဝင်စုတိ တို့လည်း ထိုစိတ်ပင် ဖြစ်သည်။ (ဘုမ္မိ, ဇာတိ, သမ္ပယုတ္တ, သင်္ခါရ၊ အာရုံတို့အားလုံးစုံတူကြ၏။)

***ဘဝတစ်ခု၊ သန် + ဘွင် + စု၊ သုံးခုထပ်စမြဲ။**

***ဘုံ+ဇာတ်+သမ်+သင်၊ အာ-ငါးအင်၊ သန်+ဘွင်+စု- မကွဲ။**

## ကမ္မစတုက္က = ကံ ၄-ပါး x ၄-လီ

ကိစ္စစတုက္က (ကိစ္စအားဖြင့် ကံ - ၄ မျိုး)

၁။ **ဇနကကံ** = ကိုယ်တိုင်အကျိုးကို ဖြစ်စေတတ်သော (ပဋိသန္ဓေအခါ၊ ပဝတ္တိအခါတို့၌ ကိုယ်တိုင်အကျိုးကို ဖြစ်စေသောကံ၊

၂။ **ဥပတ္ထမ္ဘကကံ** = ထောက်ပံ့ကူညီတတ်သောကံ။ (ကိုယ်တိုင်ကားအကျိုးမပေး)

၃။ **ဥပပီဠကကံ** = ကပ်၍ နှိပ်စက်တတ်သောကံ = (တစ်ပါးသောကံကို အကျိုးပေးခွင့် မထက်သန်အောင် အခွင့်မရအောင် ဆောင်ရွက်)

၄။ **ဥပဃာတကကံ**=ကပ်၍သတ်တတ်သောကံ=(အခြားကံတို့ အကျိုး
ပေးခွင့်ကိုဖြတ်၍ မိမိ၏အကျိုးကိုပေးစေသောကံ)

**လင်္ကာ** = ပဋိသန္ဓိ၊ ပဝတ္တိ၊ ဝိပါက် ကဋတ္တာ၊
**ဖြစ်ပွားစေမှု**၊ ကျေးဇူးပြု၊ ကု-ကုဇနကါ။
**ထောက်ခံသမှု**၊ ကျေးဇူးပြု၊ ဥပတ္ထမ္ဘကာ ။
**နှိပ်စက်ညှင်းပန်း၊ညှိုးနွမ်းစေမှု**၊ **ဖိစီးပြု**၊ ဥပပီဠကာ။
**ပြတ် ဆုံးစေမှု**၊ **အတင်းပြု**၊ ဥပဃာတကာ ။

ပါကဒါနပရိယာယစတုက္က (အကျိုးပေးရာအလှည့်အကြိမ်အားဖြင့်
ကံ – ၄ မျိုး)

၁။ **ဂရုကံ** = ကြီးလေးသောကံ ( မဟဂ္ဂုတ်/ပဉ္စာနန္တရိယကံနှင့်-
နိယတ မိစ္ဆာဒိဋ္ဌိ)

၂။ **အာသန္နကံ** = သေခါနီး ပြုအပ်၊ အောက်မေ့အပ်သောကံ

၃။ **အာစိဏ္ဏကံ** = နေ့စဉ်မပြတ် ဝတ်ထား၍ အားထုတ်အပ်သောကံ။

၄။ **ကဋတ္တာကံ** = အထက်ကံတို့လောက် မလေးနက်၊ သာမန်ပြုအပ်
သော၊ ယခုဘဝ ရှေးရှေးဘဝ - ကံများ။

ပါကကာလစတုက္က (အကျိုးပေးရာကာလအားဖြင့် ကံ ၄–မျိုး)

၁။ **ဒိဋ္ဌဓမ္မဝေဒနီယကံ** = မျက်မှောက်ဘဝ၌ပင် အကျိုးပေးသော
ကံ (ပထမဇောစေတနာ)

၂။ **ဥပပဇ္ဇဝေဒနီယကံ** = ဒုတိယဘဝ၌ အကျိုးပေးသောကံ(သတ္တမ
ဇောစေတနာ)

၃။ **အပရာပရိယဝေဒနီယကံ**=တတိယဘဝမှ နိဗ္ဗာနစုတိ မကျမီအတွင်း
**အကျိုးပေးသောကံ**
(အလယ်ဇော - ၅ ချက် စေတနာ)

၄။ **အဟောသိကံ** = အကျိုး လုံးဝမပေးသောကံ။

ပါကဒ္ဓါနစေတနာ (အကျိုးပေးရာဒ္ဓါနဘုံအားဖြင့် ကံ—၄ မျိုး)

၁။ အကုသိုလ်ကံစေတနာ (၁၂) = အပါယ် ၄-ဘုံ၊
၂။ ကာမာဝစရကုသိုလ်ကံစေတနာ (၈) = ကာမသုဂတိ ၇-ဘုံ၊
၃။ ရူပကုသိုလ်ကံစေတနာ (၅) = ရူပ ၁၆ ဘုံ၊
၄။ အရူပကုသိုလ်ကံစေတနာ (၄) = အရူပ ၄ ဘုံ

ကံ ၃—မျိုး

၁။ ကာယကံ = ကိုယ်ဖြင့်ပြုသောကံ
၂။ ဝစီကံ = နှုတ်ဖြင့်ပြုသောကံ
၃။ မနောကံ = စိတ်ဖြင့်ပြုသောကံ

ကံ ၃—မျိုးနှင့် ဒုစရိုက် ၁၀ ပါး (အကုသလ ကမ္မပထတရား ၁၀ ပါး)

**ကာယဒုစရိုက် ၃ ပါး**

၁။ ပါဏာတိပါတကံ = သူ့အသက်ကို သတ်ခြင်း၊
၂။ အဒိန္နာဒါနကံ = သူ့ဥစ္စာကို ခိုးယူခြင်း၊
၃။ ကာမေသုမိစ္ဆာစာရကံ = ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်ခြင်း၊

**ဝစီဒုစရိုက် ၄ ပါး**

၁။ မုသာဝါဒကံ = လိမ်ပြောခြင်း
၂။ ပိသုဏဝါစာကံ = ချောပြစ်ကုန်းတိုက်ခြင်း
၃။ ဖရုသဝါစာကံ = ကြမ်းတမ်းစွာ ပြောဆိုခြင်း
၄။ သမ္ဖပ္ပလာပဝါစာကံ = စကားဖွင်း, စကားတင်း ပြောဆိုခြင်း

**မနောဒုစရိုက် ၃ ပါး**

၁။ အဘိဇ္ဈာ = သူတပါးစည်းစိမ်ကို မတရားယူလိုမှု
၂။ ဗျာပါဒ = သူတပါး ပျက်စီးဖို့ ကြံစည်မှု
၃။ မိစ္ဆာဒိဋ္ဌိ = အယူမှားမှု

**ဒုစရိုက် ၃၀ = ဒုစရိုက် ၁၀ ပါးကို ပုဗ္ဗစေတနာ၊ မုဥ္စစေတနာ၊ အပရစေတနာ ၃ ပါးနှင့်မြှောက်။**

**ဒုစရိုက် ၄၀ = ကိုယ်တိုင်+တိုက်တွန်း၊ ချီးမွမ်း + စိတ်တူ၊ ပွားပြန်မူ မှတ်ယူလေးဆယ်ကံ။**

**လင်္ကာ =** သက်သတ်, ခိုးမှု၊ ကာမေသု၊ သုံးခု ကာယကံ။

လိမ်လည်ကုန်းချော၊ နှုတ်ကြမ်းပြော၊ ဖျင်းပြောဝစီကံ။

သူ့ဟာ - ရလို သေစေလိုငြား၊ ကံဖယ်ရှား၊ သုံးပါး မနောကံ။

**လင်္ကာ = ပါဏာ, ဖရု၊ ဗျာပါစု၊ ဒေါ-ဒု - အရင်းခံ။**

**ကာမေ, ဒိဋ္ဌာ၊ အဘိဇ္ဈာ၊ လောဘာ - အရင်းခံ။**

**အဒိန်၊ မုသာ၊ ပိ, သမ္ဖ၊ လောဘာ - ဒေါ - နှစ်တန်၊**

**သုစရိုက် (၁၀)ပါး**(ကုသလကမ္မပထတရား-၁၀ ပါး) (ဒုစရိုက်မှ အပြန် ယူပါ)

**ပုညကြိယဝတ္ထု ၁၀ ပါး** (ပြုထိုက်သော ကောင်းမှု ၁၀ ပါး)

| | သွင်းယူပုံ | တရားကိုယ် | ဆန့်ကျင်ဖက် |
|---|---|---|---|
| ၁။ ဒါန(အလှူပေးခြင်း) | ၆။ ပတ္တိဒါန (အမျှဝေမှု)<br>၇။ပတ္တာနုမောဒန (သာဓုခေါ်မှု) | အလောဘ | ဣဿာ<br>မစ္ဆရိယ |
| ၂။ သီလ (သီလစောင့်ထိန်းမှု) | ၄။ အပစာယန (အရိုသေပေးမှု)<br>၅။ ဝေယျာဝစ္စ (ကူညီမှု) | အဒေါသ | လောဘ၊ ဒေါသ |

| | | | |
|---|---|---|---|
| ၃။ ဘာဝနာ(ကမ္မဋ္ဌာန်းအားထုတ်မှု) | ၈။ ဓမ္မဿဝန<br>(တရားနာမှု)<br>၉။ ဓမ္မဒေသနာ<br>(တရားဟောမှု)<br>၁၀။ ဒိဋ္ဌုဇုကမ္မ<br>(အယူဖြောင့်မှု) | အမောဟ | မောဟ |

**လင်္ကာ** = ဒါန, သီလ, ဘာဝနာ၊ ၃–ဖြာ စဉ်၍ခင်း၊ အစ–နှစ်ကိုလယ်၊ အလယ်နှစ်ကို – စ၊ နောက်မှာ နောက်ခြင်းသွင်း။

## မဟဂ္ဂုတ် – ကုသိုလ် – ကံ ၉ ပါး

မဟဂ္ဂုတ်ကုသိုလ်ကံ ၉–ပါးကိုပင် **အပ္ပနာမနောကံ၊ ဘာဝနာကံ** ဟု ခေါ်သည်။

(ရူပမှာ၊ စျာနင်အားဖြင့် ၅–ပါး ပြား၊ အရူပမှာ အာရုံအားဖြင့် ၄–ပါး ပြား၏)

**လင်္ကာ** = မဟဂ် ကိုးဖြာ၊ ဘာဝနာ၊ အပ္ပနာ မနောကံ။

## နိဗ္ဗာန် ရောက်ဖွယ် ကြေးကိုးဆယ်

သုစရိုက် ၁၀ x ၃–လီ + ပုည ၁၀ x ၃–လီ + ပါရမီ ၁၀ x ၃–လီ = ၉၀

## ပဋိသန္ဓေအခါ၊ ကာမာဝစရကံ+ ပဋိသန္ဓေဝိပါက်နှင့် အကျိုးပေးသည့်ဘုံ

| ကံ | ဝိပါက် | အကျိုးပေးရာဘုံ |
| --- | --- | --- |
| ဥဒ္ဓစ္စစေတနာကြဉ် အကုကံ ၁၁-ကြောင့် | အကုသလ ဝိပါက် ဥပေက္ခာ သန္တီရဏစိတ်ဖြင့် | အပါယ်လေးဘုံ-၌ ပဋိသန္ဓေကျိုးကိုပေးသည် |
| မဟာကုသိုလ်ကံ ၈-ပါးကြောင့် | အဟိတ်-ကုသလဝိ ဥပေက္ခာသန္တီရဏ + မဟာဝိ-၈=၉-ပါးဖြင့် | ကာမ သုဂတိ ၇-ဘုံ |

## ပဝတ္တိအခါ ကာမာဝစရကံ+ဝိပါက်နှင့် အကျိုးပေးသည့် ဘုံ

| ကံ | ဝိပါက် | အကျိုးပေးရာဘုံ |
| --- | --- | --- |
| အကု-ကံ ၁၂-ပါးလုံး ကြောင့် | အကုဝိပါက် ၇-ပါးလုံးဖြင့် | ကာမ ၁၁-ဘုံ၌ ပဝတ္တိအကျိုးကိုပေးသည်။ |
| | ဃာ-ဇိ-ကာ ကြဉ် အဟိတ် အကု ဝိ-၄ | အသညသတ်ကြဉ် ရူပ ၁၅ ဘုံ၌ |
| မဟာကုသိုလ် ကံ - ၈ပါး ကြောင့် | အဟိတ်-ကု-ဝိ-၈-ပါး မဟာ-ဝိ- ၈-ပါးဖြင့် | ကာမ ၁၁-ဘုံ ၌ ကာမသုဂတိ ၇-ဘုံ ၌ |
| | ဃာ, ဇိ, ကာ-ကြဉ် အဟိတ်-ကု-ဝိ ၅-ပါး | အသညသတ်-ကြဉ် ရူပ ၁၅ - ဘုံ၌ |

**လင်္ကာ** = ၁။ ဥဒ်-စေကြဉ်လစ်၊ ကံဆယ့်တစ်၊ ဖြစ်လေပါယ်သန္ဓိ။

၂။ ကာ-ကုရှစ်သာ၊ ကာသုမှာ၊ ကိုးဖြာသုသန္ဓိ။

၃။ ဥဒ္ဓစ္စပါ၊ဆယ်နှစ်ဖြာမူ၊ကာမေ+ရူပေ၊ပဝတ္တေ၊ ဖြစ်စေအကုဝိ။

၄။ ဝိပါက်မဟာ၊ ကာ-သု မှာ၊ ကာ + ရူ-ရှစ် ကုဝိ။

# ရူပါဝစရကံနှင့် အကျိုးပေးရာဘုံ

## ပထမစျာန် ၃ ဘုံ

| | | | | |
|---|---|---|---|---|
| ပရိတ္တာဖြစ်သော | ရူပ-ပထမစျာန် ကု-ကံ-ကြောင့် | ရူပ-ပထမစျာန် ဝိပါက်ဖြင့် | ဗြဟ္မပါရိသဇ္ဇာဘုံ၌ | ပဋိသန္ဓေ ဘဝင်-စုတိ ကျိုးကိုဖြစ်စေ |
| မဇ္ဈိမဖြစ်သော | | | ဗြဟ္မပုရောဟိတာဘုံ၌ | |
| ပဏီတဖြစ်သော် | | | မဟာဗြဟ္မာဘုံ၌ | |

## ဒုတိယစျာန် ၃-ဘုံ

| | | | | |
|---|---|---|---|---|
| ပရိတ္တာဖြစ်သော | ရူပ-ဒု-တစျာန် ကု-ကံ-ကြောင့် | ရူပ-ဒု+တစျာန် ဝိပါက်-ဖြင့် | ပရိတ္တာဘာဘုံ၌ | ပဋိသန္ဓေ + ဘဝင် + စုတိ ကျိုးကိုဖြစ်စေ။ |
| မဇ္ဈိမဖြစ်သော | | | အပ္ပမာဏာဘာဘုံ၌ | |
| ပဏီတဖြစ်သော် | | | အာဘဿရာဘုံ၌ | |

## တတိယစျာန် ၃-ဘုံ

| | | | | |
|---|---|---|---|---|
| ပရိတ္တာဖြစ်သော<br>မဇ္ဈိမဖြစ်သော<br>ပဏီတဖြစ်သော် | ရူပ-စစျာန် ကု-ကံ-ကြောင့် | ရူပ-စစျာန် ဝိပါက်-ဖြင့် | ပရိတ္တသုဘာဘုံ<br>အပ္ပမာဏသုဘာ<br>သုဘကိဏှာ<br>ဘုံ၌ | ပဋိ+ဘဝင် စုတိကျိုးကို ဖြစ်စေပါသည်။ |

## စတုတ္ထဈာန် ၇-ဘုံ

| | | | | |
|---|---|---|---|---|
| သညာဝိရာဂ ဘာဝနာဖြင့် | | | အသညသတ် ဘုံ၌ | |
| သာမန်ပွား အပ်သော | ရူပ-ပဥ္စမ ဈာန်-ကုသိုလ်ကံ-ကြောင့် | ရူပ-ပဥ္စမ ဈာန်-ဝိပါက်ဖြင့် | ဝေဟပ္ဖိုလ်ဘုံ | ပဋိ-ဘဝင်-စုတိ ကျိုးကို ဖြစ်စေပါသည်။ |
| သဒ္ဓါ,ဝိရိယ, သတိ,သမာဓိ, ပညာ,အစဉ်တိုင်း လွန်ကဲသဖြင့် | | | အဝိဟာ, အတပ္ပါ,သုဒဿါ သုဒဿီ,အကနိဋ္ဌါ ၅ - ဘုံ၌ | |

**လင်္ကာ** = နာမ်ပျောက်ကင်းစေ၊ ဆုပန်ချေ၊ သညေရုပ်အစု။
ဈာန်ငါးတန်၊ ဖြစဉ်လွန်၊ ငါးတန် သုဒ္ဓါစု။

နာမ်တရား၌ အပြစ်မြင်၍ ထိုနာမ်တရား ပျောက်ကင်းရန် ဆုပန် ချေလျှက် ပွားများအပ်သော ပဥ္စမဈာန်ကုသိုလ်ကြောင့် အသညသတ်ဘုံ၌ ကမ္ဗဇရုပ်သက်သက် အကျိုးဖြစ်ရ၏။

**လင်္ကာ** = ဟီနံ + မဇ္ဈိံ ပဏီတံ၊ သုံးဈာန်ကိုယ်စီပြု။ (ဟီန = ပရိတ္တ
= (ယုတ်သော = နည်းသော) )

ဆန် + ဝီ + စိတ် + မံ၊ သုံးမျိုးဖန်၊ သုံးဈာန်ကွဲပြားမှု

**ယုတ်နိမ့်သော** ဆန္ဒ+ဝီရိယ+စိတ်+ဝီမံသ (ပညာ)တို့ဖြင့် ဖြစ်စေအပ်သောဈာန်သည် ဟီန(ပရိတ္တ)ဈာန် မည်၏။

**အလယ်အလတ်ဖြစ်သော** ဆန္ဒ+ဝီရိယ+စိတ်+ဝီမံသ (ပညာ)တို့ဖြင့် ဖြစ်စေအပ် သော ဈာန်သည် မဇ္ဈိမဈာန် မည်၏။

**အထက်တန်းအမြတ်ဖြစ်သော** ဆန္ဒ+ဝီရိယ+စိတ်+ဝီမံသ(ပညာ)တို့ဖြင့် ဖြစ်စေ အပ်သော ဈာန်သည် ပဏီတဈာန် မည်၏။

| | | | | |
|---|---|---|---|---|
| အစဉ်အတိုင်း | အရူပကုသိုလ် ၄-ပါး ကြောင့် | အရူပဝိ ၄-ပါးဖြင့် | အရူပ ၄-ဘုံ ၌ | ပဋိ-ဘဝင်-စုတိကျိုး ကို ဖြစ်စေပါသည်။ |

တိဟိတ်၊ ဒွိဟိတ် ဥက္ကဋ္ဌ၊ ဩမက–ကုသိုလ်အခွဲနှင့် အကျိုးပေးပုံ

| ပုဗ္ဗ စေတနာ | မုဉ္စ စေတနာ | အပရ စေတနာ | ကုသိုလ် အမည် | ပဋိသန္ဓေ အကျိုး | ပဝတ္တိ အကျိုး |
|---|---|---|---|---|---|
| ကုသိုလ် ခြံရံ | သမ္ပယုတ်–ကု | ကုသိုလ် ခြံရံ | တိဟိတ်–ဥက္ကဋ္ဌ | မဟာဝိ–သမ္ပယုတ်–၄ | မဟာဝိပါက်–၈ အဟိတ်ကု–ဝိပါက်–၈ |
| အကုသိုလ် ခြံရံ ကုသိုလ် ခြံရံ | သမ္ပယုတ်–ကု ဝိပ္ပယုတ်–ကု | အကုသိုလ် ခြံရံ ကုသိုလ် ခြံရံ | တိဟိတ်–ဩမက ဒွိဟိတ်–ဥက္ကဋ္ဌ | မဟာဝိ–ဝိပ္ပယုတ်–၄ | မဟာဝိပါက်–ဝိပ္ပ–၄ အဟိတ်–ကု–ဝိ–၈ |
| အကုသိုလ် ခြံရံ | ဝိပ္ပယုတ်–ကု | အကုသိုလ် ခြံရံ | ဒွိဟိတ်–ဩမက | ကု–ဝိပါက်–ဥပေက္ခာ သန္တီရဏ | အဟိတ်–ကု–ဝိပါက်–၈ |

လျှဆဲအခိုက် ဉာဏ်နှင့်ယှဉ်လျှင် တိဟိတ်၊ ဉာဏ်နှင့်မယှဉ်လျှင် ဒွိဟိတ်

ရှေ့နောက်ကုသိုလ်ခြံရံလျှင် ဥက္ကဋ္ဌ(အမြတ်)။ ရှေ့နောက် အကုသိုလ် ခြံရံလျှင် ဩမက(အယုတ်)။

**✱ ကေစိဆရာအလို။ အသင်္ခါရိကကုသိုလ်က သသင်္ခါရိက–ဝိပါက်ကို မဖြစ်စေနိုင်။**

**သသင်္ခါရိကကုသိုလ်ကလည်း – အသင်္ခါရိကဝိပါက်ကို မဖြစ်စေနိုင်။**

ထို့ကြောင့်–**တိဟိတ်ဥက္ကဋ္ဌ–သမ္ပယုတ်–ကုသိုလ် အသင်္ခါရိက–၂ ပါးသည်** ပဋိသန္ဓေအခါ သမ္ပယုတ်ဝိပါက် အသင်္ခါရိက – ၂ ပါး၊ ပဝတ္တိအခါ – မဟာဝိပါက် – အသင်္ခါရိက ၄–ပါး + အဟိတ်ကုသလ ဝိပါက် ၈ – ပေါင်း ၁၂ – ပါးသာ ဖြစ်နိုင်၏။ (ကြွင်းသိသာပြီ)

| ကုသိုလ် | | သမာနဝါဒဝိပါက် (အများစုအလို) | | ကေစိဝါဒဝိပါက် (မောရဝါပီမဟာဒတ္တအလို) | |
|---|---|---|---|---|---|
| | | ပဋိသန္ဓေ | ပဝတ္တိ | ပဋိသန္ဓေ | ပဝတ္တိ |
| တိဟိတ်ဥက္ကဋ္ဌ | အသင်္ခါရိက (သသင်္ခါရိက) | ၄ | ၁၆ | ၂ | ၁၂ |
| တိဟိတ်ဩမက ဒွိဟိတ်ဥက္ကဋ္ဌ | အသင်္ခါရိက (သသင်္ခါရိက) | ၄ | ၁၂ | ၂ | ၁၀ |
| ဒွိဟိတ်ဩမက | အသင်္ခါရိက (သသင်္ခါရိက) | ၁ | ၈ | ၁ | ၈ |

**လင်္ကာ** = ကုသိုလ်ပြုစဉ်၊ ကံကျိုးမြင်သိ၊ ဉာဏ်ယှဉ်ဘိက၊ တိဟိတ် ကုသိုလ်၊ ခေါ်ဆိုကြရိုး၊ အကျိုးမမြင်၊ ဉာဏ်မယှဉ်သော်၊ ခေါ်တွင်ဒွိဟိတ်၊ ကုသိုလ်စိတ်တည်း၊ ကြိတ်လိပ်သေသပ်၊ ရှေ့နောက်နှစ်ရပ်ဝယ်၊ ညှပ်မူကုသိုလ်၊ ဥက္ကဋ္ဌဆို၏။ ထိုထို နှစ်တန်၊ အကုခြံလျှင်၊ တစ်ဖန်ဩမက မည်တုံကြသည်၊ မှတ်ကြလွယ်ဖို့ အချုပ်တည်း။

(အရှင်ဇနကာဘိဝံသ)

## ခရာဇာပွဲ့အိုစဘုက္က (စုဘော = သေခြင်း ၄-မျိုး)

၁။ အာယုက္ခယ = ပိုင်းခြားအပ်သောသက်တန်းကုန်၍ သေရခြင်း (မီးစာကုန်ခြင်းနှင့်တူ)

၂။ ကမ္မက္ခယ = ပဋိသန္ဓေကံ အစွမ်းကုန်၍ သေရခြင်း (ဆီကုန်ခြင်းနှင့် တူ)

၃။ ဥဘယက္ခယ = သက်တန်း၊ ကံစွမ်း ၂-ပါးလုံးကုန်၍ သေရခြင်း (မီးစာဆီ ၂ ပါး ကုန်ခြင်း)

၄။ ဥပစ္ဆေဒကံ = ကံဆိုးဖြတ်ချေ၍ လတ်တလော သေရခြင်း (လေတိုက်၍ မီးငြိမ်းခြင်းနှင့်တူ)

**လက်ံ** = သက်တန်း + ကံကုန်၊ နှစ်မျိုးကုန်၊ တဖုံသတ့်ဖြတ်သေ။

ထိုသေခြင်း လေးပါးတွင် တစ်ပါးပါးဖြင့် သေကုန်သော သတ္တဝါတို့အား (မရဏာသန္န = သေခါနီးအခါ) ကံ၊ ကမ္မနိမိတ်၊ ဂတိနိမိတ် ၃-ပါး တစ်ပါးပါး ထင်လာ၏။

**၁။ ကံ - အာရုံ** = ကုသိုလ်၊ အကုသိုလ်ကံ (စေနာကံများ)

**၂။ ကမ္မနိမိတ်အာရုံ**= ကုသိုလ်၊ အကုသိုလ်ကံပြုခဲ့စဉ်က တွေ့ကြုံခဲ့ရသောအာရုံများ ကုသိုလ်များ၊ ကုသိုလ် အရာ၌ ကျောင်းဆောက်ခြင်း လှူဒါန်းခြင်းများ၊ အကုသိုလ်အရာ၌ သတ်ခြင်း ခိုးခြင်းများ ပြန်၍ မြင်ခြင်း စသည့်အာရုံများ။

**ကမ္မနိမိတ် ၂ မျိုး**

(က) ဥပလဒ္ဓကမ္မနိမိတ် = ကံပြုစဉ်က တိုက်ရိုက်ရအပ်သော **ပဓာန** အာရုံ

(ခ) ဥပကရဏကမ္မနိမိတ် = အခြံအရံအာရုံများ

**ဥပမာ** - ကျောင်းဆောက်လှူဒါန်းရာ၌ ကျောင်းသည် ပဓာနအာရုံ ဥပလဒ္ဓကမ္မနိမိတ်၊ အလှူခံသံဃာတော်များ-ဆွမ်း- သင်္ကန်း စသည်များ ပန်း၊ ထီး၊ တံခွန်များ လာရောက်ကြသော ဧည့်ပရိသတ်များ စသော အခြံအရံအာရုံများသည် ဥပကရဏ ကမ္မနိမိတ် မည်၏။

**၃။ ဂတိနိမိတ်** = သေပြီးလားရမည့်ဂတိ(ဘဝ)နှင့် တွေ့ကြုံခံစားရမည့် အမိဝမ်းရေ၊ နတ်သမီး-ဘုံဗိမာန်၊ ပဒေသာပင်တို့သည်လည်းကောင်း၊ ငရဲအိုး၊ ငရဲမီးလျှံ ခွေးနက်ကြီး စသည်တို့သည်လည်းကောင်း ဂတိနိမိတ်အာရုံများ ဖြစ်သည်။

## ဂတိနိမိတ် ၂–မျိုး

(က) ဥပလဘိတဗ္ဗဂတိနိမိတ် = တိုက်ရိုက်ရောက်အပ်သောဘုံဘဝ
(ခ) ဥပဘောဂ ဂတိနိမိတ် =ထိုဘုံဘဝ၌ တွေ့ကြုံခံစားရမည့် အတွင်းအပ အသုံးအဆောင်များ။

**ဥပမာ** = နတ်ဘုံရောက်မည့်သူသည်၊ နတ်ဘုံနတ်နန်းကို မြင်ခြင်းသည် ဥပလဘိတဗ္ဗဂတိနိမိတ်ဖြစ်ပြီး၊ နတ်သား, နတ်သမီး, ဥယျာဉ် ဗိမာန်,ပဒေသာပင် စသည်ကို မြင်ခြင်းသည် ဥပဘောဂ ဂတိနိမိတ် မည်၏။

| | အာရုံ | ကာလ | ထင်ရာဒွါရ |
|---|---|---|---|
| ကံ နိမိတ် | ဓမ္မာရုံ | အတိတ် | မနောဒွါရ |
| ကမ္မ – နိမိတ် | ၆–ပါးလုံ | အတိတ်(ပစ္စုပ္ပန်) | မနောဒွါရ (၆–ဒွါရ) |
| ဂတိ – နိမိတ် | ၆–ပါးလုံး | ပစ္စုပ္ပန် | ၆ – ဒွါရ |

**လင်္ကာ** = **ကံ – အာရုံ**မှာ၊ တိတ်, ဓမ္မာ၊ ထင်ရာ မနောတည်း။
**ကမ္မနိမိတ်**၊ အတိတ်လွန်လေ၊ ပြားခြောက်ထွေ၊ ထင်လေ မနောတည်း။
**ယင်းနိမိတ္တံ**၊ ပစ္စုပ္ပန်၊ ခြောက်တန်ဆဒွါရ။
**ဂတိ** – ခြောက်တန်၊ ပစ္စုပ္ပန်၊ ထင်ရန် ဆဒွါတည်း။
(ပရမတ္ထဒီပနီ)

**လင်္ကာ** = ကျောင်းကန်ဘုရား၊ စေတီများနှင့်၊ သားငါးဥစ္စာ၊ သူ့အိမ်ယာ များစွာ ဥပလဒ္ဓ။
ကျောင်းဆောက်လှူဒါန်း၊ ဆွမ်းသက်န်းတည့်၊ ပန်းနှင့်ဘုရား၊ သားငါးတို့တွက် လက်နက်လှံတံ၊ ခြံရံဟူသမျှ၊ အဝဝ၊ ဥပကရဏမှတ်။
တိုက်ရိုက်ရအပ်၊ အမိဝမ်းရေ ဇရပြည်နှင့်၊ တောင်ခြေမြစ်ကမ်း၊ နတ်ဘုံနန်းဟု၊ အစုစု၊ ဥပလဘိတဗ်။

တွင်းပသုံးဆောင်၊ များမြောင်စွာလှ၊ ခွေးလင်းတကျီး၊ ငရဲမီးနှင့်၊ နတ်သမီးဝေဆာ ပဒေသာဟု + အစုစုဥပဘောဂ မှတ်။ **(ရှင်နေကာဘိဝံသ)**

## သေခါနီးစိတ်အစဉ် ဖြစ်ပုံ

သေခါနီး (မရဏာသန္န)အခါ၌ ကုသိုလ်ကံအကျိုးပေးမည့်သူအား ကောင်းသော အာရုံဝတ္ထုများ၊ အကုသိုလ်ကံ အကျိုးပေးမည့်သူအား မကောင်းသောအာရုံဝတ္ထုနိမိတ်များသည် ယခုလတ်တလောပြုနေရသကဲ့သို့ အာရုံ၌ ထင်လာ၏။

ထိုနိမိတ်တို့သည် နောက်ဘဝကို ဖြစ်စေသည့်ကံ၏ စွမ်းအားကြောင့် စုတေသူ၏ မျက်စိ၊ နား၊ နှာ စသော ဒွါရခြောက်ပါးတို့တွင် တစ်ပါးပါးသော ဒွါရ၌ ရှေးရှုထင်လာ၏။

ထိုကဲ့သို့ နိမိတ်ထင်လာသောအခါ ထိုထင်လာသော နိမိတ်ကို အာရုံပြု၍ နောက်ဘဝ၌ အကျိုးပေးတော့မည့် ကံအားလျော်စွာ (ကုသိုလ် အကျိုးပေးမည် ဆိုလျှင်) သန့်ရှင်းသော, (အကုသိုလ်အကျိုးပေးမည် ဆိုလျှင်) ညစ်နွမ်းသော စိတ်အစဉ်သည် ကူးပြောင်းဖြစ်ရမည့် ဘဝအား လျော်စွာ ထိုဘဝသို့ ညွတ်လျက် (စိတ်ညွတ်လျက်) မပြတ်ဖြစ်လေ၏။ (ဤကား အဖြစ်များရာကိုလိုက်၍ ဆိုခြင်းဖြစ်၏။)

ကံနိမိတ်ထင်ပုံ တစ်နည်းကား--နောက်ဘဝ၌ ပဋိသန္ဓေကို ဖြစ်စေမည့် ထိုကံသည်ပင် အသစ်ဖြစ်လာဘိသကဲ့သို့ ထင်လာပြီး မနောဒွါရ၏ အာရုံအဖြစ်သို့ ရောက်ပေ၏။

### သေဆုံးပုံ

စုတေဖို့ရန် အလွန်နီးကပ်လာသော သတ္တဝါ၏ စိတ်အစဉ်၌ (မရဏာသန္နဝီထိ၌) ဝီထိစိတ်၏ အဆုံး၌ဖြစ်စေ၊ ဘဝင်စိတ်အကုန်၌ဖြစ်စေ လက်ရှိ ပစ္စုပ္ပန်ဘဝ၏ အဆုံးသတ်ဖြစ်သော စုတိစိတ်ကလေး ဖြစ်ပေါ် လာပြီး ချုပ်ပျက်သွား၏။ (သေ၏-ဟူလို) ဤဘဝမှ ရွေ့လျောသည့်သဘော ဖြစ်၍ ယင်းစိတ်ကို စုတိစိတ်ဟု ခေါ်၏။

## ဘဝကျုးပုံ

ထိုစုတိစိတ်ကလေး အဆုံးသတ် ချုပ်သွားသည်ရှိသော် ထိုစုတိစိတ် ချုပ်ပြီးသည်၏ အခြားမဲ့၌သာလျှင် (ကြားမရှိဘဲ) သေခါနီးမရဏာသန္နဇော က အာရုံပြုခဲ့သော နိမိတ်အာရုံကို အာရုံပြုလျက် ပဋိသန္ဓေစိတ်ကလေး သည် ဘဝသစ်၌ ဖြစ်ပေါ်လာ၏။ ဘဝတစ်ပါး၌ သန္ဓေတည်၏။ ဤစိတ် ကလေးသည် ဘဝဟောင်းနှင့် ဘဝသစ်ကို ဆက်စပ်ပေးလိုက်သည့်သဘော ဖြစ်၍ ပဋိသန္ဓေ(ပဋိသန္ဓေ)ဟု ခေါ်ရပေသည်။

ပဋိသန္ဓေစိတ်သည် စ၍ ဥပါဒ်လျှင် ဥပါဒ်ခြင်းသာလျှင် (ဖြစ်ဆဲဖြစ်၍သာလျှင်) ဘဝသစ်၌တည်၏၊ (ဤစကားရပ်ဖြင့် 'လောက်လန်းသဖွယ် ဝိညာဏ်တွယ်'ဟူသော စကား) မမှန်ကြောင်း ပြပါသည်။

ထိုပဋိသန္ဓေစိတ်ကလေးကို ထိုသူပြုခဲ့သော ကုသိုလ်ကံ(သို့မဟုတ်) အကုသိုလ်ကံက ဖြစ်ပေါ်လာစေခြင်း ဖြစ်၏။ ထိုပဋိသန္ဓေစိတ်ကလေးကို ဖြစ်ပေါ်စေသောကံသည် အဝိဇ္ဇာတည်းဟူသော အနုသယဖြင့် ခြံရံ၏။ တဏှာတည်းဟူသော အနုသယ-က အရင်းခံ၏။

ထိုပဋိသန္ဓေစိတ်ကလေးမှာ ယှဉ်ဖက်(စေတသိက်)များ ခြံရံပါရှိ၏။ မိမိနှင့်အတူဖြစ်သော တရားတို့၏ တည်ရာဖြစ်၏။ ရှေ့သွားခေါင်းဆောင် လည်း ဖြစ်၏။

(ဘဝဟောင်း၌ စုတိစိတ်ကျပြီး ကံကြောင့် ပဋိသန္ဓေစိတ်ကလေး ဖြစ်ပေါ်လာ၏။ ထိုစိတ်ကလေးသည် ဘဝသစ်၌ အစဦးစွာ ဖြစ်သော ကြောင့် ဘဝဟောင်းနှင့် ဘဝသစ် ဆက်စပ်ပေးလိုက်သည့်သဘော ဖြစ်၍ ပဋိသန္ဓေစိတ်ဟု ခေါ်ပေသည်။)

### ပဋိသန္ဓေစိတ်သစ်၏ အာရုံ

ဆက်၍ ဆိုဦးအံ့-

ဤစုတိပဋိသန္ဓေခန်း(ဘဝကူးခန်း)၌ သေခါနီးတွင် စိတ်အစဉ်သည် လျော့ရဲရဲ နဲနဲသာဖြစ်၍ ဇောသည်(ခုနစ်ကြိမ် မဇောနိုင်ဘဲ) ၅-ကြိမ်သာ

စောလေ၏။ သို့ဖြစ်၍ ပစ္စုပ္ပန်နိမိတ်အာရုံ ထင်ရှားရှိစဉ် စုတိစိတ်ကျသည် ဖြစ်အံ့၊ ထိုအခါ ဘဝဟောင်းက ရုပ်အာရုံမှာ မချုပ်သေးသည့်အတွက် ဘဝသစ်၌ စတင်ဖြစ်သော ပဋိသန္ဓေစိတ်သည် ထိုဘဝဟောင်းက အာရုံကိုပင် ဆက်လက်အာရုံပြုရပေ၏။(ပဋိသန္ဓေစိတ်ချုပ်ပြီးနောက် ရုပ်အာရုံ သက်ကုန်သည်ထိ ဘဝင်စိတ်များ လိုပါဖြစ်လေ၏။ ထိုဘဝင်စိတ်များလည်း ပဋိသန္ဓေစိတ်က အာရုံပြုသော နိမိတ်အာရုံကိုပင် အာရုံပြုလေ၏။)

ဤသို့ဖြစ်သောကြောင့် ကာမာဝစရဘုံ၌ ဖြစ်သော ပဋိသန္ဓေစိတ်၏ အာရုံသည် ကမ္မနိမိတ်ဖြစ်စေ၊ ဂတိနိမိတ်ဖြစ်စေ၊ ပစ္စုပ္ပန်လည်း ဖြစ်နိုင်၏။ အတိတ်လည်း ဖြစ်နိုင်၏။ ထိုအာရုံကို စက္ခုစသော ဒွါရခြောက်ပါးဖြင့် ယူအပ်၏။ (ဒွါရခြောက်ပါး၌ ထင်နိုင်၏ဟူလို။)

ကမ္မနိမိတ်အာရုံ၊ ဂတိနိမိတ်အာရုံ မထင်ဘဲ ကံနိမိတ်ထင်ခဲ့လျှင် ယင်းကံနိမိတ်သည် အတိတ်တစ်မျိုးတည်းသာ ဖြစ်၏။ (ပစ္စုပ္ပန်မရှိနိုင်) ထိုအတိတ်ကံအာရုံကို မနောဒွါရတစ်ခုတည်းဖြင့်သာ ယူနိုင်၏။ (မျက်စိစသည်ဖြင့် ကံနိမိတ်ကို မမြင်နိုင်ဟူလို။)

ဆိုခဲ့ပါ ကံနိမိတ်၊ ကမ္မနိမိတ်၊ ဂတိနိမိတ် အာရုံအားလုံးသည် ကာမတရားချည်းသာ ဖြစ်လေသည်။

* ရုပ်အာရုံတစ်ခုသည် စိတ္တက္ခဏ(၁၇)ချက် အသက်ရှည်သည်ကို သတိပြုပါ။ ကမ္မနိမိတ်အာရုံတစ်ခု ထင်လျှင် ၎င်းကို စိတ်ပေါင်း (၁၇)စိတ်က အာရုံပြုရသည်။ ဘဝဟောင်း၌ 'တီ၊န၊ဒ၊မ၊ဇော ၅-ကြိမ်၊ တ၊ တ၊ စုံ'ဟု ၁၂-စိတ်ဖြစ်ပြီး စုတေ(သေ)သည့်အခါ နိမိတ်အာရုံ၏ အသက် ၅-ချက်စာ ကျန်နေ၏။ ထို့ကြောင့် စုတိ၏ နောက်ဆက်ဖြစ်သော ပဋိသန္ဓေစိတ်နှင့် ဘဝင်စိတ် ၄-ကြိမ်(ပေါင်းစိတ် ၅-စိတ်)က ထိုဘဝဟောင်းက နိမိတ်အာရုံကိုပင် အာရုံပြုသည်။ ဤသည်ကိုပင် သင်္ဂြိုဟ်ဆရာက ပြောပြနေခြင်းဖြစ်သည်။ ထိုနိမိတ်အာရုံကို မျက်စိဖြင့်လည်း မြင်တတ်၏။ မမြင်ဘဲ နားကလည်း ကြားနိုင်၏။ ဤသို့ စသည်ဖြင့် ဒွါရ ၆-ပါးလုံး၌ နိမိတ်ထင်နိုင်၏ဟုလည်း ပြောကြပေသည်။

## ရူပ, အရူပ ပဋိသန္ဓေတို့၏ အာရုံ

ရူပါဝစရ ပဋိသန္ဓေ၏ အာရုံသည်ကား-ပညတ်ကမ္မနိမိတ်သာဖြစ်၏။

ထိုနည်းတူ အရူပပဋိသန္ဓေ၏ အာရုံသည်လည်း မဟဂ္ဂုတ်ကမ္မနိမိတ်အာရုံ သို့မဟုတ် ပညတ်ကမ္မနိမိတ်အာရုံ ထိုက်သင့်သလို ဖြစ်ပေ၏။

(နာမ်မရှိ ရုပ်သာရှိသော) အသညသတ်ဘုံသား ဗြဟ္မာတို့အား ဇီဝိတနဝက ကလာပ်ရုပ်သည်သာလျှင် ပဋိသန္ဓေအဖြစ်ဖြင့် တည်ပေ၏။

ထို့ကြောင့် ထိုအသညသတ်ဘုံသား ဗြဟ္မာတို့သည် ရုပ်ပဋိသန္ဓေရှိသူတို့ မည်ကုန်၏။

အရူပဘုံသားဗြဟ္မာတို့သည် နာမ်ပဋိသန္ဓေသာ ရှိသူတို့မည်ကုန်၏။ ကြွင်းသောဘုံသားတို့သည် ရုပ်, နာမ်နှစ်ပါးစုံ ပဋိသန္ဓေရှိသူတို့ မည်ကုန်၏။

## စုတိနှင့် ပဋိသန္ဓေ တွဲစပ်ပုံ

အရူပဗြဟ္မာကြီးတို့၏ စုတိစိတ်နောက်တွင် အောက်အောက်ဖြစ်သော အရူပပဋိသန္ဓေမှတစ်ပါး တန်းတူနှင့် အထက်ဖြစ်သော အရူပပဋိသန္ဓေတို့နှင့် ကာမ တိဟိတ်ပဋိသန္ဓေတို့သည် ဖြစ်နိုင်ကုန်၏။ အရူပပဋိသန္ဓေ ၄-ပါး၊ ကာမတိဟိတ်၊ (မဟာဝိပါက်ဉာဏသမ္ပယုတ်) ၄-ပါး၊ ပေါင်း ၈-ပါး ဖြစ်နိုင်၏။

ရူပါဝစရဗြဟ္မာကြီးတို့၏ စုတိစိတ်နောက်တွင် အဟိတ်ပဋိသန္ဓေမှ တစ်ပါး ပဋိသန္ဓေစိတ် (၁၇)ပါးတို့ ဖြစ်နိုင်ကြ၏။

ကာမတိဟိတ် (နတ်၊ လူ) စုတိစိတ်နောက်၌ ပဋိသန္ဓေစိတ် ၁၉-ပါး၊ (ရုပ်ပဋိသန္ဓေတစ်ပါး)ပေါင်း-၂၀ ဖြစ်နိုင်၏။

ကာမအဟိတ်၊ ဒွိဟိတ်၊ စုတိစိတ်နောက်၌ ကာမပဋိသန္ဓေ ၁၀-သာ ဖြစ်နိုင်ပေ၏။

* စုတိနောက် ပဋိသန္ဓေနှောင်းပုံပြခြင်းသည် ၃၁-ဘုံ သဟ္တဝါကျင်လည်ပုံကို ပြခြင်းတည်း။ ဘယ်ဘဝက သေလျှင် ဘယ်ဘဝရောက်နိုင်သည်ဟု အဘိဓမ္မာနည်းအရ တိတိကျကျ ဖော်ပြပေသည်။

* အရူပဗြဟ္မာကြီးတို့ စုတေလျှင် အရူပဗြဟ္မာ ပြန်ဖြစ်နိုင်သည်။ နတ်တိဟိတ်၊ လူတိဟိတ်လည်း ဖြစ်နိုင်သည်။ (ရူပဗြဟ္မာမဖြစ်) ရူပဗြဟ္မာကြီးများ စုတေလျှင် (သန္ဓေကန်း စသော လူမျိုး၊ တိရစ္ဆာန်မျိုး မဖြစ်နိုင်) ကျန်သမျှ ဖြစ်၏။ လူတိဟိတ်၊ နတ်တိဟိတ် စုတေလျှင် အထက်အောက် ၃၁-ဘုံလုံး၌ ဖြစ်နိုင်၏။ လူဒွိဟိတ်၊

လူအဟိတ်၊ အဟိတ်တိရစ္ဆာန် စသည် သေလျှင် ကာမ ၁၁-ဘုံ၌သာ ဖြစ်နိုင်၏။ အထူးသဖြင့် လူသေ၍ ဘဝမပြတ်သေးလျှင် လူ့ဘဝသာမက ၃၁-ဘုံဘဝအမျိုးမျိုး၌ ပြန်ဖြစ်နိုင်ကြောင်း သိရသည်။

**ဤကား ဝိထိမုတ်ပိုင်း၌ စုတိ, ပဋိသန္ဓေကို ပြသော စကားစဉ်တည်း။**

## ပဋိသန္ဓေ ဘဝင် စုတိ

တစ်ဘဝအတွင်း ဘဝင်စိတ်များ ဖြစ်ပုံကို ဆက်၍ဖော်ပြဦးအံ့-

အထက်တွင် ဆိုခဲ့ပြီးသည့်အတိုင်း ပဋိသန္ဓေတည်နေသော သူတို့အား ပဋိသန္ဓေစိတ်ကလေး ချုပ်သွားသည်မှစ၍ စုတိစိတ်ကျသည် အထိ (သေသည်အထိ) ကြားကာလ ဘဝတာတစ်လျှောက်လုံး၌ မြင်ခြင်း၊ ကြားခြင်း စသောဝိထိစိတ်များ မဖြစ်သောအခါမျိုး၌ (အိပ်ပျော်နေချိန်မျိုး၌) ပဋိသန္ဓေစိတ်ကအာရုံပြုခဲ့သောမူလအာရုံနိမိတ်ကိုပင် ဆက်လက် အာရုံပြု၍ မူလပဋိသန္ဓေစိတ်နှင့်တူသော စိတ်သည် မြစ်ရေအလျဉ်ကဲ့သို့ မပြတ်ဖြစ်လေ၏။ ထိုစိတ်ကို ဘဝ၏အကြောင်းဖြစ်သောကြောင့် ဘဝင်စိတ်ဟု ခေါ်ပေ၏။

* ဥပမာ - သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိက မဟာဝိပါက် စိတ်သည် ပဋိသန္ဓေကိစ္စတပ်ပြီး ပဋိသန္ဓေစိတ် ဖြစ်သည်ဆိုအံ့၊ ထိုစိတ်သည်ပင် ဘဝင်စိတ် ဖြစ်၏။ စုတိစိတ်ဖြစ်၏။ တစ်ခြား ဥပေက္ခာသဟဂုတ် ဉာဏဝိပ္ပယုတ် သသင်္ခါရိက စသည့် မတူသည့်စိတ်မျိုး မဖြစ်ဟူလို၊ အမျိုးအစားတူ စိတ်သည်ပင် ပဋိသန္ဓေ၊ ဘဝင်၊ စုတိဖြစ်၏။ သို့သော် ဥပါဒ်၊ ဌီ၊ ဘင် အားဖြင့် တစ်စိတ်ပြီး တစ်စိတ် ဖြစ်ပေသည်။ ဘဝင်စိတ်သည် ဘဝ၏ အခြေခံစိတ်တည်း။

ဘဝအဆုံး၌လည်း ထိုစိတ်သည်ပင် လက်ရှိပစ္စုပ္ပန်ဘဝမှ ရွေ့လျော သည်၏ အစွမ်းဖြင့် စုတိစိတ်ဖြစ်၍ ချုပ်လေ၏။

### (နာမ်) သံသရာစက်လည်ပုံ

တစ်ဘဝတွင် နောက်ဆုံးစုတိစိတ်ချုပ်၍ သေပြီးနောက် တစ်ဆက် တည်း နောက်ဘဝသစ်၌ ပဋိသန္ဓေစိတ်၊ ဘဝင်စိတ် စသည်တို့သည် ရထားလှည်းဘီးလည်သကဲ့သို့ အစဉ်အတိုင်း ဆက်ကာဆက်ကာ ခြာခြာ ရစ်ပတ် မပြတ်ဖြစ်လေ၏။

ဤလက်ရှိ ပစ္စုပ္ပန်ဘဝ၌ ပဋိသန္ဓေစိတ်၊ ဘဝင်စိတ်၊ စုတိစိတ်တို့သည် ဆက်ကာဆက်ကာ ဖြစ်လေဘိသကဲ့သို့ ထို့အတူ ဘဝတစ်ပါး၌ (နောက်နောက်ဘဝ၌) တဖန် ပဋိသန္ဓေ, ဘဝင် စသောစိတ်အစဉ်သည် ဆက်၍ ဆက်၍ ဖြစ်လေ၏။

* ပဋိသန္ဓေ၊ ဘဝင်၊ စုတိ အစဉ်မပြတ် ဖြစ်နေသည်ကား သံသရာလည်ခြင်းတည်း။ လည်စေသည့်လက်သည်ကား တဏှာတည်း။ တဏှာကုန်သွားလျှင် စုတိနောက် ပဋိသန္ဓေ ဆက်မဖြစ်တော့ပေ။ ငြိမ်းသွားလေ၏။ ဤတွင် သံသရာစက်ပြတ်သွားလေသည်။ လောကဝေါဟာရအားဖြင့် နိဗ္ဗာန်ရောက်သွားသည်ဟူလို။

## သံသရာစက်ပြတ်ပုံ

တိဟိတ်ပုဂ္ဂိုလ်တို့သည် ကြာမြင့်စွာပင် သီလကို ဖြူစင်စေခြင်း၊ ဓုတင်ဆောင်ခြင်း၊ သမာဓိ ဘာဝနာ ပွားများခြင်းဖြင့် ကောင်းစွာကျင့်ကြံကြလျက် စိတ်, စေတသိက်တို့၏ အမြဲမရှိ အနိစ္စပါတကားဟု ဝိပဿနာဉာဏ်ပညာဖြင့် ထင်လင်းစွာ သိမြင်ကြသည်ရှိသော် စုတေရွေ့လျောသေရခြင်းသဘောမရှိသော နိဗ္ဗာန်ကို မဂ်ဉာဏ်, ဖိုလ်ဉာဏ်ဖြင့် အမှန်သိပေ၏။ ယင်းသို့သိခြင်းကြောင့် တဏှာတည်းဟူသော အစေးအဖွဲ့ကို ဖြတ်တောက်နိုင်ကြ၍ သင်္ခါရတရားတို့၏ အေးငြိမ်းရာမှန် မြတ်နိဗ္ဗာန်သို့ ကေန်ထုတ်ခြောက် ရောက်ကြရပေကုန်လတ္တံ့။

**နိဗ္ဗာန်ရလျှင်**

**ပဋိသန္ဓေ, ဘဝင်, စုတိ, သံသရာ ပြတ်လေ၏။**

မရဏာသန္နဝိထိ ၄ မျိုး

၁။ ဇောနောင် – စုတိကျသောဝိထိ (ဇော – စုတိ)
၂။ ဇောနောင်–ဘဝင်–ဘဝင်နောင် စုတိကျသောဝိထိ (ဇော – ဘဝင် – စုတိ)
၃။ တဒါရုံနောင် – စုတိကျသော ဝိထိ (တဒါရုံ – စုတိ)
၄။ တဒါရုံနောင် – ဘဝင်၊ ဘဝင်နောင် စုတိကျသောဝိထိ (တဒါရုံ – ဘဝင် – စုတိ)

လက်ာ = တဒါ, ဘဝင်, စု၊ တဒါ, စု နှစ်ခု တိမဟန္တ။

ဇော၊ ဘဝင်, စု၊ ဇောနှင့် စု - နှစ်ခု မဟန္တ။

စုတိနောင် - ပဋိသန္ဓေ - နှောင်းပုံ

| စုတိနောင် | | နှောင်းသော်ပဋိသန္ဓေ | | ရောက်မည့်ဘုံ | |
|---|---|---|---|---|---|
| အဟိတ်စုတိ ၂ ဒွိဟိတ်စုတိ ၄ | ၆ | ကာမပဋိသန္ဓေ- ၁၀ | ၁၀ | ကာမ-၁၁ ဘုံ | ၁၁ |
| ကာမတိဟိတ်စုတိ - ၄ | ၄ | ကာ-ရူ-အရူ၁၉+ ရုပ်ပဋိသန္ဓေ-၁ | ၂၀ | ၃၁-ဘုံ အကုန် | ၃၁ |
| ရူပ-စုတိ-၅ | ၅ | မဟာ ဝိ-၈ + မဟဂ္ဂုတ်-၉ | ၁၇ | အပါယ်-အသည ကြဉ်-ကြွင်း | ၂၆ |
| အသညသတ်-စုတိ-၁ | ၁ | မဟာဝိပါက် ပဋိသန္ဓေ | ၈ | ကာမသုဂတိ | ၇ |
| အာကာသာနဉ္စာ - စုတိ | ၁ | တိဟိတ် - ၄ + အရူပ - ၄ | ၈ | ကာသု - ၇ + အရူပ-၄ | ၁၁ |
| ဝိညာနဉ္စာ - စုတိ | ၁ | တိဟိတ် - ၄ + အရူပ - ၃ | ၇ | ကာသု - ၇ + အရူပ - ၃ | ၁၀ |
| အာကိဉ္စညာ - စုတိ | ၁ | တိဟိတ် - ၄ + အရူပ - ၂ | ၆ | ကာသု - ၇ + အရူပ - ၂ | ၉ |
| နေဝသညာ - စုတိ | ၁ | တိဟိတ် - ၄ + အရူပ - ၁ | ၅ | ကာသု - ၇ + အရူပ - ၁ | ၈ |

**မှတ်ချက်။** အရူပဘုံမှ စုတေသောပုဂ္ဂိုလ်တို့သည် မိမိဘုံနှင့် အထက်ဘုံသို့သာ ရောက်နိုင်၏။

အောက်ဘုံသို့ကား ပြန်မဆင်းတော့ပြီ။

**လင်္ကာ** = ဗြဟ္မာ့ပြည်မှာ၊ အရိယာ၊ အောက်ရွာဆင်းမရှိ။
သုဒ္ဓါဘုံမှာ၊ အရိယာ၊ နှစ်ခါထပ်မရှိ။
ဝေ + နေ + အက၊ သုံးဌာနမှာ၊ အရိယာ၊ သွားရာဘုံမရှိ။

**လင်္ကာ** = ဒု-သု-ဒွိ-ဟု၊ စုတိနောက်ဝယ်၊ သန္ဓေခြယ်၊ တစ်ဆယ်ကာမသော။
- တိဟိတ်-ဝိ-ဟု၊ စုတိနောင်ဝယ်၊ သန္ဓေခြယ်၊ နှစ်ဆယ်အကုန်ဟော။
- ငါးရူပ-ဝိ၊ စုတိနောက်ဝယ်၊ သန္ဓေခြယ်၊ ဆယ့်ခွန်-ဟောတုကော။
- အရူပဝိ၊ စုတိနောက်မှာ၊ တိဟိတ်ကာမ၊ အရူပထက်၊ ရှစ်ခုနက်၊ တက်ငြားသန္ဓေသော။

**ပဋိသန္ဓေစိတ်** = ဘဝဟောင်းက စုတေ(သေ)ပြီး၊ အခြားမဲ့၌ **ကာလ မခြားဘဲ** ဘဝသစ် ပဋိသန္ဓေစိတ် ဖြစ်၏။

ပဋိသန္ဓေစိတ်သည်၊ ဘဝဟောင်းနှင့် ဘဝသစ်ကို ဆက်စပ်ပေးသောစိတ် ဖြစ်သည်။

အဝိဇ္ဇာ+တဏှာတည်းဟူသော ဘဝရေသောက်မြစ် မပြတ်သေးသော ပုထုဇဉ် + သေက္ခပုဂ္ဂိုလ်တို့သန္တာန်၌ ဖြစ်ပွားသောကောင်းမှု + မကောင်းမှုကုသိုလ်+အကုသိုလ်စေတနာ=ကံ=သင်္ခါရသည် (၁) အဝိဇ္ဇာက ဘဝ၏အပြစ်ကို ဖုံး၍ပေးခြင်း၊ (၂) တဏှာက ထိုဘဝ၌ တပ်မက်ညွတ်ကိုင်းခြင်း၊ (၃) ဤအကြောင်းများကြောင့် ဘဝတစ်ခု၌ ပဋိသန္ဓေ + ဘဝင် + စုတိတည်းဟူသော အကျိုးဝိပါက်ကို ဖြစ်စေနိုင်လေသည်။ ထိုသို့ အဝိဇ္ဇာက ဘဝအပြစ်ကို ဖုံး၍ပေးခြင်း + တဏှာက ထိုဘဝ၌ ညွတ်ကိုင်းတပ်မက်ခြင်း ဟူသော အားပေးအားမြှောက် ပြုမှုပေးချက်အရ ကောင်းမှု + မကောင်းမှု ကံတည်းဟူသော သင်္ခါရက မိမိဖြစ်ရာ ခန္ဓာအစဉ်ဝယ် ဤဘဝမှ စုတိပြီးသည်၏ အခြားမဲ့မှာပင် ထိုက်သက်ရာဘုံဘဝ၌ ပဋိသန္ဓေ + ဘဝင် + စုတိဟူသော အကျိုးကို ဖြစ်စေသည်။ ထိုသို့ဖြစ်စေသည်ကိုပင် သင်္ခါရ ဇနက-က ဘဝချောက်ထဲ၌ ပစ်ချလိုက်သကဲ့သို့ ဖြစ်သောကြောင့် လင်္ကာ၌ "ကံ သင်္ခါရ၊ ဇနက၊ ပစ်ချ ဖြစ်စေမှု"ဟူ၍ စပ်ဆိုသည်။ ဤသို့ အဝိဇ္ဇာ + တဏှာ+ကံ-ဤတရားသုံးပါးတို့ ဆိုင်ရာမိမိတို့ကိစ္စကို

ရွက်ဆောင်ကြခြင်း အကြောင်းသုံးပါး ညီညွတ်စေဆော်မှုကြောင့် ဤဘဝမှ စုတိပြီးသည်၏ အခြားမဲ့၌ ထိုက်သက်ရာဘဝဂတိဝယ် ပဋိသန္ဓေ နာမက္ခန္ဓာ တည်းဟူသော အကျိုးဝိပါက်တရား ဖြစ်ပေါ်ရလေသည်။

ထိုသို့ ဘဝဂတိအသစ်၌ ပဋိသန္ဓေအကျိုး ဝိပါက်စိတ်တစ်ကြိမ် ဖြစ်ပြီး နောက်ဘဝအား အင်အားယူနေသည့်အလား ပဋိသန္ဓေစိတ်၏ ကိုယ်ပွားကိုယ်စား-ဟု ခေါ်ဆိုထိုက်သော ဘဝင်စိတ်များ ၁၅ ကြိမ် + ၁၆ ကြိမ် ဖြစ်ပြီးနောက် ဘဝနိကန္တိက လောဘဇောဝါရ ဝီထိဖြစ်ဖို့ရန် (ထိုသတ္တဝါ၏ မနောဒွါရ၌ ဘဝအာရုံထင်မှုကြောင့်) ဘဝင်နှစ်ကြိမ် လှုပ်ပြီး လျှင် ထိုဘဝအာရုံကို ဆင်ခြင်ခြင်း ကိစ္စတပ်၍ မနောဒွါရာဝဇ္ဇန်းစိတ် တစ်ကြိမ် + ထိုဘဝအာရုံကို တပ်နှစ်သက်ခြင်း ဇောကိစ္စတပ်၍ ဘဝနိကန္တိက လောဘဇော ခုနစ်ကြိမ်ဇောပြီးနောက် ဘဝင်စိတ်များ ဖြစ်ထိုက်သမျှ ဖြစ်ကြလေကုန်၏။ (ဝီထိနှင့်ယှဉ်၍ ကြည့်ပါလေ)။

(၁) သန္ဓိအပွား၊ ဘဝင်သွား၊ ဆယ့်ငါး + ဆယ့်ခြောက်ခု၊

(၂) ဘဝင်နှစ်တန်၊ အာဝဇ္ဇန်း၊ နိကန်ဇောခွန်နှစ်ခု။

(၃) ထို့နောင်ဘဝင်၊ အများပင်၊ အစဉ်သိစေမှု။

**ပဋိသန္ဓေစိတ် ဖြစ်ကြောင်းများ။** ပဋိသန္ဓေမိဟ်သည် ရှေးက ဗိမိ ပြုခဲ့သောကုသိုလ် အကုသိုလ် တည်းဟူသော သင်္ခါရ၏ အကျိုးပင် ဖြစ်သည်။ အဝိဇ္ဇာနုသယ ခြံရံ၍ တဏှာနုသယအရင်းခံ အမြဲရှိနေသ၍ ရဟန္တာမဖြစ်သေးလျှင် ပဋိသန္ဓေ ဆက်ကာဆက်ကာ ဖြစ်ပြီး ရထားလှည်းဘီးစက်ကဲ့သို့ သံသရာစက် လည်နေအုန်းမည်။ သီလ သမာဓိ ပြည့်စုံပြီး ဝိပဿနာ ရှုပွားလျှင် လိုချင်မှု (တဏှာ)အစေး ကုန်ခန်း၍ သင်္ခါရငြိမ်းရာ နိဗ္ဗာန်သို့ ရောက်လျှင် သံသရာစက် ပြတ်တောက်တော့သည်။

**ဝီထိမုတ်ပိုင်း ပြီး၏။**

# ရုပ်ပိုင်း

## ရူပသင်္ဂဟ (ရုပ်ကို အကျဉ်းချုပ်ပြခြင်း)

| | | | |
|---|---|---|---|
| ဘူတရုပ်-၄ (အလွန်ကြီးကျယ် ထင်ရှားသောရုပ်) | ၁ | ပထဝီ | ခက်မာမှုစသည် မြေဓါတ် |
| | ၂ | အာပေါ | ဖွဲ့စည်းမှု ရေ-ဓာတ် |
| | ၃ | တေဇော | ပူ,အေးရင့်ကျက် မီး-ဓါတ် |
| | ၄ | ဝါယော | ထောက်ကန်လှုပ်ရှား လေဓာတ် |
| **ဥပါဒါရုပ် ၂၄ (မဟာဘုတ်တို့ကို မှီတွယ်၍ ဖြစ်သောရုပ်)** | | | |
| ပသာဒရုပ်-၅ (မဟာဘုတ်တို့ကို ကြည်လင်စေတတ်သောရုပ်) | ၅ | စက္ခုပသာဒ | မျက်စိအကြည်ရုပ်(သန်းဦးခေါင်းမျှ) |
| | ၆ | သောတပသာဒ | နားအကြည်ရုပ်(လက်စွပ်ကွင်းသဏ္ဌာန်) |
| | ၇ | ဃာနပသာဒ | နှာတွင်းအကြည်ရုပ်(ဆိတ်ခွာသဏ္ဌာန်) |
| | ၈ | ဇိဝှာပသာဒ | လျှာအကြည်ရုပ်(ကြာရွက်ဖျားသဏ္ဌာန်) |
| | ၉ | ကာယပသာဒ | ကိုယ်အကြည်ရုပ်(တစ်ကိုယ်လုံး) |
| ဂေါစရ(သို့) ဝိသယရုပ်-၇ စိတ်တို့၏ ကျက်စားရာအာရုံ | ၁၀ | ရူပါရုံ | ဝဏ္ဏ=အဆင်းမျိုးစုံ |
| | ၁၁ | သဒ္ဒါရုံ | သဒ္ဒ=အသံမျိုးစုံ |
| | ၁၂ | ဂန္ဓာရုံ | ဂန္ဓ=အနံ့မျိုးစုံ |
| | ၁၃ | ရသာရုံ | ရသ=အရသာမျိုးစုံ |
| | | ဖေါဋ္ဌဗ္ဗာရုံ — ပထဝီ, တေဇေါ, ဝါယေါ | အာပေါမလျော့လွန်သိမ်မွေ့ ထိတွေ့စမ်းသပ်၊ မရအပ် ဖောဋ္ဌဗ္ဗ မမည်ထိုက်။ |
| ဘာဝရုပ် ၂-ပါး | ၁၄ | ဣတ္ထိဘာဝ | မိန်းမအဖြစ်ကိုသိကြောင်းရုပ် |
| | ၁၅ | ပုမ္ဘာဝ | ယောကျ်ားအဖြစ်ကိုသိကြောင်းရုပ် |
| ဟဒယရုပ် | ၁၆ | ဟဒယဝတ္ထု | နှလုံးသွေး၌တည်သောရုပ် |
| ဇီဝိတရုပ် | ၁၇ | ဇီဝိတိန္ဒြေ | အသက်ရုပ်(တကိုယ်လုံး၌တည်) |
| အာဟာရရုပ် | ၁၈ | ကဗဠီကာရအာဟာရ | အစာ၌ပါသောအဆီဩဇာ |

(၂)ပထဝီအစ-အာဟာရအဆုံးရှိသော ရုပ် ၁၈-ပါးတို့သည်-

* ကံ+စိတ်+ဥတု+အာဟာရအကြောင်းတရားတို့ကြောင့် ထင်ရှားသဖြင့် **နိပ္ဖန္နရုပ်** မည်၏။
* သဘောအားဖြင့် ထင်ရှားသောကြောင့် **သဘာဝရုပ်**လည်း **မည်၏**။
* အနိစ္စ, ဒုက္ခ, အနတ္တလက္ခဏာအားဖြင့် ထင်ရှားသောကြောင့် **သလက္ခဏရုပ်** လည်း မည်၏။
* ဖောက်ပြန်ရာ၌ ထင်ရှားသဖြင့် **ရူပရုပ်(ရုပ်အစစ်)**လည်း မည်၏။
* လက္ခဏရေးသုံးပါးတို့ဖြင့် သုံးသပ်အပ်သောကြောင့် **သမ္မသနရုပ်** လည်း မည်၏။

(မှတ်ချက်) ကြွင်းသောရုပ် - ၁၀-ပါးသည် -

အနိပ္ဖန္န+အသဘာဝ+အလက္ခဏ+အရူပ+အသမ္မသန- ရုပ်တို့မည်၏။

(၎င်းတို့၏ အဓိပ္ပာယ်ကို အပြန်အားဖြင့် သိပါလေ။)

| | | | |
|---|---|---|---|
| ပရိစ္ဆေဒရုပ် | ၁၉ | အါကာသဓါတ် | ရုပ်ကလါပ်တို့ကို ပိုင်းခြားတတ်သော ရုပ် |
| ဝိညတ်ရုပ်၂-ပါး | ၂၀<br>၂၁ | ကာယဝိညတ်<br>ဝစီဝိညတ် | ကိုယ်အမူအရာအထူး<br>နှုတ်အမူအရာအထူး |
| ဝိကာရရုပ်၅-ပါး | ၂၂ | ရူပဿလဟုတာ | ရုပ်ခန္ဓာပေါ့ပါးမှု |
| | ၂၃ | ရူပဿမုဒုတာ | ရုပ်ခန္ဓာနူးညံ့မှု |
| (ထူးခြားသော | ၂၄ | ရူပဿကမ္မညတာ | ရုပ်ခန္ဓာ၏ ခံ့ကျန်းမှု |
| အမူအရာရုပ်) | * | ကာယဝိညတ် | |
| | * | ဝစီဝိညတ် | |
| လက္ခဏရုပ် ၄ | ၂၅<br>၂၆ | ဥပစယ ┐ ဇာတိ<br>သန္တတိ ┘ | ရုပ်တို့၏အစဆုံးဖြစ်ပေါ်မှု<br>ရုပ်တို့၏အစဉ်မပြတ်ဖြစ်ပေါ်မှု |
| (မှတ်ကြောင်းရုပ်) | ၂၇ | ဇရတာ | ရုပ်ခန္ဓာတို့၏ ရင့်ရော်မှု |
| | ၂၈ | အနိစ္စတာ | ရုပ်ခန္ဓာတို့၏ မမြဲမှု |

## ရူပဝိဘာဂ (ရုပ်တို့ကို တစ်ပါးစု၊ နှစ်ပါးစုအားဖြင့် ဝေဖန်ခြင်း
## တစ်ပါးစု (၈) မျိုး

၁။ ရုပ်သည် အလောဘ စသော ဟိတ်မရှိသောကြောင့် **အဟေတုက** မည်၏။

၂။ ကံ, စိတ်, ဥတု, အာဟာရတည်းဟူသော အကြောင်းတရား ၄-ပါးတို့နှင့်တကွ ဖြစ်သောကြောင့် **သပစ္စယ**လည်း မည်၏။

၃။ အာသဝေါတရား ၄-ပါးတို့၏ အာရုံဖြစ်သောကြောင့် **သာသဝ** လည်း မည်၏။

၄။ ကံ, စိတ်, ဥတု, အာဟာရ အကြောင်းတရား ၄-ပါးတို့သည် ပြုပြင်စီရင်အပ်သောကြောင့် **သင်္ခတ** လည်းမည်၏။

၅။ ဥပါဒါန်၏ အာရုံဖြစ်သော သင်္ခါရလောက၌ အကျုံးဝင်သည်၏ အဖြစ်ကြောင့် **လောကိယ** လည်း မည်၏။

၆။ ကာမတဏှာ၏ ကျက်စားရာဖြစ်သောကြောင့် **ကာမာဝစရ** လည်း မည်၏။

၇။ နာမ်တရားတို့ကဲ့သို့ တစ်စုံတစ်ခုသော အာရုံကို မယူတတ်သောကြောင့် **အနာရမ္မဏ**လည်း မည်၏။

၈။ တဒင်္ဂ ပဟာန်, ဝိက္ခမ္ဘနပဟာန်, သမုစ္ဆဒပဟာန်တို့၏ အစွမ်းဖြင့် မပယ်အပ်သည်၏ အဖြစ်ကြောင့် **အပ္ပဟာတဗ္ဗ**လည်း မည်၏။

* တဒင်္ဂပဟာန် = အကုသိုလ် အနုသယတရားတို့ကို **ကာမာဝစရကုသိုလ်ဖြင့် ခဏ္ဍခဏမျှသာ** ပယ်သတ်ခြင်း။

* ဝိက္ခမ္ဘနပဟာန် = အကုသိုလ် အနုသယတရားတို့ကို **ဈာန်ကုသိုလ်ဖြင့် ခပ်ကြာကြာ** ဈာန်မလျှောသမျှ ပယ်သတ်ထားနိုင်ခြင်း။

* သမုစ္ဆေဒပဟာန် = အကုသိုလ် အနုသယတရားတို့ကို **မဂ်ကုသိုလ်ဖြင့် အပြီးအပြတ်** ပယ်သတ်လိုက်ခြင်း။

## ရုပ် ၂၈–ပါး အခ်ဖွင့္ဟာယ်

၁။ **ပထဝီ** – ကက္ခဠဘာဝေါ၊ ခက်မာသော သဘောသည်လည်းကောင်း၊ မုဒုသဘာဝေါ၊ နူးညံ့သောသဘောသည်လည်းကောင်း၊ပထဝီ၊ ပရမတ်နှစ် မြေအစစ်ပေတည်း။

၂။ **အာပေါ** – အာဗန္ဓနံ၊ ဖွဲ့စည်းမှုသည်လည်းကောင်း၊ ပဂ္ဃရဏံ၊ ယိုစီးမှုသည်လည်းကောင်း၊ အာပေါ၊ ပရမတ်နှစ် ရေအစစ်ပေတည်း။

၃။ **တေဇော** – ဥဏှဘာဝေါ၊ ပူသောအဖြစ်သည်လည်းကောင်း၊ သီတဘာဝေါ၊ အေးသောအဖြစ်သည်လည်းကောင်း၊ တေဇော၊ ပရမတ်နှစ် မီးအစစ်ပေတည်း။

၄။ **ဝါယော** – ဝိတ္ထမ္ဘနံ၊ ထောက်ကန်၊ တောင့်တင်းမှုသည်လည်းကောင်း၊ သမုဒီရဏံ၊ လှုပ်ကြွရွေ့ရှားမှုသည်လည်းကောင်း၊ ဝါယော၊ ပရမတ်နှစ် လေအစစ်ပေတည်း။

**ပထဝီဓာတ် ခက်မာမှုသဘော**သည် မြေကြီး၌ ထင်ရှားလှ၍ ပထဝီဟု ကျွန်ုပ်တို့ ခေါ်ဆိုခြင်း ဖြစ်သည်။ အမှန်မှာ သက်ရှိသက်မဲ့ အရာဝတ္ထုအားလုံး၌ ပါရှိသော ခက်မာမှု နူးညံ့မှုသဘောဟူသမျှသည် ပထဝီဓာတ်မည်၏။ ယုတ်စွအဆုံး အဏုမြူမှုန်လေးတစ်ခုကို အစိတ်တစ်သိန်းစိတ်၍ တစ်စိတ်မျှသော အမှုန်ကလေးမျှ၌ပင် ပထဝီအပါအဝင် ရုပ် ၈–မျိုး မကွဲမကွာ တည်နိုင်သောကြောင့် ပထဝီဓာတ်မပါသော သက်ရှိသက်မဲ့ ပစ္စည်းမရှိနိုင်၊ အလွန်ကြည်လင်လှသော မြစ်ရေ၊ ချောင်းရေ၊ စိမ့်ရေတို့၌လည်းကောင်း၊ နေရောင်၊ လရောင်၊ မီးရောင်၊ ကြယ်ရောင်၊ ပတ္တမြားရောင်တို့၌လည်းကောင်း၊ အနီးအဝေး ပျံ့နှံ့၍သွားသော ခေါင်းလောင်းသံ၊ ကြေးစည်သံတို့၌လည်းကောင်း၊ လေပြေလေညှင်း၊ မုန်တိုင်း၊ အမွှေးနံ့၊ အပုပ်နံ့တို့၌လည်းကောင်း ပရမတ်စစ် မြေဓာတ်အပြည့် ပါရှိကြလေသည်။ သက်ရှိသက်မဲ့ အရာဝတ္ထုများ၌ ခက်မာမှု ပထဝီဓာတ်ပါရှိသည်ကို သိသာနိုင်သော်လည်း အရောင်၊ အဆင်း၊ အသံ၊ အနံ့တို့၌ ပါရှိသည်ကိုကား ဉာဏ်မျက်စိဖြင့်သာ ကြည့်ရှုသိရှိနိုင်လေသည်။ ထို့ကြောင့် (မဟာဘူတ=ကြီးကျယ်ထင်ရှား၍ အလွန်တရာ နက်ကျယ်လှသော ရုပ်ဟု ခေါ်သည်။)

**အာပေါဓာတ်**–တွယ်မှု၊ ကပ်မှု၊ ဖွဲ့စည်းမှုတို့တည်း။အာပေါဓာတ် လွန်ကဲသွားလျှင်ကား ယိုစီးမှုသဘောသို့ ရောက်သွားသည်။ သက်ရှိ သက်မဲ့ အရာဝတ္ထုအားလုံး အစိုင်အခဲအဖြစ် တည်ရှိနေနိုင်ခြင်းသည် အာပေါဓာတ်၏ ဖွဲ့စည်းတွယ်ကပ် ပေးထားမှုကြောင့် ဖြစ်သည်။အဏုမြူမှုန်လေးမှစ၍ သက်ရှိသတ္တဝါတို့၌ အသူရိန်နတ်ကြီးအစရှိသော သတ္တဝါများ၊ သက်မဲ့၌ မြင့်မိုရ်တောင်၊ စကြဝဠာတောင်၊ မဟာပထဝီမြေကြီး၊ လ၊ နေ၊ နက္ခတ် စသော အရာဝတ္ထုအားလုံးတို့၏ အထည်ဒြပ်သဏ္ဌာန်တည်နေနိုင်ကြခြင်းသည် အာပေါဓာတ်၏ အစွမ်းပင် ဖြစ်သည်။ အာပေါဓာတ်သည်လည်း အလွန်တရာကျယ်၍ နေရာယူလှသောကြောင့် မဟာဘူတ = မဟာဘုတ်ရုပ်ကြီး မည်၏။

**တေဇောဓာတ်သည်** ပူမှု၊ အေးမှုဟူသော အမူအရာ ကြိယာသက်သက်မျှသာ ဖြစ်သည်။ မိမိနှင့် ပေါင်းစည်းတွဲဖက်၍ တည်နေသော ပထဝီ၊ အာပေါ၊ ဝါယောဓာတ်များကို ရင့်ကျက်ထက်သန်အောင် အပူစွမ်း၊ အအေးစွမ်းသတ္တိတို့ကို ပေးသည်။

အမိဝမ်းမှ ဥလိုက်သောကြက်ဥတို့သည် အမိဖြစ်သူ ကြက်မက မပြတ်ဝပ်၍ အငွေ့ပေးမှ အစဉ်အတိုင်း ရင့်မာသန်စွမ်း၍ ကြက်သူငယ်အဖြစ်သို့ ရောက်သဖြင့် ပေါက်ဖွားနိုင်သည်။ အမိကြက်မက မဝပ်ဘဲ အငွေ့မပေးဘဲ နေခဲ့သည်ရှိသော် ကြက်သူငယ်အဖြစ်သို့ မရောက်နိုင်ပြီ။ အမိဝမ်းတွင်းက ထုံခဲ့သောအငွေ့အကုန်တွင် ပုပ်ခြင်းသို့ ရောက်တော့သည်။

ကျွန်ုပ်တို့ ခန္ဓာကိုယ်ကြီး အသက်မသေအောင် ပုပ်မသွားအောင် တေဇောအမျိုးမျိုးက ထိန်းထားခြင်း ဖြစ်သည်။ **ဥသ္မာတေဇော**ခေါ် ကိုယ်အငွေ့အပူဓာတ်ကလေးသည် ခန္ဓာကိုယ်ရုပ်ဓာတ်ကြီး အသက်ရှင်ရေးအတွက် စောင့်ရှောက်လျှက်ရှိသည်။ ၎င်းကိုယ်အငွေ့အပူဓာတ်မရှိလျှင် အသက်သေတော့၏။ **ပါစကတေဇော**ခေါ် ဝမ်းမီးအပူဓာတ်သည်လည်း စားသမျှ အစာများ ကျေကျက်အောင် ဆောင်ရွက်ပေးလျှက် ရှိ၏။ ခန္ဓာကိုယ်ကို အကျိုးပြုသော တေဇောဓာတ်များ ရှိသကဲ့သို့ ခန္ဓာကိုယ်ကို အိုမင်းရင့်ရော်အောင် ပြုတတ်သည့် **ဇီရဏတေဇော၊** ဖျားခြင်း၊ နာခြင်း ဖြစ်အောင် ပြုသည့် **သန္တပ္ပနတေဇော၊** မခံမရပ်နိုင်အောင် ပူလောင်သည့် **ဒဟနတေဇော** စသည်ဖြင့် များစွာရှိလေသည်။ ထို့ပြင် ရေဓာတ်၊ မြေဓာတ်၊ လေဓာတ်တို့၌လည်း မီးဓာတ်ပါဝင်လေသည်။ မဟာသမုဒ္ဒရာရေ၊ သီတာရေ၊ ကမ္ဘာကို ခံသောရေတို့၌လည်းကောင်း မြင့်မိုရ်တောင်၊ စကြဝဠာတောင်၊ မဟာပထဝီမြေကြီးတို့၌ သီတတေဇော အအေးမီးဓာတ် ပါဝင်သည်။ သီတ၊ ဥဏှ၊ မီးဓာတ်လည်း သက်ရှိသက်မဲ့

အရာဝတ္ထုအားလုံးတို့၌ ပါဝင်နေသဖြင့် ကြီးကျယ်ထင်ရှား၍ အရာကျယ်လှသော ကြောင့် မဟာဘုတ်ရုပ်ကြီး မည်၏။ (ရေပူ၌ ဥဏှတေဇော ပါဝင်ပြီး ရေအေး၌ သီတတေဇော ပါဝင်သည်။)

လက်ာ = သန္တပ္ပနှ၊ ဒဟနနှင့်၊ ဇီရဏပေ၊ ပါစကေ၊ လေးထွေတေဇောပြား။

**ဝါယောဓာတ်သည်** ထောက်ကန်ခြင်း၊ တောင့်တင်းခြင်း၊ လှုပ်ကြွရွေ့ရှားခြင်း၊ ချီးပင့်ထပ်းဆောင်ခြင်းတို့ပေတည်း။ ကျွန်ုပ်တို့သည် ဝါယောဓာတ်ကြောင့် လှုပ်ရှားသွားလာနိုင်၏။ ခိုင်ခိုင်မတ်မတ် တောင့်နိုင် ရပ်နိုင်၏။ စိတ္တဇဝါယောဓာတ်ကြောင့် အင်္ဂါအားလုံး၊ ဥတုဇဝါယောဓာတ်ကြောင့် သက်မဲ့အရာဝတ္ထုအားလုံးတို့ တရွေ့ရွေ့ တလှုပ်လှုပ် ရွေ့လျားနေရခြင်း ဖြစ်သည်။ မိမိနှင့် တွဲဘက်မဟာဘုတ်တရားများ+တွဲဘက် ဥပါဒါရုပ်များနှင့် ထောက်ကန်တောင့်တင်း လှုပ်ရှားမှုအတွက် မပါမပြီး အရာရာတိုင်းမှာ ပါဝင်ဆောင်ရွက်နေရသဖြင့် အလွန်ကြီးကျယ်ထင်ရှား၍ အရာကျယ်လှသောကြောင့် မဟာဘုတ်ရုပ်ကြီး မည်၏။

**ဓာတ်ကြီးလေးပါး ဆောင်ရွက်ပုံ ဥပမာ**

မြေမှုန့်များဖြင့် လူရုပ်လုပ်ရာ၌ **မြေမှုန့်များ**သက်သက်ဖြင့် အရုပ်ပြုလုပ်၍ မရ၊ အမှုန့်အတိုင်းထားလျှင် လေ၌ လွင့်ပါသွားလိမ့်မည်။ အမှုန့်များ တွဲစပ်အောင် အာပေါဓာတ် (အစိုအစေးဓာတ်) ရေဖြင့်ဆွတ်၍ တွဲကပ်စေရမည်။ လုံးထွေးတွဲကပ်ရာ၌ သင့်တင့်သော အပူအအေး တေဇောဓာတ်လည်း ပါရသည်။ တေဇောဓာတ်မပါက ပျော့ဖတ်ဖတ်ဖြစ်နေ၍ လိုရာအရုပ်ပုံသဏ္ဌာန် လုပ်၍မရပေ။ ထိုမျှဖြင့်လည်း မပြည့်စုံသေး၊ အမှုန့်များ တစ်ခုနှင့်တစ်ခု ထောက်ကန်တောင့်တင်း၍ ခိုင်ခိုင်မတ်မတ် ဖြစ်နေအောင် ဝါယောဓာတ်(လေ)သည် အမှုန်ကလာပ်တို့၏ အကြား၌ အလိုအလျောက် ပါဝင်ဆောင်ရွက်ပေးရလေသည်။ ဤသို့ ဓာတ်လေးပါးတို့ အညီအညွတ် လိုအပ်သလို ပါဝင်ဆောင်ရွက်မှုကြောင့် လူရုပ်တစ်ခု အဆင်ပြေပြေ တည်နေဖြစ်ပေါ် လာရသည်။ ရေ၊ မီး၊ လေဓာတ်တို့ ပျက်သုဉ်းသွားသောအခါ မြေမှုန့်အဖြစ်သို့သာ ပြန်ရောက်သွားရတော့သည်။

သက်ရှိခန္ဓာကိုယ်၌လည်း ဓာတ်ကြီးလေးပါး ညီညွတ်မျှတနေလျှင် ကျန်းမာ၍ မညီညွတ်လျှင် ခိုင်မာသန်စွမ်းမှု မရှိတော့ဘဲ နောက်ဆုံး ပြိုကွဲပျက်စီး လွင့်ပျောက်သွားရလေသည်။ (သက်ရှိ+သက်မဲ့ အရာအားလုံးတို့၌ ဓာတ်ကြီးလေးပါးသဘောကို အကုန် ကြံစည်ကြပါလေ။)

**စိတ်ကြီးလေးပါးတွင် အာပေါဓာတ်သည် တွေ့ထိ၍ မရစကောင်းဟု ဆို၏။** အာပေါဓာတ်ဟု ပြောလျှင် ကျွန်ုပ်တို့က ရေများကို အာပေါဓာတ်ဟု မြင်၏။ ရေကို ထိလို့ရသားပဲ-ဟု ပြောဆိုနိုင်သော်လည်း အမှန်မှာ ရေကိုထိရာ၌ ရေ၌ပါသော ပထဝီဓာတ်၊ ဝါယောဓာတ်တို့၏ မာမှု၊ တွန်းကန်ထားမှုကြောင့် ထိမှန်း သိရခြင်း ဖြစ်သည်။ ပူသောရေကို ထိရာ၌ ပူမှန်းသိရခြင်းသည် ရေ၌ပါသော ဥဏှတေဇောကို ထိသိခြင်း ဖြစ်သည်။ ရေအေးကို ထိသိရာ၌ ရေ၌ပါသော သီတတေဇောဓာတ်ကို ထိသိခြင်း ဖြစ်သည်။ အာပေါဓာတ်ကို ထိခြင်းမဟုတ်၊ အာပေါဓာတ်သည် စိုးစေးတွဲကပ် ယိုစီးတတ်သည့် သဘောသက်သက်သာ ဖြစ်၍ တွေ့ထိ၍ မရစကောင်းပေ။

**ပသာဒရုပ်**–မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်တို့၌ ဆိုင်ရာအာရုံများ ထင်လာဖို့ရာ အကြည်ဓာတ်ရုပ်များ ရှိ၏။ ၎င်းအကြည်ဓာတ်ရုပ်များကို ပသာဒရုပ်ဟု ခေါ်သည်။

(၎င်းပသာဒရုပ်ကို ဝတ္ထုရုပ်၊ ဒွါရရုပ်များဟူ၍လည်း ခေါ်သည်။ ပသာဒရုပ်များသည် စိတ်၏ ဖြစ်ရာ၊ တည်ရာ မှီရာ၊ သွားစီးရာတို့ ဖြစ်ကြသည်။)

**မှတ်ချက်။** ကာယပသာဒသည် တစ်ကိုယ်လုံး၌ တည်သောကြောင့် စက္ခုစသော ပသာဒရုပ်များနှင့် ကာယပသာဒရုပ်များ ရောနှောနေသည်ဟု မှတ်ရမည်လော။

ထိုသို့ မမှတ်ရပေ၊ မှီရာ မဟာဘုတ်ချင်းအားဖြင့်လည်းကောင်း၊ လက္ခဏာအားဖြင့်လည်းကောင်း ကွဲပြားသောကြောင့် ကာယပသာဒနှင့် စက္ခုပသာဒ စသည်တို့ မရောယှက်ပါ။

**လင်္ကာ** = ကလာပ်ကိုယ်စီ၊ ကိုယ့်ဘုတ်မှီလျှက်၊ ကိုယ်စီလက္ခဏာ၊ ကွဲပြီးသားမို့
လေးဖြာပသာဒ၊ ဤကာယနှင့်၊ ဌာနကပ်လင့်၊ ရောစပ်ခွင့်၊ စိုးစဉ့်မရှိချေ။

**ဘာဝရုပ် ၂–ပါး။** မိန်းမ၊ ယောကျ်ားတို့၏ အင်္ဂါ၊ ပုံသဏ္ဌာန်၊ အမူအရာ၊ အသွင်အပြင်တို့ကို ဖြစ်ပေါ်လာစေရန် အကြောင်းဗီဇရုပ် (ဤရုပ်နှစ်ပါးသည်လည်း တစ်ကိုယ်လုံး၌ တည်၏။)

**ဟဒယဝတ္ထုရုပ်။** နှလုံးသားအလယ် တွင်းငယ်၌ရှိသော ပုန်းညက်စေ့ခန့် ပမာဏရှိသော သွေးအစုံ၌ ပုံမှန်တည်ရှိလျှက်နေသော ဝတ္ထုရုပ်တစ်မျိုးကို

ဟဒယဝတ္ထုရုပ်ဟု ခေါ်သည်။ ၎င်းဟဒယဝတ္ထုရုပ်သည် ကောင်းကျိုး ဆိုးကျိုးကို ပြည့်စုံစေတတ် ဖြစ်စေတတ်သောကြောင့် ဟဒယမည်၏။ ၎င်းဟဒယဝတ္ထုရုပ်မှ မနောဝိညာဏဓာတ် စိတ်မျိုး ၇၅-ပါးတို့ ပေါက်ဖွားကြကုန်၏။

**ဇီဝိတရုပ်။** အသက်ရုပ်ဖြစ်သည်။ အသက်ဆိုသည်ကား ကြာအိုင်၌ ရှိသော ရေသည် ကြာပင်၊ ကြာရိုးတို့ကို မသေမခြောက်စေရန် စောင့်ရှောက်ပေး သကဲ့သို့ ကမ္မဇရုပ်တရားတို့ကို အစဉ်သဖြင့် စိမ်းစိမ်းရှင်ရှင် ရွှင်ရွှင်လန်းလန်း ရှိနေကြစေရန် စောင့်ချုပ်အုပ်ထိန်းသော ရုပ်ရှင်ရုပ်နှစ် အထူးတည်း။

လောက၌ သတ္တဝါ သေသည် ရှင်သည်ဟူသော အချက်သည် ဤဇီဝိတ ရုပ်၏ အချက်ပေတည်း။ ဇီဝိတရုပ် အပြီးချုပ်လျှင် သတ္တဝါ သေသည်။ ဇီဝိတရုပ် အစဉ်ရှိနေသ၍ သတ္တဝါလည်း ရှင်နေသည် (ဤရုပ်သည်လည်း တစ်ကိုယ်လုံး၌ တည်၏) ရုပ်ဇီဝိတိန္ဒြေ စောင့်ရှောက်ပုံမှာ-အမိရင်းနှင့် တူသောကံသည် ကမ္မဇရုပ် ကို ဖြစ်စေပြီး ပဋိသန္ဓေကပင် ကွယ်လွန်သွားခဲ့သည်။ အမိရင်းကံက မွေးဖွားပေး ခဲ့သော အမိရင်းကံမရှိတော့သော ကမ္မဇရုပ်များကို ဇီဝိတိန္ဒြေက မွေးစားအမေ သဖွယ် ဆက်လက်စောင့်ရှောက်ပေးရခြင်း ဖြစ်သည်။

**အာဟာရရုပ်။** ဤရုပ်သည် ခန္ဓာကိုယ် တည်တံ့ရေးအတွက် အလွန် စွမ်းဆောင်နိုင်သော ရုပ်ဆိရုပ်နှစ် ဓာတ်ဆိ ဓာတ်နှစ် ဖြစ်သည်။ မြေအတွင်း၌ ရှိသော ရေဓာတ်နှင့် မိုးရေဓာတ်တို့သည် သစ်ပင်၊ ခြုံ မြက်တို့ကို ပေါက်ဖွား ကြီးပွား တည်နိုင်ကြစေခြင်းငှာ အလွန်ဆောင်သကဲ့သို့ ကမ္မဇကာယ၊ စိတ္တဇကာယ၊ ဥတုဇကာယ၊ အာဟာရဇကာယဟု ဆိုအပ်သော ကာယကြီးလေးပါး ရုပ်တရား တို့ကို ပေါက်ဖွားကြီးပွား တည်နိုင်စေခြင်းငှာ လွန်စွာခိုင်မြဲ ထောက်ပံ့ဆောင်ရွက် နိုင်သော ရုပ်ဆိ ရုပ်နှစ် ဖြစ်သည်။ ဤရုပ်သည် ဇီဝိတရုပ်ကို အထောက်အပံ့ ပြု၏။ သဗ္ဗေသတ္တာ အဟာရဋ္ဌိတိကာ-ဆိုသည့်အတိုင်း အာဟာရရှိမှ အသက်ရှင်နိုင် သဖြင့် သတ္တဝါတိုင်း အစားအစာ အာဟာရ ရှာမှီးနေကြရသည်။

**တစ်ကိုယ်လုံး၌ ပျံ့နှံ့တည်သော ရုပ်များ။** ဘာဝရုပ် ၂-ပါး၊ ကာယပသာဒ၊ သွေး၊ ဇီဝိတိန္ဒြေ၊ သည်းခြေ၊ သုက်တို့ ဖြစ်သည်။

**လင်္ကာ။** ဘော+ပသာဒ+လောဟိတ၊ ဇီဝ+သည်းခြေ+သုက်၊
ကိုယ်လုံးနှံ့ပြာ၊ တည်လေရာ၊ ကျမ်းလာမှန်သမုတ်။

*(ပေါရာဏ)*

## အာကာသဓာတ်ရုပ်(ကောင်းကင်ရုပ်)

(ပရိစ္ဆေဒရုပ် = အပိုင်းအခြားဖြစ်သောရုပ်)

အာကာသ = ကောင်းကင်ဟူသည် ဤနေရာ၌ ဟင်းလင်းပြင် = အဇဋာကာသအထက်+အောက် ကောင်းကင်၊ ထက်ဖနီးကျင် ပိုင်းခြားကာရံထားသော တွင်း +လိုဏ် + ဂူ + အခန်း–တံခါးပေါက် အစရှိသော = ပရိစ္ဆိန္နာကာသကောင်းကင်၊ အာကာသာနဉ္စာယတန စျာန်၌လာသော ကသိုဏ်း ၉–ပါးတွင် တစ်ပါးပါးကို ခွါ၍ရအပ်သော=ကသိဏုဂ္ဃါတိမာကာသ = ကောင်းကင်ပညတ် စသည့် ကောင်းကင်များကို မယူရဘဲ ဤရုပ်ပိုင်း၌–ရုပ်ကလာပ်လေးများ (ဆဲလ်)လေးများ၏ တစ်ခုနှင့် တစ်ခု မရောစပ်ရအောင် ပိုင်းခြားခွဲထားသော အကြားအရပ်=ပရိစ္ဆေဒါကာသကိုသာ ယူရမည် (ခန္ဓာကိုယ်၌ ချွေးများထွက်လာနိုင်ခြင်းသည် ရုပ်ကလာပ်လေးများ တစ်ခုနှင့်တစ်ခု မတွဲမစပ် အကြားအလပ် ကောင်းကင်လေးများ ရှိသောကြောင့် ဖြစ်သည်။

## ဝိညတ်ရုပ် ၂–ပါး(အလိုဆန္ဒကို သိစေတတ်သောရုပ်)

မိမိစိတ်အလိုကို သူတစ်ပါးတို့ သိဖို့ရန် ကိုယ်အင်္ဂါ၏ လှုပ်ရှားခြင်း အမူအရာအထူးသည် ကာယဝိညတ်မည်၏။

စကားသံ၌ပါသော ထိုထိုအက္ခရာတို့ကို လှုပ်ရှားစေသော အမူအရာအထူးသည် ဝစီဝိညတ်ရုပ် မည်၏။

## ဝိကာရရုပ် ၃–ပါး (နိပ္ဖန္နရုပ်တို့၏ အမူအရာအထူး)

**ရူပဿလဟုတာ** = နိပ္ဖန္နရုပ်တို့၏ ပေါ့ပါးသွက်လက်နေခြင်း၊
**ရူပဿမုဒုတာ** = နိပ္ဖန္နရုပ်တို့၏ နူးညံ့သိမ်မွေ့နေခြင်း၊
**ရူပဿကမ္မညတာ** = နိပ္ဖန္နရုပ်တို့၏ ကိုယ်နှုတ်အမှုတို့၌ လိုက်လျောအဆင်ပြေလှသည်ဖြစ်၍ အသုံးပြု၍ ကောင်းနေခြင်း၊

ဓာတ်ကြီးလေးပါး မညီညွတ်၍ သွေး၊ သည်းခြေ၊ လေ၊ သလိပ်တို့ ဖောက်ပြန်သောအခါ၌ လည်းကောင်း၊ စိတ်၊ ဥတု၊ အာဟာရတို့ မမျှတသောအခါ၌လည်းကောင်း၊ ကိုယ်အင်္ဂါသည် အလိုရှိရာ ပြုပြင်မှု၌ ပကတိအခါမှာကဲ့သို့ ပေါ့ပါးခြင်းမရှိ လေး၏။ ဒုက္ခဖြစ်၏။ နူးညံ့ခြင်းမရှိ တောင့်တောင့်တင်းတင်း ရှိ၏။ လှုပ်ရှားတိုင်း နာကျင်၏။ စကားပြောဆိုရာ၌လည်း ဓာတ်မညီလျှင် နှုတ်လျှာလှုပ်ရှားမှု လေး၏။ တောင့်တင်းတင်း ရှိ၏။ အလိုအတိုင်းမပါ မနူးညံ့၊ ဓာတ်လေးပါးညီသောအခါ ဖော်ပြပါ ရုပ်သုံးမျိုး အလိုအလျောက် ဖြစ်ပေါ်၏။

## လက္ခဏရုပ် ၄–ပါး (သိမှတ်နိုင်ကြောင်းရုပ်)

ဖြစ်ဆဲ၊ တည်ဆဲ၊ရင့်ဆဲ၊ ပျက်ဆဲသော နိပ္ဖန္နရုပ်တို့၏ အခိုက်အတန့်ကို စွဲ၍ "အော်–နိပ္ဖန္နရုပ်တရားတို့သည် အနိစ္စမျိုးတို့သာပါတကား"ဟု သန္နိဋ္ဌာန်ကျ သိမှတ်နိုင်ကြောင်း ဖြစ်သောကြောင့် လက္ခဏရုပ် မည်၏။

(၁) **ဥပစယ** – ပဋိသန္ဓေ စ၍တည်ရှိ ဖြစ်ပေါ်မှုသည် နိဗ္ဗတ္တိဥပစယ ဖြစ်ပြီးသည့်နောက် – တစ်ဘဝ၌ ရသင့်ရထိုက်သော ရုပ်များ စုံသည်အထိ ဆက်လက်တိုးပွားမှုကို ဝုနိ ဥပစယဟု ခေါ်သည်။။
**(ဥပစယအခိုက်ကို ပဋိသန္ဓေ တည်သည်မှ ဇီဝှါ ဒသက ဖြစ်သည်အထိ သတ်မှတ်သည်)**

(၂) **သန္တတိ** – ရုပ်များစုံအောင် တိုးပွားမှု ပြီးဆုံးပြီး ဆက်လက် တည်ရှိ ဖြစ်ပေါ်မှု။
(ဇိဝှါဒသကမှ နောက်၌ဖြစ်သော ရုပ်တို့၏ တည်ရှိမှု)

(၃) **ဇရတာ** – အိုမှု၊ ကျမှု၊ ရင့်ရော်မှုညှိုးရွမ်းမှု၊ ဟောင်းနွမ်းဆွေးပုပ် ဆုတ်ယုတ်လျော့ပါးမှု။

(၄) **အနိစ္စတာ**– သေဆုံးချုပ်ပျက်မှု၊ ကုန်ခန်းပျောက်ကွယ်မှု။
(ဥပစယ၌ ရှေးဦးစွာ ဖြစ်ပေါ်ခြင်းကို အာစယ၊ ဆက်လက်တိုးပွားမှု အခိုက်ကို ဥပစယ–ဟု ခွဲသေးသည်)

သစ်ပင်တစ်ပင်၌ ရှေးဦးစွာ ပေါ်ပေါက်လာခြင်းသည် (ပဌမ ဥပစယ)၊ တစ်နေ့တစ်ခြား တိုးပွားခြင်းသည် (ဒုတိယဥပစယ) အတိုးအပွားရပ်၍ ကာလမြင့် ရှည်နေခြင်းသည် (သန္တတိ)၊ ဆုတ်ယုတ်လျော့ပါး၍ သွားခြင်းသည် (ဇရတာ)၊ သေ၍ ပျက်ပြားကုန်ဆုံးခြင်းသည် (အနိစ္စတာ)-ဟု သက်မဲ့တို့၌လည်း ရနိုင်သဖြင့် ခွဲရာသည်။ (နိဗ္ဗတ္တိ = စ၍ ဖြစ်ခြင်း၊ ဝုဍ္ဎိ = ဆက်လက်တိုးပွားခြင်း)

## ရုပ်ကို ၂-ပါးစုအားဖြင့် ဝေဖန်ခြင်း

| | | | | |
|---|---|---|---|---|
| ပသာဒရုပ်-၅ | ၅ | အဇ္ဈတ္တိက=ကျေးဇူးကြီး<br>သည့် အတွင်းရုပ် | ကြွင်း<br>-၂၃ | ဗာဟိရ |
| ။ +ဟဒယ | ၆ | ဝတ္ထု=မှီရာဝတ္ထုရုပ် | ကြွင်း<br>-၂၂ | အဝတ္ထု |
| ။ +ဝိညတ်ဒွေ | ၇ | ဒွါရ=ကာယကံ၊ဝစီကံ<br>တို့ ဖြစ်ရာဌာနရုပ် | ကြွင်း<br>-၂၁ | အဒွါရ |
| ။ +ဘာဝရုပ်<br>၂ + ဇီဝိတ | ၈ | ဣန္ဒြိယ=ဆိုင်ရာကို<br>အစိုးရသောရုပ် | ကြွင်း<br>-၂၁ | အနိန္ဒြိယ |
| ။ +ဝိသယရုပ်<br>- ၇ | ၁၂ | ဩဠာရိက=ကြမ်းတမ်း<br>ထင်ရှားသောရုပ်<br>သန္တိကေ=ဉာဏ်နှင့်နီး<br>ကပ်သိလွယ်သည့်ရုပ်<br>သပ္ပဋိဃ=ထိခိုက်သိလွယ်သောရုပ် | ကြွင်း<br>-၁၆ | သုခုမ<br>ဒူရေ<br>အပ္ပဋိဃ |
| ။ +ဘာဝရုပ်၂<br>+ဟဒယ-၁ ဇီဝိတ<br>+အဝိနိဗ္ဘောဂ-၈<br>+အကာသ=ကမ္မဇရုပ် | ၁၈ | ဥပါဒိန္န=တဏှာဒိဋ္ဌိတို့<br>ကပ်ရောက်အပ်သောကံ<br>သည် ရင်း၏အကျိုးဟု<br>စွဲယူအပ်သောရုပ် | ကြွင်း<br>-၁၀ | အနုပါဒိန္န<br>(ဥတုဇ၊စိတ္တဇ၊<br>အါဟာရဇရုပ်) |
| ရူပါရုံ | ၁ | သနိဒဿန=မျက်စိဖြင့်<br>မြင်နိုင်သောရုပ် | ကြွင်း<br>-၂၇ | အနိဒဿန |

| | | | | |
|---|---|---|---|---|
| ပသာဒရုပ် | ၅ | ဂေါစရဂ္ဂါဟိက=အာရုံကို ယူရာဌာနရုပ် | ကြွင်း-၂၃ | အဂေါစရဂ္ဂါဟိက |
| မဟာဘုတ် ၄+ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ | ၈ | အဝိနိဗ္ဘောဂ=ခွဲခြမ်း၍ မရကောင်းသောရုပ် | ကြွင်း-၂၀ | ဝိနိဗ္ဘောဂ |

**မှတ်ချက်။** ဂေါစရဂ္ဂါဟိက-အာရုံကို ယူရာဌာနရုပ်၌ **အသမ္ပတ္တဂါဟက**=မထိခိုက် မရောက်လာသော အဝေးမှအာရုံကို ယူနိုင်သောရုပ်မှာ သောတနှင့် စက္ခုပသာဒတို့ ဖြစ်ပြီး၊ **သမ္ပတ္တဂါဟက**=အာရုံနှင့် ပသာဒ ထိခိုက်ရောက်လာမှ ယူနိုင်သောရုပ်တို့မှာ ဃာန+ဇိဝှါ+ကာယ-ပသာဒရုပ်တို့ ဖြစ်ပါသည်။

* အဇ္ဈတ္တိကေ၊ ပသာဒေ၊ ကြွင်းလေဗာဟိရ။
* ပသာ-ဟ၊ မူ၊ ဝတ္ထုယူ၊ ကြွင်းမူအဝတ္ထု။
* ပသာ-ဝိညတ်၊ ဒွါရမှတ်၊ ကြွင်းလတ်အဒွါရ။
* ပ-ဘာ-ဇီဝေ၊ ဣန္ဒြေ၊ ကြွင်းလေအနိန္ဒြိယ။
* ပသာ-ဂေါစရ၊ ရုပ်ဒွါရ၊ ဩဠာရိကခေါ်။
* သပ္ပဋိဃ၊ သန္တိက၊ နာမသုံးမည်ပေါ်။
* ကြွင်းသောဥသ၊ သုခုမ၊ အပ္ပဋိ-ဒူရေခေါ်။
* ရုပ် ကမ္မဇ၊ ဌာရသ၊ ဥပါဒိန္နပေ။

* အသမ္ပတ္တ၊ ဂါဟက၊ သောတစက္ခုယူ။
* ရုပ်သမ္ပတ္တ၊ ဂါဟက + ဃာန၊ ဇိ၊ ကာယူ။
* မဟာဘူတ၊ ဝဏ္ဏ + ဂန္ဓ၊ ရသောဇာ၊ ရှစ်ဖြာ အဝိ-ဘော။
* သနိဒဿနံ၊ ဆင်းရုပ်၊ အကျန် အနိဒေါ၊

| ရုပ်ဖြစ်<br>ကြောင်း<br>တရား-၄ | ကံ | စိတ် | ဥတု | အာဟာရ |
|---|---|---|---|---|
| သရုပ် | အကု-၁၂<br>မဟာကု-၈<br>ရူပကု-၅<br>ပေါင်း ၂၅<br>ပါးသော<br>အတိတ်ကံ<br>တို့သည် | ဒွေပဉ္စဝိညာဏ်၁၀<br>အရူပဝိပါက်-၄<br>(ရဟန္တာတို့ စုတိ<br>စိတ်နှင့် ပဋိသန္ဓေ<br>စိတ်တို့ကြဉ်)<br>၇၅-ပါးသောစိတ်<br>တို့သည် | စတုသမုဋ္ဌာနိက-<br>ကလါပ်၌ပါသော<br>သီတတေဇော<br>နှင့်ဥဏှတေဇော<br>၂-ပါးသည် | စားမျိုအပ်သော<br>အါဟာရ၌ပါသော<br>ဩဇာရုပ်သည် |
| သန္တာန် | အဇ္ဈတ္တိက<br>သန္တာန်၌ | အဇ္ဈတ္တိကသန္တာန်၌ | အဇ္ဈတ္တိက-ဗဟိဒ္ဓ<br>သန္တာန် ၂-ပါး၌ | အဇ္ဈတ္တိကသန္တာန်<br>၌ |
| ဖြစ်စေတတ်<br>သောရုပ် | ကမ္မဇရုပ်<br>၁၈-ပါးကို | စိတ္တဇရုပ် ၁၅-ပါး<br>ကို | ဥတုဇရုပ်၁၃-ပါး<br>ကို | အာဟာရဇရုပ်<br>၁၂-ပါးကို |
| စ၍ဖြစ်ရာ<br>ကာလ | ပဋိသန္ဓေ<br>စိတ်၏ဥပါဒ်<br>မှ စ၍ | ပဌမဘဝင်၏<br>ဥပါဒ်မှ စ၍ | အဇ္ဈတ္တိက၌<br>ပဋိသန္ဓေ၏<br>ဌီမှစ၍ | အါဟါရကိုစားပြီး<br>အဇ္ဈတ္တ+ဗဟိဒ္ဓ<br>ဩဇာ ၂-မျိုး |
| ခဏ ၃-ပါး<br>အနက်ဖြစ်<br>စေနိုင်သော<br>ခဏ | ခဏတိုင်း<br>ခဏတိုင်း<br>ဖြစ်စေပါ<br>သည်။ | စိတ်တို့၏ ဥပါဒ်<br>ခဏတိုင်းခဏတိုင်း<br>ဖြစ်စေပါသည်။ | မိမိ၏ ဌီသို့<br>ရောက်တိုင်း<br>ရောက်တိုင်း<br>ခဏမစဲ ရုပ်တို့<br>ကို ဖြစ်စေပါ<br>သည်။ | ရောစပ်ပြီးနောက်<br>ဌီသို့ရောက်ခိုက်မှ<br>စ၍ ဩဇာ၏ဌီသို့<br>ရောက်တိုင်း<br>ရောက်တိုင်းခဏ<br>မစဲ ရုပ်တို့ကိုဖြစ်<br>စေပါသည်။ |

✱ ကာ-ရူ-ကု-ကု၊ တိတ်စေစု၊ ကံဟုမှတ်ယူလေ၊ သန္ဓိ-ဥမှ၊ ခဏမစဲ၊
တစ်စပ်ထဲ၊ အမြဲ ရုပ်ဖြစ်စေ။ (၂၅)

* အရူပဝိ၊ စိတ်-သန္ဓိနှင့်၊ ဒွိပဉ္စဝိညာဏ်၊နိဗ္ဗာန်ဆုံးစု၊ ကြည့်မှုကြွင်းထ၊ သတ်ပဥ္စ၊ တကွစိတ်နှင့်စေ။ (၇၅)
* အချမ်းအပူ၊ နှစ်ဆူအဂ္ဂိ၊ တေဇောဒွိ၊ မှတ်သိဥတုပေ၊ သန္ဓိ-ဌ-မှ၊ စ၍စဉ်စီ၊ မိမိဌီ-တိုင်း၊ အစဉ်မပြတ်၊ အဇ္ဈတ်+ဗဟိတ်၊ မဆိတ်မစဲ၊ တသဲသဲ၊ အမြဲရုပ်ဖြစ်စေ။
* ဗဟိတ်+အဇ္ဈတ်၊ နှစ်ရပ်သြဇာ၊ ရောမိခါမှ၊ ဌီသို့ဆိုက်က၊ အဇ္ဈတ္တ ဝယ်၊ ခဏမစဲ၊ တဖွဲဖွဲ၊ အမြဲရုပ်ဖြစ်စေ။

စဖြစ်ရာ ကာလ - သန္ဓိ-ဥ-မှာ၊ ကမ္မဇာ၊ ဌီမှာ-ဥတုဇ။
ပ-ဘွင်-ဥ-မှာ၊ စိတ္တဇာ၊ ဟာရာစိမ့်မျိုမှ။

မှတ်ချက် - ရုပ်တရားသည်-ဌီ-အခိုက်သို့ရောက်မှ အားရှိဖြစ်ပေါ်သည်။
နာမ်တရားသည် ဥပါဒ်-အခိုက်တွင်ပင် အားရှိဖြစ်ပေါ်သည်။

* - အာဟာရဇရုပ်သည် တွင်း+ပြင်သြဇာဓာတ် နှစ်မျိုး ပေါင်းစပ်၍၊ ဌီသို့ ရောက်ခိုက်မှ စ၍ဖြစ်သည်။

နောက်ဆုံးဖြစ်,ချုပ်ရာကာလ

လက်ာ - စ၍ဖြစ်ပြီး၊ မီးလျှံရေလျှင်၊ ကဲ့အသွင်၊ အစဉ်သွားလေက။
* စုတိ+ကမ္မဇရုပ်၊ အပြိုင်ချုပ်၊ ကျန်ရုပ်သိလေကြ။
* လေးဆယ့်ရှစ်မှာ၊ စိတ္တဇာ၊ ဟာရာ-ငါးဆယ်ကျ၊
* ချုပ်တာသိမူ၊ အဖြစ်ယူ၊ လွယ်ကူတော့သည်ပ။

* ဥတုဇရုပ်သည် သေပြီးနောက် ရုပ်ခန္ဓာကိုယ်ကြီး တည်ရှိနေသ၍ ကာလပတ်လုံး တည်၏။

ရုပ်လေးပါးတို့ စ၍ဖြစ်ပုံ

ရုပ်လေးပါးတို့ နောက်ဆုံးဖြစ်ပုံ+ချုပ်ပုံ

ဘဝင်စိတ်နှင့်
ဝိထိစိတ်
များစွာ

ကမ္မဇရုပ်
စဖြစ်

ဥတုဇရုပ်
စဖြစ်

စိတ္တဇရုပ်
စဖြစ်

ဥ ဌီ ဘင် ဥ ဌီ ဘင် ဥ ဌီ ဘင်

ပဋိသန္ဓေ
စိတ်

ပထမ
ဘဝင်စိတ်

ဒုတိယ
ဘဝင်စိတ်

ကမ္မဇရုပ်
နောက်ဆုံး
ဖြစ်

စိတ္တဇရုပ်
နောက်ဆုံးဖြစ်

အာဟာရဇရုပ်
နောက်ဆုံးဖြစ်

ဥ ဌီ ဘင် ဥ ဌီ ဘင် ဥ ဌီ ဘင်

၁၇
စုတိစိတ်မှ
ပြန်၍ရေတွက်
သော် ၁၇-ချက်
မြောက်စိတ်

၁၆

၁၅-မှ-၂

၁
စုတိစိတ်

စုတိပြီး
ခဏငယ်
၄၈

စုတိပြီး
ခဏငယ်
၅၀

ကမ္မဇရုပ်
နောက်ဆုံး
ချုပ်

စိတ္တဇရုပ်
နောက်ဆုံး
ချုပ်

အာဟာရဇရုပ်
နောက်ဆုံး
ချုပ်

ရုပ်ပိုင်း

# ၇၅–ပါးသောစိတ်တို့က ဆောင်ရွက်သောကိစ္စများ

| စိတ် | | စိတ္တဇရုပ် | ဣရိယါပထရုပ် | ဝိညတ်ရုပ် | ပြုံးရယ်ခြင်းရုပ် | ငိုခြင်းငြီးတွါးခြင်းရုပ် | ကိစ္စပေါင်း |
|---|---|---|---|---|---|---|---|
| မနောဓါတ်–၃၊တဒါရုံ–၁၁၊ရူပဝိပါက်–၅ | ၁၉ | ။ | | | | | ၁ |
| အဘိညာဏ်ကြဉ်အပ္ပနာဇော–၂၆ | ၂၆ | ။ | ။ | | | | ၂ |
| မနောဒွါရာဝဇ္ဇာန်း၊ကာမဇော–၂၉၊ အဘိညာဏ်ဒွေ | ၃၂ | ။ | ။ | ။ | | | ၃ |
| လောဘမူ သောမနဿ–၄ မဟာကုသိုလ်သောမနဿ–၄ | ၈ | ။ | ။ | ။ | ။ ပုထုဇဉ် | | ၄ |
| လောဘမူသောမနဿဒိဋ္ဌိဂတဝိပ္ပယုတ်–၂ မဟာကုသိုလ်သောဓနဿ–၄ | ၆ | ။ | ။ | ။ | ။ သေက္ခ | | ၄ |
| ဟသိတုပ္ပါဒ်၊မဟာကြိယာ သောမနဿ–၄ | ၅ | ။ | ။ | ။ | ဘုရား၊ ရဟန္တာ | | ၄ |
| ဒေါသမူဒွေ | ၂ | ။ | ။ | ။ | | ။ | |
| *ဒွေပဥ္စဝိညာဏ်–၁၀၊အရူပဝိ–၄၊ပဋိသန္ဓေစိတ်နှင့် ရဟန္တာတို့၏စုတိစိတ်များ | ၁၄ | | | | | | |
| အပေါင်း | ၈၉ | ၇၅ | ၅၈ | ၃၂ | ၁၃ | ၂ | |

* မနောဓာတို၊ တဒါရုံက၊ ရူပဝိပါက်၊ ၁၉–ချက်မှာ၊ ရုပ်ကိုသာတည်း။

* ဇောအပ္ပနာ၊ ဣရိယာ၊ ကောင်းစွာတည်ခိုင်စေ။

* မနောဒွါရာ၊ ဇောကာမာ၊ ဘိညာသုံးဆယ့်နှစ်။
ကာယဝိဇ္ဇာ၊ မူအရာ၊ နှစ်ဖြာဝိညတ်ဖြစ်။

* ဆယ့်သုံးသောမနဿ၊ ပြုံးရယ်တတ်၊ ငိုတတ်–ဒေါဇော–နှစ်။

ရှစ်ပုထုဇန်၊ ခြောက်သေက္ခန်-ငါးတန်ရဟန္တာ။
(ဣရိယာပထရုပ်=လျှောင်း+ထိုင်+ရပ်+သွား၊ လေးပါးသောဣရိယာပုထ်ကို
တည်တံ့ခိုင်မြဲစေသောရုပ်။)

| သမုဋ္ဌာန် | | | ကမ္မဇ | စိတ္တဇ | ဥတုဇ | အါဟါဇ | |
|---|---|---|---|---|---|---|---|
| ဧက | ကံ | ပသာဒ-၅၊ဘာဝ-၂၊ဟဒယ၊ ဇီဝိတ - | (၉) | | | | |
| ဇ | စိတ် | ဝိညတ်ဒွေ | | (၂) | | | ၁၁ |
| ဒွိဇ | စိတ်+ဥတု | သဒ္ဒ | | ၁ | ၁ | | ၁ |
| တိဇ | စိတ်+ဥတု အဟာရ | ရူပဿလဟုတာ၊ရူပဿမုဒုတာ ရူပဿ ကမ္မညတာ | | ၃ | ၃ | ၃ | ၃ |
| စတု ဇ | ကံ+စိတ် ဥ+ဟာ | အဝိနိဗ္ဘောဂရုပ်-၈၊ အာကာသ | ၉ | ၉ | ၉ | ၉ | ၉ |
| နကုတောစိ သမုဋ္ဌာန် | | လက္ခဏရုပ် ၄-ခု | | | | | ၄ |
| | | ဧကန် | ၉ | ၂ | | | |
| | | အနေကန် | ၉ | ၁၃ | ၁၃ | ၁၂ | ရုပ် |
| | | ပေါင်း | ၁၈ | ၁၅ | ၁၃ | ၁၂ | ၂၈ |

* ပသာ၊ ဘာဝ၊ ဇီနှင့်ဟ-နဝကမ္မဇာ၊
* ဝိညတ်ဒွယ၊ စိတ္တဇ သဒ္ဒ-စိတ်-ဥဇာ၊
* လဟုတာစု၊ ရုပ်သုံးခု၊ စိတ်-ဥ-သြဇ ဇာ၊
* အဝိနိဗ္ဘုံ၊ အာကာသံ၊ ကံ စိတ် ဥ သြဇာ။
* လက္ခဏာစု၊ ရုပ်-၄ခု၊ စတုဝိမုတ်သာ။

ဧကန်+နေကန်၊ ကိုးနှစ်တန်၊ ကံဇဋ္ဌာရသာ။
နှစ်ခုဧကန် နေကန် တေရ၊ ဆယ့်ငါးမျှ၊ စိတ္တသမုဋ္ဌာန်။
ယင်းနေကန်စု၊ ဆယ့်သုံးခု၊ ဥတုသမုဋ္ဌာန်။
တိ+ စတု-ဇ ဆယ့်နှစ်မျှ၊ သြဇသမုဋ္ဌာန်။

လက္ခဏရုပ် ၄-ပါးသည် မည်သည့်အကြောင်းကြောင့်မျှ မဖြစ်သော နကုတောစိ သမုဋ္ဌာန် ရုပ် ဖြစ်နေခြင်းမှာ (သက်သက်) ဖြစ်ဆဲ အစရှိကုန်သောရုပ်တို့၏သဘောတံထွာ ဓမ္မတာ၏ အဖြစ်ကြောင့် မည်သည့်အကြောင်းကြောင့်မျှ မဖြစ်ခြင်း ဖြစ်ပါသည်။

# ရူပကလာပ(ရုပ်တို့၏ အပေါင်းအစည်းကိုပြခြင်း)

| ရုပ်ကလာပ်စည်းများ (၂၁)စည်း | ပါဝင်သောရုပ်များ | |
|---|---|---|
| **ကမ္မဇကလာပ် ၉–စည်း** | | |
| ၁။ စက္ခုဒသက ကလာပ် | အဝိနိဗ္ဘောဂ+ဇီဝိတ+စက္ခုပသာဒ | ၁၀ |
| ၂။ သောတဒသက ။ | ။ ။ သောတပသာဒ | ၁၀ |
| ၃။ ဃာနဒသက ။ | ။ ။ ဃာနပသာဒ | ၁၀ |
| ၄။ ဇိဝှါဒသက ။ | ။ ။ ဇိဝှါပသာဒ | ၁၀ |
| ၅။ ကာယဒသက ။ | ။ ။ ကာယပသာဒ | ၁၀ |
| ၆။ ဣတ္ထိဘာဝဒသက ။ | ။ ။ ဣတ္ထိဘာဝရုပ် | ၁၀ |
| ၇။ ပုမ္ဘာဝဒသက ။ | ။ ။ ပုမ္ဘာဝရုပ် | ၁၀ |
| ၈။ ဝတ္ထုဒသက ။ | ။ ။ ဟဒယဝတ္ထု | ၁၀ |
| ၉။ ဇီဝိတနဝက ။ | ။ ။ – | ၉ |

| ရုပ်ကလာပ်စည်းများ | ပါဝင်သောရုပ်များ | |
|---|---|---|
| **စိတ္တဇကလာပ် ၆–စည်း** | | |
| ၁။ သုဒ္ဓဋ္ဌက ကလာပ် | အဝိနိဗ္ဘောဂရုပ် | ၈ |
| ၂။ ကာယဝိညတ္တိနဝက ကလာပ် | ။ +ကာယဝိညတ် ၁ | ၉ |
| ၃။ ဝစီဝိညတ္တိဒသက ကလာပ် | ။ +ဝစီဝိညတ်+သဒ္ဒ | ၁၀ |
| ၄။ လဟုတာဒိကောဒသက ။ | ။ +လဟုတာဒိ ၃ | ၁၁ |
| ၅။ ကာယဝိညတ္တိလဟုတာဒိဒွါဒသက ကလာပ် | ။ +ကာယဝိညတ် လဟု ၃ | ၁၂ |
| ၆။ ဝစီဝိညတ္တိသဒ္ဒလဟုတာဒိတေရသက ကလာပ် | ။ +ဝစီဝိညတ်+သဒ္ဒ+ လဟု ၃ | ၁၃ |
| **ဥတုဇကလာပ် ၄–စည်း** | | |
| ၁။ သုဒ္ဓဋ္ဌက ကလာပ် — အဇ္ဈတ္တ+ ဗဟိဒ္ဓ ၂–ပါး၌ဖြစ် | အဝိနိဗ္ဘောဂ–၈ | ၈ |
| ၂။ သဒ္ဒနဝက ကလာပ် | ။ + သဒ္ဒ | ၉ |
| ၃။ လဟုတာဒိကောဒသက ကလါပ် | ။ +လဟုတာဒိ ၃ | ၁၁ |
| ၄။ သဒ္ဒလဟုတာဒိဒွါဒသက ကလါပ် | ။ +သဒ္ဒ+လဟုတာဒိ ၃ | ၁၂ |

| အာဟာရဇကလာပ် ၂–စည်း | |
|---|---|
| ၁။ သုဒ္ဓဋ္ဌက ကလာပ် | အဝိနိဗ္ဘောဂ–၈ ၈ |
| ၂။လဟုတာဒိကောဒသကကလါပ် | ။ +လဟုတာဒိ ၃ ၁၁ |

**မှတ်ချက်** – ဥတုဇ–၄ စည်းမှ သုဒ္ဓဋ္ဌကနှင့် သဒ္ဒနဝက ၂–စည်းသည် အဇ္ဈတ္တ+ဗဟိဒ္ဓ+ ၂–ပါး၌ ဖြစ်သည်။ ကြွင်း ၁၉–စည်းသည် အဇ္ဈတ္တ၌သာ ဖြစ်၏။

**လင်္ကာ** – ဥတုမူလ၊ နှစ်စည်းမျှ၊ ရသည် ဗဟိဒ္ဓါ၊
နှစ်ဆယ့်တစ်ပင်၊ အဇ္ဈတ်တွင်၊ ကုန်စင်ရထိုက်စွာ။

**ကလာပ်မဖွဲ့ရသောရုပ် ၅–ခု။** ။ အာကာသဓာတ်သည်(အပိုင်းအခြားမျှသာ ဖြစ်၍)
လက္ခဏရုပ် ၄–ခုသည်(မှတ်ကြောင်းမျှသာ ဖြစ်၍) ကလာပ်မဖွဲ့ရပါ။

**ရုပ်ကလာပ်တစ်ခုစီ၏ အင်္ဂါ ၄–မျိုး**

၁။ ဧကုပ္ပါဒ ၂။ ဧကနိရောဓ ၃။ ဧကနိဿယ (တူသောမှီရာရှိ၏)၊
၄။ သဟဝုတ္တိ (တူသောဖြစ်, ချုပ်, မှီရာရှိခြင်းသည် သဟဝုတ္တိ မည်၏)

## ရူပပဝတ္တိက္ကမ (ရုပ်တို့၏ ဖြစ်စဉ်ကို ပြခြင်း)

**ပဋိသန္ဓေ ၄–မျိုး** (ယောနိ ၄–မျိုး)

၁။ သံသေဒဇ = ပဒုံမာကြာ,ဝါးပင်,မန်ကျီးပင်,ရွှံ့ညွှန်,အညှီ,အညစ် အကြေး စသည်တို့၌ စွဲ၍ဖြစ်သော သတ္တဝါ။

၂။ ဥပပါတ် = ကမ္ဘာဦးလူ,နတ်,ပြိတ္တာတို့ကဲ့သို့ ကိုယ်ထင်ရှားဖြစ်သော သတ္တဝါ။

၃။ ဇလာဗုဇ = သားအိမ်၌ ပဋိသန္ဓေတည်သော သတ္တဝါ
၄။ အဏ္ဍဇ = အဥ၌ ပဋိသန္ဓေတည်သော သတ္တဝါ
(၃–၄ ကို) ဂဗ္ဘသေယျက

24
A

ရုပ်သံသရာစက်လည်ပုံကို နောက်ဆက်တွဲ နှာ-၇ ၌ ကြည့်ပါ။

## ဘုံ+ပုဂ္ဂိုလ်အလိုက် ရုပ်ကလာပ်များ ရပုံ

| ဘုံနှင့် ပုဂ္ဂိုလ် သတ္တဝါ | ပဋိသန္ဓေအခါ | ပဝတ္တိအခါ | | | | အပေါင်း |
|---|---|---|---|---|---|---|
| | ကမ္မဇ | ကမ္မဇ | စိတ္တဇ | ဥတုဇ | အာဟာရဇ | |
| ကာမဘုံ၊ သံသေဒဇ သြပပါတိက(ဥက္ကဋ္ဌ) | ၇ | ၇ | ၆ | ၄ | ၂ | ၁၉ |
| အပါယ်-သံသေဒဇ | ၃ | ၃ | ၆ | ၄ | ၂ | ၁၅ |
| အပါယ်သြပပါတိက (သြမက) | ၄ | ၄ | ၆ | ၄ | ၂ | ၁၆ |
| ဂဗ္ဘသေယျက(ဥက္ကဋ္ဌ) | ၃ | ၇ | ၆ | ၄ | ၂ | ၁၉ |
| ဂဗ္ဘသေယျက(သြမက) | ၂ | ၃ | ၆ | ၄ | ၂ | ၁၅ |
| အသညသတ်ကြဉ် ရူပ ၁၅-ဘုံ၌ သြပပါတိက | ၄ | ၄ | ၆ | ၄ | - | ၁၄ |
| အသညသတ်၌ | ၁ | ၁ | - | ၂ | - | ၃ |

### ကာမဘုံအတွက် လင်္ကာ

* ဇီဝကြဉ်ထွေ၊ ကမ္မဇေ၊ သံသေသြပပါ။
* စက်, သော၊ ဃာ+ဘာ၊ ဤ ၄-ဖြာ၊ ရံခါ ချို့ကောင်းစွာ။
* ကာယ, ဘာဝ၊ ဟဒယ၊ ဂဗ္ဘသန္ဓိမှာ။
* နပုံးဖြစ်လျှင်၊ ဘာဝကြဉ်၊ နှစ်ပင်ရသည်သာ။

### ရူပဘုံအတွက်လင်္ကာ

စက်+သော+ဟ+ဇီ၊ ဤလေးလီ၊ ဖြစ်ညီသန္ဓိမှာ။

ဃာ+ဇီ+ကာ+ဘာ၊အာဟာရဇ၊သတ္တကလာပ်၊ကြဉ်စုဒ္ဒသ်၊ရအပ် ရူပမှာ။

### အသညသတ်ဘုံအတွက် လင်္ကာ

သဒ္ဒကြဉ်ပေ၊ ဥ-နှစ်ထွေ၊ ဇီဝေသုံးကလာပ်။

သန္ဓိ+ပဝတ္တိ၊ ဆိုးရိုးသိ၊ မှတ်ဘိ-သညသတ်။

ဥပပါတ်မှာ၊ စုတေခါ၊ ခန္ဓာကြွင်းမရှိ။

ရူပပဝတ္တိက္ကမ၌ ကာမဘုံတွင် ရုပ်ဖြစ်စဉ်ကို ပြရာ၌ ကမ္မဇရုပ်ကလာပ်တို့သည် ပဋိသန္ဓေအခါ၌ **ထိုက်သည့်အားလျော်စွာ(ယထာရဟာ)** ရရှိပြီး ပဝတ္တိအခါ၌ဆိုင်ရာ ကမ္မဇ၊ စိတ္တဇ၊ ဥတုဇ၊ အာဟာရဇ ရုပ်ကလာပ်တို့သည် မယုတ်မလျော့ ကုန်သည်ဖြစ်၍ ရအပ်ကုန်၏။ (ဇယားတို့ကို ကြည့်ပါလေ)

ပဋိသန္ဓေအခါ ကမ္မဇရုပ်ကလာပ်များ ယောကျ်ားမိန်းမတို့၌ ချို့ကောင်း, မချို့ကောင်းသည် အားလျော်စွာ ရရှိသည်။ ပဝတ္တိအခါဆိုင်ရာ ကမ္မဇ၊ စိတ္တဇ၊ ဥတုဇ၊ အာဟာရဇရုပ်ကလာပ်တို့ အပြည့်အစုံရကြသည်ကို တွေ့ရမည်။

ပဋိသန္ဓေအခါ ကာမဘုံသား သံသေဒဇ ဩပပါတိက သတ္တဝါတို့အတွက် (ဥက္ကဋ္ဌ=အများဆုံး=အလွန်ဆုံး ရနိုင်သော ရုပ်ကလာပ်များမှာ ကမ္မဇကလာပ် ၉-စည်းတွင်-

၁။ ဇီဝိတနဝကကလာပ်နှင့်၊ ၂။ (မိန်းမဖြစ်လျှင် ပုံဘာဝဒသကကလာပ်၊ ယောကျ်ားဖြစ်လျှင် ဣတ္ထိဘာဝဒသကကလာပ် တစ်ခုခုမရ)ငင်းကလာပ် ၂-ခုကြဉ် ကမ္မဇကလာပ် ၇-စည်း ရသည်။

**ဇီဝကြဉ်ထွေ၊ ကမ္မဇေ၊ သံသေ+ဩပပါ။**

ဖော်ပြပါ ဘုံပုဂ္ဂိုလ်တို့အတွက် ပဋိသန္ဓေအခါ(ဩမက=အနည်းဆုံး =အယုတ်ဆုံး ရနိုင်သော ရုပ်ကလာပ်များမှာ-

ဩပပါတိကသတ္တဝါတို့သည် ရုံခါ စက္ခု၊ သောတ၊ ဘာဝတို့ ချို့သည်ဖြစ်၍ ကမ္မဇ-၄-စည်းသာရ၏။ ကာမဓာတုယံ ပန အဃာနကော ဩပပါတိကောနတ္ထိ၊ (အာယတနယမိုက်-၄-၂၅၇-၁၆) ။ သံသေဒဇသတ္တဝါတို့သည် ရုံခါ စက္ခု၊ သောတ၊ ဃာန၊ ဘာဝတို့ ချို့သဖြင့် ကမ္မဇ ၃-စည်းသာရနိုင်သည်။

**စက်+သော+ဃာ+ဘာ၊ ဤလေးဖြာ ရံခါချို့ကောင်းစွာ။**

ကာမဘုံ၌ ဇလာဗုဇနှင့် အဏ္ဍဇတည်းဟူသော ဂဗ္ဘသေယျကသတ္တဝါတို့မှာ ပဋိသန္ဓေခဏ၌။ ၁။ ကာယဒသကကလာပ်နှင့်၊ ၂။ မိန်းမ

ဖြစ်က ဣတ္ထိဘာဝဒသကကလာပ်၊ ယောကျ်ားဖြစ်လျှင် ပုံမ္ဘာဝဒသက ကလာပ်၊ ၃။ ဝတ္ထုဒသကကလာပ်-ဤ ကမ္မဇ ၃-စည်း ဖြစ်ကုန်၏။

**ကာယ+ဘာဝ၊ ဟဒယ၊ ဂဗ္ဘသန္ဓိမှာ။**

နပုံးသတ္တဝါတို့မှာ ပဋိသန္ဓေခဏ၌ ၁။ ကာယဒသကကလာပ်နှင့်၊ ၂။ ဝတ္ထုဒသကကလာပ် ဤကမ္မဇ ၂-စည်းသာ ရ၏။

**နပုံးဖြစ်လျှင်၊ ဘာဝကြဉ်၊ နှစ်ပင်ရသည်သာ။**

ဂဗ္ဘသေယျကသတ္တဝါတို့မှာ ပဋိသန္ဓေအခါ ကမ္မဇကလာပ် ၃-စည်း = ရုပ်ပေါင်း ၃၀-တို့သည် ပထမသတ္တာဟ-ကလလရေကြည်လေးအဖြစ် (၇)ရက် ကြာ၏။

ကလလရေကြည်လေး၏ပမာဏကို- အကြိမ်တစ်ရာခန့်ချက်ပြီးသော အလွန်ကြည်လင်သန့်ရှင်းသည့်ထောပတ်ဆီကြည်ထဲသို့ မြောက်ကျွန်းသူတို့၏ ဆံပင်ကိုနှစ်၍ဆွဲထုတ်လိုက်သောအခါ ကပ်၍ပါလာသောထောပတ်ဆီကြည် ကလေးမျှပမာဏရှိသည်ဟုဆို၏။

(ကျမ်းဂန်တို့၌ ဥပမာအမျိုးမျိုးပေးကြသေး၏။)

ဒုတိယ သတ္တာဟ-အမြှုပ်အဖြစ် (၇)ရက် ကြာ၏။

တတိယ သတ္တာဟ-အခဲအဖြစ် (၇)ရက် ကြာ၏။

စတုတ္ထ သတ္တာဟ-သားတစ်အဖြစ် (၇)ရက် ကြာ၏။

ပဉ္စမ သတ္တာဟ-ခက်မငါးဖြာ (အဖုလေးငါးခု) ဖြစ်ပေါ်လာချိန် (၇)ရက် ကြာ၏။

ဆဋ္ဌမ,သတ္တမ, အဋ္ဌမ, နဝမ, ဒသမ (သတ္တာဟ ငါးခု၊ ခုနစ်ရက် ငါးလီ)သည် ခက်မငါးဖြာ၏ ရင့်ကျက်ချိန် ဖြစ်သည်။

လင်္ကာ = ရေ+မြှုပ်+ခဲ+တစ်၊ ခက်မဖြစ်၊ ရင့်လစ်ငါးသတ္တာ။
စက်၊ သော၊ ဃာ၊ ဇိ ဤလေးလီ ဖြစ်ပြီ ဆယ့်တစ်မှာ။

ကောဒသမသတ္တာဟ (ဆယ့်တစ်သတ္တာဟ)တွင် စက္ခုဒသက ကလာပ်၊ သော၊ ဃာ၊ ဇိဝှါဒသကကလာပ် ဤကမ္မဇကလာပ် ၄-စည်းတို့

တစ်ပြိုင်နက် စတင်ဖြစ်လာကြကုန်၏။ (ဤလင်္ကာများသည် မူလဋီကာဆရာ၏ အလိုဖြစ်သည်။)

(ကထာဝတ္ထုအဋ္ဌကထာ၌ ရင့်ကျက်ချိန်ကို ဆဋ္ဌမသတ္တာဟ တစ်ခုသာ ယူ၍ သတ္တမသတ္တာဟတွင် စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါတို့ ဖြစ်သည်-ဟု ဆိုသည် ဋီကာကျော်ဆရာလည်း ကထာဝတ္ထုအတိုင်း ယူလေသည်။)

**ကာမဘုံပဝတ္တိကား** မခက်တော့ပြီ ပဝတ္တိသံသေဒဇ ဩပပါတိက ဂဗ္ဘသေယျကတို့အတွက် ဩမက၌ သုံးပါးမှာ- ကာယဒသကကလာပ်၊ ဝတ္ထုဒသကကလာပ်၊ ဇိဝှါဒသကကလာပ်၊ ကမ္မဇကလာပ်သုံးစည်း ဖြစ်သည်။

(ဇိဝှါဒသကကား-ပဝတ္တိအခါ ချို့သည်ဟူ၍ မရှိစကောင်း ပဋိသန္ဓေအခါ၌ မဖြစ်သေး၍ မရခြင်းသာ ဖြစ်သည်။)

**ရူပဘုံ၊ ပဋိသန္ဓေအခါ**

စက်+သော+ဟ၊ ဇီ၊ ဤလေးလီ၊ ဖြစ်ညီသန္ဓိမှာ။

**ပဝတ္တိအခါ**

ဃာ+ဇီ+ကာ+ဘာ၊ အာဟာရဇ၊ သတ္တကလာပ်၊ ကြဉ်စုဒ္ဒသ်၊ ရအပ်ရူပမှာ။

ရူပဘုံ၌ (ဃာနဒသကကလာပ်၊ဇိဝှာဒသကကလာပ်၊ ကာယဒသကကလာပ်၊ ဘာဝဒသကကလာပ် ၂-စည်း၊ အာဟာရဇကလာပ် ၂-စည်း၊ ဤကလာပ် ၇-စည်းကို ကြဉ်၍ ကြွင်းသော) ကမ္မဇကလာပ် ၄-စည်း၊ စိတ္တဇကလာပ် ၆-စည်း၊ ဥတုဇကလာပ် ၄-စည်း၊ ပေါင်း ၁၄-စည်း ရရှိသည်။

(ရူပဗြဟ္မာသည် ကာမဝိရာဂ ဘာဝနာဖြင့် (ကာမဂုဏ်အာရုံ၌ တပ်ခြင်းကင်းသော ဘာဝနာဖြင့်) ပယ်ထားပြီးဖြစ်၍ ကာမဂုဏ်အာရုံ ခံစားမှုအတွက်သာ အသုံးကျသော ဃာ၊ ဇိ၊ ကာယ၊ ဘာဝတို့ မဖြစ်

ကြကုန်။ ပြဟ္မာများမှာ ဗဟိဒ္ဓအာဟာရ ဩဇာကို မစားတော့သဖြင့် အာဟာရဇရုပ်လည်း မဖြစ်ကြတော့။)

**အသညသတ်ဘုံ၌၊ ပဋိသန္ဓေအခါ = ဇီဝိတနဝကကလာပ်တစ်ခုသာ ရသည်။**

ပဝတ္တိအခါ၌ = ဇီဝိတနဝက ကမ္မဇကလာပ် ၁-စည်း၊ သဒ္ဒ မပါဝင်သော ဥတုဇ ၂-စည်း၊ ပေါင်း ၃-စည်းရသည်။

(အသညသတ်ပြဟ္မာသည် ရုပ်သက်သက် ပြဟ္မာဖြစ်သည်။ နာမ်၌ တပ်ခြင်းကင်းသော(အရူပဝိရာဂ) ဘာဝနာအစွမ်းကြောင့် စိတ်၊ စေတသိက်များ မရှိတော့၍ စိတ္တဇရုပ်လည်းမရှိ၊ စိတ္တဇသဒ္ဒများလည်း မရှိ၊ ဗဟိဒ္ဓ အာဟာရလည်း မစား၍ အာဟာရဇရုပ်လည်း မရ၊ ရုပ်ပဋိသန္ဓေအတွက် ဇီဝိတနဝကကလာပ် ၁-စည်းသာ ရတော့သည်။

**လင်္ကာ = သဒ္ဒကြဉ်ပေ၊ ဥ-နှစ်ထွေ၊ ဇီဝေသုံးကလာပ်။**
**သန္ဓိ ပဝတ္တိ၊ ဆိုရိုးသိ၊ မှတ်သိ သညသတ်။**

| ဘုံဌာနအားဖြင့် ရသောရုပ် | မရသောရုပ် | သရုပ် |
|---|---|---|
| ကာမဘုံ၌ ၂၈-ပါးလုံးရ၏။ | မရှိ | |
| အသညသတ်ကြဉ် ရူပဘုံ၌ ၂၃-ပါး ရ၏။ | ၅ | ဃာ+ဇိ+ကာ+ဘာဝ ၂-ပါး ပေါင်း ၅-ပါးမရ(ကာမဝိရာဂ ဘာဝနာအစွမ်းကြောင့်) |
| အသညသတ်ဘုံ၌ ၁၇-ပါး ရ၏ | ၁၁ | ဇီဝတကြဉ်ကမ္မဇကောန် ၈-ပါး +သဒ္ဒ+ဝိညတ်ရုပ် ၂-ပါးတို့မရ (အရူပဝိရာဂဘာဝနာအစွမ်းဖြင့်) |
| အရူပဘုံ၌ ရုပ်တစ်ပါးမျှမရ | ၂၈ | (ရူပဝိရာဂဘာဝနာအစွမ်းကြောင့်) |

အသညတ်သတ်ဘုံ၌ ရုပ်ရလင်္ကာ-အဝိနိဗ္ဘောဂ၊ ဇီဝိတနှင့်၊ သုံးဝလဟု၊ **တာဒိရှု၍၊စတုလက္ခဏာ၊အာကာသာ၊ ပေါင်းပါ ဆယ့်ခုနစ်။**

| အခါအားဖြင့်ရသောရုပ် | မရသောရုပ် | သရုပ် |
|---|---|---|
| ပဋိသန္ဓေအခါရသောရုပ်-၂၀ | ၈ | သဒ္ဒ၊ဝိကာရ ၅၊ ဇရတာအနိစ္စတာတို့မရ |
| ပဝတ္တိအခါ ရသောရုပ် -၂၈ | - | |
| စုတိအခါ ရသောရုပ်-၂၁ | ၇ | သဒ္ဒ၊ ဝိကာရ-၅၊ ဥပစယတို့မရ |

ကာမ = ကာမဘုံ၊ ကာမအာရုံ၊
ဝိရာဂ = တပ်ခြင်းကင်းသော၊
ဘာဝနာ = ပွားများမှု၊
ရူပ = ရုပ်တရား၊
အရူပ = နာမ်တရား၊

## နိဗ္ဗာန် (နိ+ဝါန)ဟူသည်

၁။ (နိ=မရှိ၊ ဝါန=တဏှာ) တဏှာမရှိရာ၊ တဏှာကုန်ရာ တရား။
၂။ လောကကို လွန်မြောက်သော လောကုတ္တရာတရား။
၃။ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်တို့ဖြင့် မျက်မှောက်ပြုအပ်သောတရား။
၄။ မဂ်+ဖိုလ်တို့၏ အာရုံဖြစ်သောတရား။

### ကာရဏာပရိယာယ

### မှတ်သားအပ်သောအကြောင်း ပရိယာယ်အားဖြင့် ၂—ပါးပြား

၁။ သဥပါဒိသေသနိဗ္ဗာန်(လောဘစသော ကိလေသာတရားတို့ ငြိမ်းအေးသောနိဗ္ဗာန်၊ ဝိပါက်ကမ္မဇရုပ် ခန္ဓာငါးပါးအကြွင်းရှိနေသေး)
၂။ အနုပါဒိသေသနိဗ္ဗာန်၊ (ကိလေသာတရားတို့နှင့် ခန္ဓာငါးပါးတို့လုံးဝအကြွင်းမရှိ ငြိမ်းအေးသောနိဗ္ဗာန်)

**အာကာရ ပရိယာယ= အခြင်းအရာအားဖြင့် ၃–ပါးပြား**

၁။ ရာဂ+ဒေါသ+မောဟတို့နှင့်တကွ ရုပ်နာမ်အားလုံး ဆိတ်သုဉ်းနေပုံ အခြင်းအရာကို စွဲမှတ်၍ ခေါ်ရသော သုညတနိဗ္ဗာန်၊

၂။ နိမိတ်ပုံသဏ္ဌာန်၊ အစိုင်အခဲမရှိပုံ အခြင်းအရာကို စွဲမှတ်၍ခေါ်ရသော အနိမိတ္တနိဗ္ဗာန်၊

၃။ ပူဆာ တောင့်တသော တဏှာမရှိပုံ အခြင်းအရာကို စွဲမှတ်၍ ခေါ်ရသော အပ္ပဏိဟိတနိဗ္ဗာန်။

## နိဗ္ဗာန်၏ အဓိပ္ပာယ်နှင့် နိဗ္ဗာန်၏ ပရိယာယ်ဂုဏ်ပုဒ်များ

အစ္စုတံ = သေခြင်းမရှိသောတရား၊

အစ္စန္တံ = စုတိခြင်းအဆုံးကို လွန်သောတရား၊

အသင်္ခတံ = ကံ+စိတ်+ဥတု+အာဟာရအကြောင်းတရားလေးပါးတို့ မပြုပြင်အပ်သောတရား။

အနုတ္တရံ = မိမိထက် လွန်မြတ်သောတရားမရှိ အမြတ်ဆုံးဖြစ်သော တရား၊

ပဒံ = အရိယာပုဂ္ဂိုလ်တို့သာ အာရုံပြုသောအားဖြင့် ရောက်အပ်သည့် သန္တိလက္ခဏာ(အငြိမ်းဓာတ်သဘောတရား) တစ်မျိုးကို တဏှာမှ လွတ်တော်မူကြကုန်ပြီးသော ဘုရားရှင်တို့က "နိဗ္ဗာန်"ဟူ၍ ဟောတော်မူခဲ့ကြပေသည်။

လင်္ကာ – အစ္စု+အစ္စန်၊ အသင်္ခနှင့်၊ အနုတ္တရံ+ပဒံ၊ ဤငါးတန်၊ မှတ်ရန်သဂြိုဟ်ကျမ်းလာ နိဗ္ဗာန်တည်း။

## နိဗ္ဗာန်သို့ ရောက်ခြင်းနှင့် ရောက်ရာကာလ

နိဗ္ဗာန်သို့ ယာဉ်ဖြင့်သွား၍ ရောက်ခြင်းလည်း မဟုတ်၊ ခြေဖြင့်သွား၍လည်း ရောက်ခြင်းမဟုတ်၊ လာ၍လည်း ရောက်ခြင်းမဟုတ်၊ သွား၍လည်း ရောက်ခြင်း မဟုတ်၊ ပဋိသန္ဓေနေသောအားဖြင့်လည်း သွားရောက်ရာမဟုတ်၊ နိဗ္ဗာန်သည် သွားအပ်သည့် (ဂန္တဗ္ဗ)တရားလည်းမဟုတ်၊ ရောက်အပ်သည့် (ပတ္တဗ္ဗ)တရားလည်း

**မျက်မှောက်အာရုံပြုသောအားဖြင့် ရောက်အပ်သိအပ်သောတရားသာ** ဖြစ်သည်။

မျက်မှောက် အာရုံပြုသောအားဖြင့် ရောက်အပ် သိအပ်သော အချိန်ကား ဘယ်အချိန်ပါနည်း-

**ဂေါတြဘူဉာဏ်၊ မဂ်ဉာဏ်၊ နိဗ္ဗာန်ကို ဆင်ခြင်သော ပစ္စဝေက္ခဏာဉာဏ်၊ နိဗ္ဗာန်ကို အောက်မေ့သောပုဗ္ဗေနိဝါသာနုဿတိအဘိညာဏ်၊ ဝင်စားအပ်သော ဖိုလ်စိတ်များဖြစ်ရာ အချိန်ကာလ၌သာ အာရုံပြုသောအားဖြင့်** နိဗ္ဗာန်သို့ ရောက်ပါသည်။

## နိဗ္ဗာန်ချမ်းသာ

**နိဗ္ဗာနတော လဒ္ဓံသုခံ နိဗ္ဗာနသုခံ** နိဗ္ဗာနာရမ္မဏကရဏတော၊ နိဗ္ဗာန်ကို အာရုံပြုခြင်းကြောင့်။ လဒ္ဓံ၊ ရအပ်သော။ သုခံ၊ ချမ်းသာတည်း၊ နိဗ္ဗာနသုခံ၊ နိဗ္ဗာန်ကို အာရုံပြုခြင်းကြောင့် ရအပ်သောချမ်းသာ။ ဤသို့ မဂ်ဉာဏ်, ဖိုလ်ဉာဏ် ဖြင့် နိဗ္ဗာန်ကို အာရုံပြုခြင်းကြောင့် အဆက်ဆက်အားဖြင့် ရအပ်သော ဝဋ်ဆင်းရဲ ဟူသမျှတို့၏ ကုန်ဆုံးငြိမ်းအေးခြင်းဟူသော **ဥပသမ** ချမ်းသာသည်သာလျှင် နိဗ္ဗာန် ချမ်းသာမည်၏။

ကုသိုလ်, အကုသိုလ်ကျိုး မရှိ၊ ဝဋ်ဒုက္ခအကုန် ငြိမ်းသဖြင့် နိဗ္ဗာန်သည် ဘာမျှမရှိသော တရားမျိုးမဟုတ်၊ သန္တိလက္ခဏာ အငြိမ်းမာတ် တရားမျိုးကား ရှိမြဲရှိလျှက်သာ ဖြစ်လေသည်။

နိဗ္ဗာန်တရားသည် သိမ်မွေ့၏၊ ပုထုဇဉ်တို့သည် မှန်းဆ၍သာ သိနိုင်၏။ မျက်မှောက်ပြုသောအားဖြင့် မသိနိုင်သဖြင့် အမျိုးမျိုး ပြောဆို၍ အမျိုးမျိုးထင်မြင်ကြ၏။ **နိဗ္ဗာန်ကို တကယ် သိမြင်နိုင်သည်မှာ မဂ်+ဖိုလ်တရားတို့၏ရှေ့ ဂေါတြဘူ- တံခါးဝရောက်မှသာ နိဗ္ဗာန်ကို တကယ် လှမ်းမြင်နိုင်မည် ဖြစ်၍** မဂ်-ဖိုလ်တရားတို့ကို ရရှိအောင် ဘုရားရှင်ဟောကြားခဲ့၍ **ဝိပဿနာ အလုပ်ကို လက်တွေ့ ကြိုးစားအားထုတ်ခြင်းသည်သာ နိဗ္ဗာန်ကို သိမြင်နိုင်ရေး အကောင်းဆုံးနည်းလမ်း ဖြစ်ပေသည်။**

**ရုပ်ပိုင်းပြီး၏။**



*****

* ဇာတိ, ဇရာ၊ မရဏာ၊ မကြာ နင်တွေ့မည်။
* မျက်တောင်တစ်ရှက်၊ လျှပ်တစ်ပြက်၊ နင့်သက်သေလိမ့်မည်။
* ဘယ်နှစ် ဘယ်လ၊ ရောက်ပါမှ၊ ကာလမရွေးပြီ။
* ကြီးငယ်မဟူ၊ ကိုယ့်ရွယ်တူ၊ ခုမူ သေလှပြီ။
* အမှန်သေရိုး၊ ထိုလူမျိုး၊ ကြောက်စိုးရွံ့သင့်ပြီ။
* မသွင်းနှလုံး၊ အထင်ရှုံး၊ ပျက်ပြုန်းလှလေပြီ။
* ခန္ဓာကြွေလျော၊ ရှိပြန်သော၊ ပူဇောလောင်လှပြီ။
* သွားကျိုးဆံဖြူ၊ ရှိပြန်မူ၊ ဘယ်သူမကြောက်ပြီ။
* ဤသည်မယား၊ ဤသည်သား၊ မိုးပွားမှန်တော့သည်။
* ခယ+ဝယ၊ ဘိဋ္ဌန၊ ပျက်ကြလှလေပြီ။
* အပိယေဟိ၊ ပိယေဟိ၊ ဒုက္ခကြုံလေပြီ။
* ဒုက္ခထွေထွေ၊ တပေပေ၊ ခံနေရလေပြီ။
* နိဗ္ဗာန်သာခေါင်၊ ဘေးမဲ့သောင်၊ ရောက်အောင်ပြုသင့်ပြီ။
* မပြုပါဘဲ၊ နင်ရှောင်လွှဲ၊ နင်ဘဲမိုက်လှပြီ။
* ယုတ္တိယုတ္တာ၊ နင်ဆင်ကာ၊ နင်သာဟန်များသည်။
* ဘုရားသွားသွား၊ ကျောင်းသွားသွား၊ စိတ်ထားနင်မကြည်။
* ဒါနသီလာ၊ နင်ပြုကာ၊ စေတနာဇောမကြည်။
* သို့ပင်ပြုလို၊ နင့်ကုသိုလ်၊ ဘယ်ကိုပေးလိမ့်မည်။
* လောကုတ္တရာ၊ မြိုက်သြဇာ၊ နင်သာဝေးလှသည်။
* ဇောစိတ်သန့်သန့်၊ ကုသိုလ်မှန်၊ နင်ကြံပြုရမည်။
* သို့ပြုမှသာ၊ ပြည်ခေမာ၊ နင်သာနီးရမည်။
* ဤသို့စုံစေ့၊ ပြန်လှန်၍၊ စေ့စေ့နှလုံးတည်။
* အနမတဂ္ဂ၊ သံသာရ၊ ကြာလှလေကုန်ပြီ။
* ဂင်္ဂါဝါလု၊ ပမာပြု၊ သဲစုမကပြီ။
* တဏှာ၏နောက်၊ တကောက်ကောက်၊ လိုက်ထောက်မသင့်ပြီ။
* တဏှာမြစ်ခ၊ ပင်လယ်ဝ၊ နစ်ကြလေကုန်ပြီ။
* တဏှာလည်းပွား၊ ဒုက္ခများ၊ သွား၍မဆုံးပြီ။
* တဏှာပို့တင်၊ ပါယ်လေးခွင်၊ လျင်စွာရောက်လေပြီ။
* သေမင်းနိုင်ငံ၊ အဖန်ဖန်၊ လိုက်ပြန်ရလေပြီ။
* ဝေဘူတောင်မျှ၊ ပမာမြ၊ အရိုးမကပြီ။
* စ်တုံပေါ်တုံ၊ သုံးပါးဘုံ၊ ကြုံရလှလေပြီ။
* ချမ်းသာမငွေ့၊ ဆင်းရဲတွေ့၊ ငြီးငွေ့လှလေပြီ။
* နိဝရဏ၊ ဆည်းထားကြ၊ လမ်းစမဆုံးပြီ။

## သမုစ္စည်းပိုင်း(သမုစ္စယ)

### ယှဉ်ထိုက်သလို သဘောတူရာတရားတို့ကို ပေါင်း၍ဖော်ပြသော အခန်း

**ပရမတ္ထတရားကိုယ်– ၇၂ပါး**

စိတ် ၁+စေတသိက် ၅၂ + နိပ္ဖန္နရုပ် ၁၈ + နိဗ္ဗာန်၁ = ၇၂ ၎င်း ၇၂–ပါးသည်–

၁။ **သလက္ခဏ** = ကိုယ်ပိုင်သဘာဝလက္ခဏာ အသီးသီးရှိကြ၏။

၂။ **ဝတ္ထုဓမ္မာ** = ပရမတ် အလိုအထည်ကိုယ်လည်း ရကောင်း၏။

**(အနိပ္ဖန္နရုပ် ၁၀–ပါးသည် သလက္ခဏာရကောင်းသော်လည်း၊ ဝတ္ထုဓမ္မာ မရကောင်း၍ ချန်ထားသည်)**

### သမုစ္စယ သင်္ဂဟ ၄–မျိုး

| | |
|---|---|
| **အကုသလသင်္ဂဟ** | အကုသိုလ်တရားတို့ကို ပေါင်းစုရေတွက်ပြခြင်း |
| **မိဿကသင်္ဂဟ** | ကုသိုလ်၊ အကုသိုလ်၊ အဗျာကတ၊ ရောနှော ရေတွက်ပြခြင်း |
| **ဗောဓိပက္ခိယသင်္ဂဟ** | မဂ်ဉာဏ်၏အသင်းအပင်းတရားတို့ကို စုပေါင်း ရေတွက်ပြခြင်း |
| **သဗ္ဗသင်္ဂဟ** | စိတ်၊ စေ၊ ရုပ်၊ နိဗ္ဗာန်တရားအားလုံး သိမ်းကျုံး ရေတွက်ပြခြင်း |

### အကုသလသင်္ဂဟ(ပါပသင်္ဂဟ)

**အာသဝ ၄–ပါး** (ယိုစီးတတ်၊ ကြာမြင့်စွာ ထုံအပ်သောအရက်ကဲ့သို့ ယစ်မူးစေတတ်သောတရား)

| အမည် | အဓိပ္ပာယ် | တရားကိုယ်အရကောက် |
|---|---|---|
| ကာမာသဝ | ကာမဘုံ၊အာရုံငါးပါး၌ ယစ်မူးခြင်း | လောဘမူ–၈ ၌ လောဘ) |

| | | |
|---|---|---|
| ဘဝါသဝ | ရူပ,အရူပဘုံ၊ အကျိုးတရား၌ ယစ်မူးခြင်း | ဒိဋ္ဌိ-ဝိ-၄ ၌ (လောဘ) |
| ဒိဋ္ဌာသဝ | မှားသောအားဖြင့် ရှုမြင်၍ ယစ်မူးခြင်း | ဒိဋ္ဌိ-သံ-၄ ၌ (ဒိဋ္ဌိ) |
| အဝိဇ္ဇာသဝ | သစ္စာ ၄-ပါး မသိ၍ ယစ်မူးခြင်း | အကု-၁၂ ၌ (မောဟ) |

**ဩဃ-၄ပါး** (ဝဲဩဃကဲ့သို့ အတင်း နှစ်သတ်တတ်သောတရား သတ္တဝါတို့ကို သံသရာဝဋ်မှ မထွက်နိုင်အောင် အတင်း နှစ်ထားသောတရား)

| | | |
|---|---|---|
| ကာမောဃ | ကာမတဏှာ ဝဲဩဃ ရေပြင်ကြမ်း | ။ (လောဘ) |
| ဘဝေါဃ | ဘဝတဏှာ ဝဲဩဃ ရေပြင်ကြမ်း | ။ (လောဘ) |
| ဒိဋ္ဌောဃ | အယူမှားမှု ဝဲဩဃ ရေပြင်ကြမ်း | ။ (ဒိဋ္ဌိ) |
| အဝိဇ္ဇောဃ | မသိမိုက်မဲမှု ဝဲဩဃ ရေပြင်ကြမ်း | ။ (မောဟ) |

**ယောဂ ၄-ပါး** (နွားကို ထမ်းပိုး၌ ယှဉ်တပ်ထားသကဲ့သို့၎င်း၊ အရာဝတ္ထု ၂-ခုကို ဖွဲ့,ပူး,ရစ်,ပတ်,ချုပ်စပ် ထားသကဲ့သို့၎င်း၊ သတ္တဝါတို့ကို သံသရာဝဋ်၌ ဖွဲ့စည်း,ပူးကပ်,ချုပ်စပ်ထားသောတရား)

| | | |
|---|---|---|
| ကာမယောဂ | ကာမတဏှာဖြင့်ယှဉ်စပ်ထားခြင်း | ။(လောဘ) |
| ဘဝယောဂ | ရူပ,အရူပဘဝတဏှာဖြင့်ယှဉ်စပ်ထားခြင်း | ။(လောဘ) |
| ဒိဋ္ဌိယောဂ | အမြင်မှားခြင်းဖြင့်ယှဉ်စပ်ထားခြင်း | ။(ဒိဋ္ဌိ) |
| အဝိဇ္ဇာယောဂ | မသိမိုက်မဲမှုဖြင့် ယှဉ်စပ်ထားခြင်း | ။(မောဟ) |

**ဂန္ထ ၄-ပါး** (ကြိုးထုံး၊ သံကွင်းဆက်တို့ကဲ့သို့ သတ္တဝါတို့ကို သံသရာဝဋ်၌ စည်းနှောင်ထုံးချည်ထားသောတရား)

| | | |
|---|---|---|
| အဘိဇ္ဈာကာယဂန္ထ | အလိုဆိုးလောဘဖြင့် ထုံးချည်ထားခြင်း | လောဘ |
| ဗျာပါဒကာယဂန္ထ | ဒေါသဖြင့်ထုံးချည်ထားခြင်း | ဒေါသ |
| သီလဗ္ဗတပရာမာသကာယဂန္ထ | မှားသောအလေ့အကျင့် ဒိဋ္ဌိဖြင့်ထုံးချည်ထားခြင်း | ဒိဋ္ဌိ |
| ဣဒံသစ္စာဘိနိဝေသကာယဂန္ထ | မိမိဝါဒအမှားကို အမှန်ဟု စွဲယူသဖြင့်ထုံးချည်ထားခြင်း | ဒိဋ္ဌိ |

**ဆောင် = အလေ့ = သီလ၊ ဝတ = ကျင့်မှု၊ နွားခွေးတူ၊ အယူဝိသုဒ္ဓိ၊ (သီလဗ္ဗတ)**

**ဤသာမှန်လှ၊ ဤမှတစ်ပါး၊ အကုန်မှား၊ စွဲငြားဣဒံဘိ၊**

**ဥပါဒါန် ၄-ပါး** (ဖားကို မြွေငန်း၊ မြဲစွာ ဖမ်းသို့၊ စွဲလန်းသမှု၊ အာရုံပြု၊ ဥပါဒါန်ဟုခေါ်)

| | | |
|---|---|---|
| ကာမုပါဒါန် | လိုချင်မှုလောဘ အစွဲအလန်း | လောဘ |
| ဒိဋ္ဌုပါဒါန် | အမြင်မှား ဒိဋ္ဌိအစွဲအလန်း | ဒိဋ္ဌိ |
| သီလဗ္ဗတုပါဒါန် | အလေ့မှား၊ အကျင့်မှား အစွဲအလန်း | ဒိဋ္ဌိ |
| အတ္တဝါဒုပါဒါန် | မိမိအယူမှားကြီးကိုသာ အမှန်ဟု စွဲလန်းခြင်း | ဒိဋ္ဌိ |

**နီဝရဏ ၆-ပါး (တားဆီးကန့်ကွက်၊ ပိတ်ပင်ဖျက်၊ အနက်နီဝရဏံ** ဆိုသည့်အတိုင်း ကုသိုလ်တရား၊ ဈာန်တရားတို့ကို တားဆီးပိတ်ပင်သော တရား)

| | | |
|---|---|---|
| ကာမစ္ဆန္ဒနီဝရဏ | ကာမချမ်းသာလိုချင်မှု အပိတ်အပင် | လောဘ |
| ဗျာပါဒနီဝရဏ | ဒေါသ အပိတ်အပင် | ဒေါသ |
| ထိန၊ မိဒ္ဓ၊ နီဝရဏ | ထိုင်းမှိုင်းမှု ။ | ထိန၊မိဒ္ဓ |
| ဥဒ္ဓစ္စ၊ ကုက္ကုစ္စနီဝရဏ | ပျံ့လွင့်ခြင်း၊နောင်တရခြင်း။ | ဥဒ္ဓစ္စ၊ ကုက္ကုစ္စ |
| ဝိစိကိစ္ဆာနီဝရဏ | ယုံမှားသံသယ ။ | ဝိစိကိစ္ဆာ |
| အဝိဇ္ဇာနီဝရဏ | မသိနားမလည်မှု ။ | မောဟ |

**ဆောင်= ကာမစ္ဆန္ဒ၊ ဗျာပါဒ၊ ထိန၊ မိဒ္ဓမှန်၊ ဥဒ္ဓစ်၊ ကုက္ကု၊ ဝိ,ဝိဇ်စု၊ ခြောက်ခုနီဝရဏ်။**

**အနုသယ ၇–ပါး (အစဉ်စွဲကပ်၊ ငုပ်ကိန်းဝပ်၊ မျိုးစေ့တတ်နုသယ်)**

| | | |
|---|---|---|
| ကာမရာဂါနုသယ | ကာမဂုဏ်ကို တပ်မက်သော လောဘမျိုးစေ့စေတတ် | လောဘ |
| ဘဝရာဂါနုသယ် | ရူပ,အရူပဗြဟ္မာဘဝကိုနှစ်သက်သော လောဘမျိုးစေ့စေတတ် | လောဘ |
| ပဋိဃာ ။ | ပြစ်မှားကြမ်းတမ်းသောဒေါသမျိုးစေ့စေတတ် | ဒေါသ |
| မာနာ ။ | မာန်မာနထောင်လွှားမှု မျိုးစေ့စေတတ် | မာန |
| ဒိဋ္ဌိ ။ | အမြင်မှားမှု မျိုးစေ့စေတတ် | ဒိဋ္ဌိ |
| ဝိစိကိစ္ဆာ။ | ယုံမှားသံသယမျိုးစေ့စေတတ် | ဝိစိကိစ္ဆာ |
| အဝိဇ္ဇာ ။ | မသိမိုက်မဲမှုမောဟမျိုးစေ့စေတတ် | မောဟ |

**ဆောင် = ကာမ– ဘဝ၊ ပဋိဃ၊ မာနဒိဋ္ဌိမှန်၊ ဝိစိကိစ္ဆာ၊ အဝိဇ္ဇာ၊ သတ္တာနုသယ်။**

(တရားကိုယ်ကောက်နည်း) - ကာမ,ဘဝ၊ ဆိုသမျှ၊ လောဘတရားကိုယ်၊ သီ+က္က+အတ်မှာ၊ ဒိဋ္ဌိသာ၊ ဘိဇ်,ဗျာ-လော,ဒေါဆို။

## (သုတ္တန်နည်း) သံယောဇဉ် ၁၀ပါး

**(ထိပ်+ထောင်+နှောင်ကြိုး၊ အဖွဲ့မျိုး၊ ဖွင့်ရိုးသံယောဇဉ်)**

| ကာမရာဂသံယောဇဉ် | ကာမဂုဏ်၌တပ်မက်မှု နှောင်ကြိုး | လောဘ |
|---|---|---|
| ရူပရာဂ ॥ | ရူပဈာန်နှင့်အကျိုးတရား ၌ တပ်မက်မှုနှောင်ကြိုး | လောဘ |
| အရူပရာဂ ॥ | အရူပဈာန်နှင့်အကျိုး တရား၌ ॥ | လောဘ |
| ပဋိဃ ॥ | ပြစ်မှားသောဒေါသ နှောင်ကြိုး | ဒေါသ |
| မာန ॥ | ထောင်လွှားမှု ॥ | မာန |
| ဒိဋ္ဌိ ॥ | အယူမှားသည့် ॥ | ဒိဋ္ဌိ |
| သီလဗ္ဗတပရာမာသ ॥ | အလေ့အကျင့်မှားသည့် ॥ | ဒိဋ္ဌိ |
| ဝိစိကိစ္ဆာ ॥ | သံသယ ॥ | ဝိစိကိစ္ဆာ |
| ဥဒ္ဓစ္စ ॥ | ပျံ့လွင့်မှု ॥ | ဥဒ္ဓစ္စ |
| အဝိဇ္ဇာ ॥ | မသိမိုက်မဲမှု ॥ | မောဟ |

**ဆောင် = ကာမ+ရူပ၊ အရူပ၊ ရာဂ– ပဋိဃံ၊ မာန်+ဒိဋ္ဌ်+သီ+ဝိ၊ဥဒ် +ဝိဇ္ဇာ၊ ဆယ်လီသံယောဇဉ်၊**

## (အဘိဓမ္မာနည်း) သံယောဇဉ် (၁၀)ပါး

| ကာမရာဂသံယောဇဉ် | ॥ | လောဘ |
|---|---|---|
| ဘဝရာဂ ॥ | ရူပ,အရူပဈာန်နှင့်အကျိုး တရား၌နှစ်သက်မှုနှောင်ကြိုး | လောဘ |
| ပဋိဃ ॥ | ॥ | ဒေါသ |
| မာန ॥ | ॥ | မာန |

| | | |
|---|---|---|
| ဒိဋ္ဌိ သံယောဇဉ် | ။ | ဒိဋ္ဌိ |
| သီလဗ္ဗတပရာမာသ ။ | ။ | ဒိဋ္ဌိ |
| ဝိစိကိစ္ဆာ ။ | ။ | ဝိစိကိစ္ဆာ |
| ဣဿာ ။ | သူတပါးစည်းစိမ်ကို ငြူစူမှုနှောင်ကြိုး | ဣဿာ |
| မစ္ဆရိယ ။ | မိမိစည်းစိမ်ကို ဝန်တိုမှုနှောင်ကြိုး | မစ္ဆရိယ |
| အဝိဇ္ဇာ ။ | ။ | မောဟ |

ဆောင် = ရူ+ရူ+ဥဒ်,ပစ်၊ ဘဝတစ်၊ ဣဿ်+မစ်နည်းတတန် ။
နှစ်ခုပေါင်းတရားကိုယ် ၉-ပါး = လော+ဒေါ+မာ+ဒိဋ္ဌိ၊ ဝိစိကိတ်၊
ဥဒ်+ဣဿ်၊ မစ္ဆရိ + မော။

## ကိလေသာ = ၁၀ ပါး

**(ပူပန်ညစ်ကျုံး နှိပ်စက်မှု၊ ဆယ်ခု ကိလေမှတ်)**

| | | |
|---|---|---|
| လောဘကိလေသာ | ကာမဂုဏ်၌တပ်မက်သည့် ပူပန်မှုအညစ်အကြေး | လောဘ |
| ဒေါသ ။ | ပြစ်မှားကြမ်းတမ်းသည့် ။ | ဒေါသ |
| မောဟ ။ | မသိမိုက်မဲသည့် ။ | မောဟ |
| မာန ။ | ထောင်လွှားသည့် ။ | မာန |
| ဒိဋ္ဌိ ။ | အယူမှားသည့် ။ | ဒိဋ္ဌိ |
| ဝိစိကိစ္ဆာ ။ | ယုံမှားသံသယဖြစ်သည့် ။ | ဝိစိကိစ္ဆာ |
| ထိန ။ | ထုံထိုင်းလေးကန်သည့် ။ | ထိန |
| ဥဒ္ဓစ္စကိလေသာ | ပျံ့လွင့်သည့် ။ | ဥဒ္ဓစ္စ |
| အဟိရိက ။ | အရှက်မရှိသည့် ။ | အဟိရိက |
| အနောတ္တပ္ပ ။ | အကြောက်အလန့်မရှိသည့် ။ | အနောတ္တပ္ပ |

**ဆောင်** = ဟိတ်ကြီးတို၊ မာန်+ ဒိဋ္ဌိ+ ဝိ၊ ထိ + ဥဒ်+ ဟိ+ နောတ္တပ်။
ပူပန်ညစ်ကျု၊ နှိပ်စက်မှု၊ ဆယ်ခုကိလေမှတ်။

**တစ်ထောင့်ငါးရာ ကိလေသာ**

**ဆောင်** = နာမ်တေပည်၊ ရုပ်နိပ္ဖန်၊ လက္ခဏာ ရုပ်လေး၊ (၇၅)
သန္တာန် နှစ်ဝ၊ မြောက်ဆင့်က၊ တစ်ရာ့ငါးဆယ်ရေ (၇၅×၂=၁၅၀)
ဆယ်ကိလေသာ၊ မြောက်ဆင့်ကာ၊ ငါးရာတစ်ထောင်တွေး။
(၁၅၀ × ၁၀=၁၅၀၀)

**ကိလေသာအဆင့် ၃-မျိုး**

(၁) ဝီတိက္ကမကိလေသာ (လွန်ကျူးသည့် ကိလေသာ)
(၂) ပရိယုဋ္ဌာနကိလေသာ (ထကြွဆူပွက်နေသောကိလေသာ)
(၃) အနုသယကိလေသာ (မျိုးဗီဇ ဓာတ်သဖွယ် ကိန်းနေသော ကိလေသာ)

**ဆောင်** = လွန်ကျူး + ဆူပွက်၊ မျိုးမပျက်၊ သုံးချက်ကိလေသာ။

**တဏှာအစစ်၊ တစ်ရာ့ရှစ်**

တဏှာ ၃ တန်၊ တည်ထားပြန်၊ အာ + ကာ + သန်နှင့်မြှောက် (၃×၆=၁၈)
တဏှာအစစ်၊ တစ်ရာ့ရှစ်၊ ဖြစ်၏ကိုယ်မှာရောက် (၁၈×၃=၅၄)
(၅၄×၂=၁၀၈)

(အာ=အာရုံ ၆-ပါး၊ ကာ= ကာလ ၃ ပါး၊ သန်= သန္တာန် ၂-ပါး)

**အကုသလသင်္ဂဟ အချုပ်**

အာ + သြ + ယော+ ဂန်၊ ဥ + နီ- မှန်၊ နု + သံ + ကိ = ကိုးပါး

အကုသလသင်္ဂဟ၌ တရားကိုယ်ယူပုံမှာ-ကာမ၊ ဘဝ၊ ရာဂ၊ အဘိဇ္ဈာ၊ ကာမစ္ဆန္ဒ-အမည်များကို လောဘဟုရင်း ဗျာပါဒ၊ ပဋိဃ၊ အမည်များကို ဒေါသဟုရင်း သီလဗ္ဗတပရာမာသ၊ ဣဒံသစ္စာဘိနိဝေသ၊ အတ္တဝါဒုပါဒါန် အမည်များကို ဒိဋ္ဌိဟုရင်း တရားကိုယ်ကောက်ပါ။ (ကျန်အမည်များ ထင်ရှားပြီ။)

## မိဿကသင်္ဂဟ (ကု+အကု+အဗျာကတ၊ ရောရာအခန်း)

### ဟိတ် ၆-ပါး

(ရေသောက်မြစ်နှယ်၊ ကျေးဇူးကြွယ်၊ ခြောက်သွယ်ကြောင်းရင်းများ)

| | | |
|---|---|---|
| လောဘဟိတ် | ကာမဂုဏ်အာရုံတို့၌ တပ်မက်မှု အကြောင်းရင်း | လောဘ |
| ဒေါသဟိတ် | ပြစ်မှားကြမ်းတမ်းမှုအကြောင်းရင်း | ဒေါသ |
| မောဟဟိတ် | မသိမိုက်မဲမှု အကြောင်းရင်း | မောဟ |
| အလောဘ ဟိတ် | ကာမဂုဏ်အာရုံတို့၌ မတွယ်တာမှု အကြောင်းရင်း | အလောဘ |
| အဒေါသ ဟိတ် | မပြစ်မှား၊ မကြမ်းတမ်းခြင်း၊ မေတ္တာအကြောင်းရင်း | အဒေါသ |
| အမောဟဟိတ် | ဉာဏ်၊ ပညာ၊ ဝိဇ္ဇာအကြောင်းရင်း | အမောဟ |

### ဈာနင်- ၇ ပါး

(စိုက်စိုက်စူးစူး၊ အထူးမြဲမြဲ၊ ရှုအားသန်၊ ဈာန်ဟုခေါ်သတတ် ထို၏အင်္ဂါ၊ အစိတ်မှာမူ၊ ဈာနင်ဟူ၊ မှတ်ယူအမြဲခေါ်။)

| | | |
|---|---|---|
| ဝိတက်ဈာနင် | ကြံစည်မှု၌ စူးစိုက်အားသန်မှု | ဝိတက် |
| ဝိစာရဈာနင် | အဖန်ဖန် သုံးသပ်ခြင်း၌ စူးစိုက်အားသန်မှု | ဝိစာရ |
| ပီတိဈာနင် | နှစ်သက်ခြင်း၌ ။ | ပီတိ |
| ဧကဂ္ဂတာ ။ | တည်ကြည်မှု ။ | ဧကဂ္ဂတာ |
| သောမနဿ ။ | ဝမ်းမြောက်ခြင်း၌ ။ | သော(ဝေဒနာ) |
| ဒေါမနဿ ။ | မနှစ်သက်ခြင်းပြစ်မှားခြင်း၌ ။ | ဒေါ(ဝေဒနာ) |
| ဥပေက္ခာ ။ | အလယ်အလတ်သဘော၌ ။ | ဥ(ဝေဒနာ) |

## မဂ္ဂင် ၁၂–ပါး

**(ထိုထိုဂတိ၊ ရောက်မည့်အကြောင်း၊ တရားပေါင်းကို၊ မဂ္ဂဆိုဘိ၊ ထို၏အင်္ဂါ၊ အစိတ်မှာမူ၊ မဂ္ဂဟူ၊ မှတ်ယူအမြဲခေါ်)**

| | | | |
|---|---|---|---|
| သမ္မာမဂ္ဂင် (၈)ပါး | သမ္မာဒိဋ္ဌိမဂ္ဂင် | မှန်သောလမ်းစဉ်အကျင့်ကိုသိမြင်မှု | ပညာ |
| | သမ္မာသင်္ကပ္ပ | အမှန်ကိုသာ ကြံစည်တွေးတောမှု | ဝိတက်(ကု) |
| | သမ္မာဝါစာ | အမှန်ကိုသာ ပြောဆိုမှု | သမ္မာဝါစာ |
| | သမ္မာကမ္မန္တ | အမှန်ကိုသာ ပြုမူမှု | သမ္မာကမ္မန္တ |
| | သမ္မာအာဇီဝ | မှန်ကန်စွာတရားနှင့်အညီအသက်မွေးမှု | သမ္မာအာဇီဝ |
| | သမ္မာဝါယာမ | ကုသိုလ်တရားတို့သာဖြစ်စေရန် မှန်ကန်စွာ အားထုတ်မှု | ဝီရိယ |
| | သမ္မာသတိ | သတိပဋ္ဌာန် ၄–ပါး ရှုပွားခြင်း၌ မှန်ကန်စွာ အားထုတ်မှု | သတိ |
| | သမ္မာသမာဓိ | ဈာန်တရားတို့ကို အားထုတ်ရာ၌ တည်ကြည်သောသမာဓိ | ဧကဂ္ဂတာ |
| မိစ္ဆာမဂ္ဂင် (၄)ပါး | မိစ္ဆာဒိဋ္ဌိ | မှားသောလမ်းစဉ်အကျင့်ကို သိမြင်မှု | ဒိဋ္ဌိ |
| | မိစ္ဆာသင်္ကပ္ပ | မှားသောအကုသိုလ်တရားတို့၌သာ ကြံစည်မှု | ဝိတက် (အကု) |
| | မိစ္ဆာဝါယာမ | မှားသောအကုသိုလ်တရားတို့၌သာ လုံ့လပြုမှု | ဝီရိယ (အကု) |
| | မိစ္ဆာသမာဓိ | မှားသောအကုသိုလ်တရားတို့၌သာ တည်ကြည်မှု | ဧကဂ္ဂတာ (အကု) |

ဣန္ဒြေ ၂၂-ပါး (ဆိုင်ရာကိစ္စ၊ စိုးပိုင်ကြ၊ ကိစ္စကိုယ်စီရှိ)

| | | |
|---|---|---|
| စက္ခုန္ဒြေ | မြင်မှု၌ အစိုးရသောတရား | စက္ခုပသာဒ |
| သောတိန္ဒြေ | ကြားမှု၌ ။ | သောတပသာဒ |
| ဃာနိန္ဒြေ | နမ်းရှူမှု၌ ။ | ဃာနပသာဒ |
| ဇိဝှိန္ဒြေ | လျှက်မှု၌ ။ | ဇိဝှါပသာဒ |
| ကာယိန္ဒြေ | ထိတွေ့မှု၌ ။ | ကာယပသာဒ |
| ဣတ္ထိန္ဒြေ | မ သတ္တဝါအဖြစ်သိခြင်း၌ ။ | ဣတ္ထိဘာဝရုပ် |
| ပုရိသိန္ဒြေ | ဖိုသတ္တဝါအဖြစ်သိခြင်း၌ ။ | ပုရိသဘာဝရုပ် |
| ဇီဝိတိန္ဒြေ | ရုပ်+နာမ်ခန္ဓာတည်တန့်ရေး၌။ | ဇီဝိတရုပ်/နာမ်ဇီဝိ |
| မနိန္ဒြေ | အာရုံကိုသိခြင်း၌ ။ | စိတ် |
| သုခိန္ဒြေ | ချမ်းသာစွာခံစားမှု၌ ။ | သုခ (ဝေဒနာ) |
| ဒုက္ခိန္ဒြေ | ဆင်းရဲစွာခံစားမှု၌ ။ | ဒုက္ခ (ဝေဒနာ) |
| သောမနဿိန္ဒြေ | ဝမ်းမြောက်ဝမ်းသာခံစားမှု၌ ။ | သောမနဿ( ။ ) |
| ဒေါမနဿိန္ဒြေ | နှလုံးပူပန်စွာခံစားမှု၌ ။ | ဒေါမနဿ ( ။ ) |
| ဥပေက္ခိန္ဒြေ | အလယ်အလတ်ခံစားမှု၌ ။ | ဥပေက္ခာ ( ။ ) |
| သဒ္ဓိန္ဒြေ | ယုံကြည်မှု၊ကြည်လင်စေမှု၌ ။ | သဒ္ဓါ |
| ဝိရိယိန္ဒြေ | လုံ့လအားထုတ်မှု၌ ။ | ဝိရိယ |
| သတိန္ဒြေ | အမှတ်ရအောက်မေ့မှု၌ ။ | သတိ |
| သမာဓိန္ဒြေ | တည်ကြည်မှု၌ ။ | ဧကဂ္ဂတာ |
| ပညိန္ဒြေ | ထိုးထွင်း၍သိခြင်း၌ ။ | (ပညိန္ဒြေ) ပညာ |
| အနညာတညဿာမိတိန္ဒြေ | ထိုးထွင်း၌သိခြင်း၌ ။ | သောတာမဂ်၌ (ပညာ) |

| | | |
|---|---|---|
| အညိန္ဒြေ | ထိုးထွင်း၍သိခြင်း၌ ။ | အထက်မဂ် -၃<br>အောက်ဖိုလ် -၃<br>၌ (ပညာ) |
| အညာတာဝိန္ဒြေ | ထိုးထွင်း၍သိခြင်း၌ ။ | အရဟတ္တဖိုလ်၌<br>(ပညာ) |

**– သောတာမဂ်မှာ၊ အနညာ၊ ဆုံးမှာအညာဝိ။**

**– လောကုတ်အလယ်၊ ခြောက်ခုဝယ်၊ အလယ်အညိန်မှို။**

**ဇီဝိတိန္ဒြေသည်**– ရုပ်,နာမ်(၂)မျိုးဆိုင် ဣန္ဒြေဖြစ်သည်၊ ရုပ်ဇီဝိတိန္ဒြေ+ နာမ်ဇီဝိတိန္ဒြေ–ရုပ်,နာမ် ခန္ဓာအစဉ်မပြတ်အောင် စောင့်ရှောက်သည်။ ဣန္ဒြေ ၂၂–ပါးတွင် ရုပ်ဣန္ဒြေ (၇)ပါး, နာမ်ဣန္ဒြေ (၁၄)ပါး ။

မိုလ် ၉ ပါး

**(ဆန့်ကျင်ဘက်တို့၊ မလှုပ်ရှားနိုင်၊ မြဲကြံ့ခိုင်ဘိ၊ အားအင်ရှိ ဗိုလ်၏လက္ခဏာ)**

| | | |
|---|---|---|
| သဒ္ဓါဗိုလ် | ယုံကြည်မှုဟူသော ခိုင်မြဲသည့်တရား | သဒ္ဓါ |
| ဝီရိယဗိုလ် | လုံ့လအားထုတ်မှုဟူသော ။ | ဝီရိယ |
| သတိဗိုလ် | အမှတ်ရမှုဟူသော ။ | သတိ |
| သမာဓိဗိုလ် | တည်ကြည်မှုဟူသော ။ | ဧကဂ္ဂတာ |
| ပညာဗိုလ် | ထိုးထွင်း၍သိခြင်းဟူသော ။ | ပညာ |
| ဟိရီဗိုလ် | အရှက်ရှိခြင်းဟူသော ။ | ဟိရီ |
| ဩတ္တပ္ပဗိုလ် | အကြောက်ရှိခြင်းဟူသော ။ | ဩတ္တပ္ပ |
| အဟိရိကဗိုလ် | အရှက်မရှိခြင်းဟူသော ။ | အဟိရိက |
| အနောတ္တပ္ပဗိုလ် | အကြောက်မရှိခြင်းဟူသော ။ | အနောတ္တပ္ပ |

**ဆောင် =သဒ်+ဝိ+သ+ဓိ၊ပဉ်+ဟိ+ဩတ္တပ်၊ ဟိ+နောတ္တပ်၊ ကိုးရပ်ဗိုလ်ကြဲ့ခိုင်။**

အဓိပတိ ၄—ပါး

**(ဆန်+ဝိ+စိတ်+ဝိ၊ ဓိပတိ—၊ မရှိ တူယှဉ်ပြိုင် )**

| ဆန္ဒာဓိပတိ | အလိုဆန္ဒပြင်းပြခြင်း၌ ပြိုင်ဘက်မရှိအစိုးရခြင်း | ဆန္ဒ |
|---|---|---|
| ဝိရိယာ ။ | အားထုတ်ခြင်း၌ ။ | ဝိရိယ |
| စိတ္တာ ။ | စိတ်ထက်သန်ခြင်း၌ ။ | စိတ္တ |
| ဝိမံသာ ။ | ထိုးထွင်း၍သိခြင်း၌ ။ | ပညာ |

**အဓိပတိနှင့်ဣန္ဒြေအထူး**

အဓိပတိသည် **စကြဝတေးမင်းနှင့်တူ၏၊** ပြိုင်ဘက်မရှိ အားလုံးကို စိုးမိုးအုပ်ချုပ်၏။ ဣန္ဒြေသည်၊ **ပဒေသရာဇ်မင်းနှင့်တူ၏၊** တစ်ပါးသောမင်းတို့၏ အစိုးရမှုကို မတားမြစ်ပဲ မိမိနှင့်ဆိုင်ရာနယ်ပယ်ကိုသာ စိုးမိုးအုပ်ချုပ်၏။

ထို့အတူ- အဓိပတိတရားတစ်ပါးပါးဖြစ်လျှင် အခြားတရားတို့ကို ဖြစ်ခွင့်မပေးပဲ ပြိုင်ဘက်မရှိ အစိုးရတတ်သောကြောင့် အဓိပတိ ဟူ၍ ခေါ်သည်။

အာဟာရ ၄—ပါး

**(လွန်စွာဆောင်မှု၊ ကျေးဇူးပြု၊ လေးခုအာဟာရ)**
**လွန်စွာဆောင်မှုအနေအားဖြင့် ကျေးဇူးပြုသောကြောင့် အာဟာရ မည်၏။**

| | | |
|---|---|---|
| ကဗဠီကာရာဟာရ | ခန္ဓာကိုယ်တည်တံ့ရေးအတွက် လွှန်စွာဆောင်တတ်၏ | ဩဇရုပ် |
| ဖဿာဟာရ | **(ဖဿပစ္စယာ)**ဝေဒနာအရ ဝေဒနာ ဖြစ်ပေါ်အောင် လွှန်စွာဆောင် တတ်၏ | ဖဿ စေတသိက် |
| မနောသဥ္စေတနာ ဟာရ | **စေတနာကိုသင်္ခါရဟုခေါ်သည်၊** **(သင်္ခါရပစ္စယာ)** ဝိညာဏ်အရ ပဋိသန္ဓေဝိညာဏ်ဖြစ်အောင်လွှန်စွာ ဆောင်တတ်၏။ | စေတနာ စေတသိက် |
| ဝိညာဏာဟာရ | **(ဝိညာဏပစ္စယာ)**နာမရူပံအရ နာမ်ရုပ်တရားဖြစ်ပေါ်အောင် လွှန်စွာဆောင်ရွက်တတ်၏။ | စိတ်-၈၉ |

## ထိုထိုဈာနင်+မဂ္ဂင်+ဣန္ဒြေ+ဗိုလ် တို့၌ မရသောတရားများ

၁။ ဒွေပဥ္စဝိညာဏ် -၁၀သည် (ဝိတက်မယှဉ်သောကြောင့်) ဈာနင် ကိစ္စမတပ်နိုင်။

(ဒွေပဥ္စဝိညာဏ် ၁၀၌ ယှဉ်သောကေဂ္ဂတာ၊ ဝေဒနာတို့သည် ဈာနင်များဖြစ်သော်လည်း ဝိတက်ကင်းသဖြင့် အာရုံ၌ ရှေ့ရှုကာ မှုသာဖြစ်၍ အားနည်းသောကြောင့် ဈာနင်ကိစ္စ မတပ်နိုင်။)

**ဆောင်= ဝိတက်မယှဉ်၊ အားနည်းအင်ကြောင့်၊ ဈာနင်မရ မှတ်ကုန် ကြ၊ ပဥ္စဝိညာဏ်မှာ။**

၂။ ဝီရိယမယှဉ်သောစိတ်-၁၆ပါးသည် ဗိုလ်ကိစ္စ မထိုက်။

(ဝီရိယမယှဉ်သောစိတ် ၁၆ပါး၌ယှဉ်သော ကေဂ္ဂတာသည် ဗိုလ် တရားမျိုးဖြစ်သော်လည်း ဝီရိယကင်း၍ အားနည်းသောကြောင့် ဗိုလ်ကိစ္စမတပ်နိုင်)

**ဆောင်= မရှိလို့လ၊ အားနည်းလှ၍၊ ဗိုလ်မထိုက်ဘိ၊ အလိုက်သိ၊ အဝီရိယပါ။**

၃။ အဟိတ်စိတ် ၁၈ပါးသည် မဂ္ဂင်ကိစ္စမတပ်နိုင်။
(အဟိတ်စိတ် ၁၈ပါး၌ ယှဉ်သော ဝိတက်၊ ဝီရိယ၊ ဧကဂ္ဂတာ တို့သည် မဂ္ဂင်တရားကိုယ်များဖြစ်သော်လည်း၊ ဟိတ်ကင်းသဖြင့် အားနည်းသောကြောင့် မဂ္ဂင်ကိစ္စမတပ်နိုင်။
**ဆောင်= ဟိတ်နှင့်မယှဉ်၊ အားနည်းအင်ကြောင့်၊ မဂ္ဂင်မှုဆိတ်၊ အဟိတ်စိတ်၊ ကျိတ်လိတ်မြဲသချာ။**

၄။ ဝိစိကိစ္ဆာသဟဂုတ်စိတ်၌ ဧကဂ္ဂတာသည် မဂ္ဂင်၊ ဣန္ဒြေ ဗိုလ်ကိစ္စ မတပ်။
(ဝိစိကိစ္ဆာသဟဂုတ်စိတ်၌ ဧကဂ္ဂတာသည် မဂ္ဂင်၊ ဣန္ဒြေ၊ ဗိုလ်တို့၏ တရားကိုယ်ဖြစ်ထိုက်သော်လည်း အဓိမောက္ခကင်း၍ ဆုံးဖြတ်နိုင်ခြင်း မရှိရကား မဂ္ဂင်၊ ဣန္ဒြေ၊ ဗိုလ်ကိစ္စ မတပ်နိုင်)
**ဆောင်= ဧကဂ်+ဝိစိ၊ ကင်း–အဓိ၊ မရှိ ဗိုလ်+ဣန်+မဂ်။**

၅။ ဒွိဟိတ်ဇော–၁၈+တိဟိတ်ဇော–၃၄= သာဓိပတိဇော ၅၂ပါး တို့၌သာ ဖြစ်သင့်သည်အားလျော်စွာ အဓိပတိတရား တစ်ပါးစီ ရအပ်၏။ ဧကဟိတ်ဇော(မောဟမူဒွေး)+အဟိတ်ကြိယာဇော (ဟသိတုပ္ပါဒ်)=၃ပါး၌ အဓိပတိ မရထိုက်။
(အဓိပတိသည် အားကြီးသောတရားဖြစ်သည်၊ ထို့ကြောင့် အရှိန် ပြင်း၍ အားကြီးသောဇောစိတ်တို့၌သာ ဖြစ်နိုင်သည်၊ ထိုဇော ၅၅ပါးတွင်လည်း မောဟမူဒွေးနှင့်+ ဟသိတုပ္ပါဒ်=၃ပါးသည် အားနည်းသဖြင့် အဓိပတိ မတပ်နိုင်)
**ဆောင်= ဒွိဟေ+တိဟေ၊ ဇောနှစ်ထွေ၊ ရလေ ဓိပတိ။**

## ဗောဓိပက္ခိယသင်္ဂဟ (မဂ်ဉာဏ်၏အသင်းအပင်းတရားများ)

**သတိပဋ္ဌာန် ၄-ပါး** (လွန်ကဲစွဲမြဲစွာ အာရုံ၌ တည်ငြိမ်စေတတ်သော တရား)

| | | |
|---|---|---|
| ကာယာနုပဿနာ သတိပဋ္ဌာန် | ခန္ဓာကိုယ်၌ အာနာပါန စသည်ရှုကာ၊ သမ္မာသတိတည်းဟူသော ကြိုးလွန်းဖြင့် မိမိစိတ်ကို အတင်းအကျပ် ဖွဲ့ချည်ထားခြင်း | သောဘန ဇော-၄၂ ၌ရှိသော |
| ဝေဒနာနုပဿနာ သတိပဋ္ဌာန် | ခန္ဓာကိုယ်၌ သုခ+ဒုက္ခဝေဒနာကိုရှုကာ သမ္မာသတိကြိုးလွန်းဖြင့် မိမိစိတ်ကို အတင်းအကျပ် ဖွဲ့ချည်ထားခြင်း၊ | ↓ သတိ |
| စိတ္တာနုပဿနာ သတိပဋ္ဌာန် | **လောဘ၊ အလောဘ**စသောစိတ်တို့၌ သမ္မာသတိကြိုးလွန်းဖြင့် မိမိစိတ်ကို အတင်းအကျပ် ဖွဲ့ချည်ထားခြင်း၊ | ↑ |
| ဓမ္မာနုပဿနာ သတိပဋ္ဌာန် | **ကာမစ္ဆန္ဒ+ဗျာပါဒ**စသောတရားတို့၌ သမ္မာသတိကြိုးလွန်းဖြင့် မိမိစိတ်ကို အတင်းအကျပ် ဖွဲ့ချည်ထားခြင်း၊ | လောကုတ် ၈- ၌ ရှိသော |

ဤသို့ ဆိုင်ရာသတိပဋ္ဌာန်အာရုံ၌ သမ္မာသတိဖြင့် စိတ်ကို စွဲမြဲစွာ ဖွဲ့ချည်၍ ထားသောအခါ (အဖန်ဖန် စွဲမြဲစွာရှုသောအခါ) လွန်စွာလွင့်ပါး ပြေးသွားနေသောစိတ်ရူး၊ စိတ်နောက်၊ စိတ်လောင်တို့ အေးငြိမ်း၍ အလိုရှိရာ ကမ္မဋ္ဌာန်းအာရုံ၌ မိမိစိတ်ကိုထားခြင်းငှါ အစိုးရတော့၏။

**ဆောင်= ကာ+ဝေ+စိတ်+ဓမ်၊ နုပဿံ၊ ပဋ္ဌာန်သတိလေး။**

သမ္မပ္ပဓာန် ၄–ပါး

(ကြော+ချဉ်+ရိုး+ရေ၊ ကြွင်းလေစေ၊ ကုန်စေ–
သား+အသွေး၊ အသက်ကိုမျှ၊ မညှာရ၊ သမ္မပ္ပဓာန်လေး။

| | | |
|---|---|---|
| ဥပ္ပန္နာနံ ပါပကာနံ ပဟာနာယ ဝါယာမော | ဖြစ်ပြီးအကုသိုလ်ကို ပယ်ရန် လုံ့လပြုခြင်း | ဝီရိယ |
| အနုပ္ပန္နာနံ ပါပကာနံ အနုပ္ပါဒါယ ဝါယာမော | မဖြစ်သေးသောအကုသိုလ်ကို မဖြစ်ရန် ။ | |
| အနုပ္ပန္နာနံ ကုသလာနံ ဥပ္ပါဒါယ ဝါယာမော | မဖြစ်သေးသောကုသိုလ်ကို ဖြစ်ရန် –။– | |
| ဥပ္ပန္နာနံ ကုသလာနံ ဘိယျောဘာဝါယ ဝါယါမော | ဖြစ်ပြီးကုသိုလ် ပိုဖြစ်ရန် –။– | |

ဆောင် – ဒု– ဟောင်း+ပယ်ပစ်၊ ဒု–သစ်+မလာ၊ ဤနှစ်ဖြာ၊ ပြုရာ လုံးလဒွေး။
ကု–ဟောင်း+မလစ်၊ ကုသစ်+ရငှာ၊ ဤနှစ်ဖြာ၊ ပြုရာ လုံးလဒွေး။

ဣဒ္ဓိပါဒ် ၄–ပါး (ထိုထိုကိစ္စတို့ ပြီးစီးအောင်မြင်ကြောင်းတန်ခိုးဣဒ္ဓိပါဒ်)

| ဆန္ဒိဒ္ဓိပါဒ် | အလိုဆန္ဒဟူသောပြီးစီးစေမှုအခြေခံတန်ခိုး | ဆန္ဒ |
|---|---|---|
| ဝီရိယိဒ္ဓိပါဒ် | လုံ့လဟူသော ။ | ဝီရိယ |
| စိတ္တိဒ္ဓိပါဒ် | စိတ်ဟူသော ။ | စိတ္တ |
| ဝီမံသိဒ္ဓိပါဒ် | ပညာဟူသော ။ | ပညာ |

ဣဒ္ဓိယာ ပါဒေါ ဣဒ္ဓိပါဒေါ။
ဣဒ္ဓိယာ = ပြည့်စုံခြင်း၊ ပြီးစီးခြင်း အမျိုးမျိုး၏၊
ပါဒေါ = အခြေအမြစ်တည်း။
ဣဒ္ဓိပါဒေါ= ပြီးပြည့်စုံမှု၏အခြေခံအကြောင်း။

## ဣန္ဒြေ ၅-ပါး

## (ဆိုင်ရာကိစ္စ၊ စိုးပိုင်ကြ၊ ကိစ္စကိုယ်စီရှိ)

| | | |
|---|---|---|
| သဒ္ဓိန္ဒြေ | ယုံကြည်မှုကြည်လင်စေမှု၌ အစိုးရသောတရား | သဒ္ဓါ |
| ဝီရိယိန္ဒြေ | လုံ့လအားထုတ်မှု၌ ။ | ဝီရိယ |
| သတိန္ဒြေ | အမှတ်ရအောက်မေ့မှု၌ ။ | သတိ |
| သမာဓိန္ဒြေ | တည်ကြည်ခြင်း၌ ။ | ဧကဂ္ဂတာ |
| ပညိန္ဒြေ | ထိုးထွင်း၍သိခြင်း၌ ။ | ပညာ |

## ဗိုလ် ၅-ပါး

(ဆန့်ကျင်ဘက်တို့၊ မလှုပ်ရှားနိုင်၊ မြဲကြံ့ခိုင်ဘိ၊ အားအင်ရှိ၊ ဗိုလ်၏လက္ခဏာ)

| | | |
|---|---|---|
| သဒ္ဓါဗိုလ် | ယုံကြည်ချက်ဟူသော မြဲခိုင်သည့်တရားအင်အား | သဒ္ဓါ |
| ဝီရိယ | လုံ့လအားထုတ်မှုဟူသော မြဲခိုင်သည့်တရား | ဝီရိယ |
| သတိ | အမှတ်ရမှုဟူသော ။ | သတိ |
| သမာဓိ | တည်ကြည်မှုဟူသော ။ | ဧကဂ္ဂတာ |
| ပညာ | ထိုးထွင်း၍သိခြင်းဟူသော ။ | ပညာ |

**မှတ်ချက်** တရားကိုယ် အားလုံးတူသော်လည်း သတ္တိဂုဏ်ပြားသောကြောင့် ဣန္ဒြေနှင့်ဗိုလ် ၂မျိုးပြားရသည်။

## ဈာနင် ၇-ပါး

(မဂ်ဉာဏ်၏၊ အတောင်အလက် အစိတ်အပိုင်း ၇ မျိုး)

**ဗောဓိယာ**= မဂ်ဉာဏ်၏၊ **အင်္ဂါ**= အတောင်အလက်အစိတ်အပိုင်း တည်း၊ **ဗောဇ္ဈင်္ဂါ**= ဗောဓိဉာဏ်၏ အစိတ်အပိုင်း)

| | | |
|---|---|---|
| သတိသမ္ဗောဇ္ဈင် | ကမ္မဋ္ဌာန်းအာရုံ၌မမေ့လျော့ခြင်း မဂ်ရကြောင်းအင်္ဂါ | သတိ |
| ဓမ္မဝိစယ ။ | အနိစ္စစသည်ဖြင့် ထိုးထွင်းသိနိုင်ခြင်း | ပညာ |
| ဝီရိယ ။ | ကမ္မဋ္ဌာန်းတရား၌ လုံ့လအားစိုက်ခြင်း | ဝီရိယ |
| ပီတိ ။ | ဘာဝနာအာရုံ၌နှစ်သက်ခြင်း | ပီတိ |
| ပဿဒ္ဓိ ။ | တောင့်တပူပန်မှုမရှိပဲ ဘာဝနာအာရုံ၌ ငြိမ်းအေး၍နေခြင်း | ပဿဒ္ဓိ |
| သမာဓိ ။ | ဘာဝနာအာရုံ၌ တည်ကြည်ခြင်း | ဧကဂ္ဂတာ |
| ဥပေက္ခာ ။ | ဘာဝနာအာရုံ၌ စိတ်လျော့လွန်း ထက်လွန်းခြင်းကို ပယ်နိုင်ခြင်း မဂ်ရကြောင်းအင်္ဂါ | တတြမဇ္ဈတ္တ တာ |

**ဗောဇ္ဈင် ၇-ပါး အရကောက်**

၁။ သတိပဋ္ဌာန်၊ သတိန္ဒြေ၊ သတိဗိုလ်၊ သမ္မာသတိမဂ္ဂင်ခေါ်သော သတိစေတသိက်သည် သတိသမ္ဗောဇ္ဈင် မည်၏။

၂။ ဝီမံသိဒ္ဓိပါဒ်၊ ပညိန္ဒြေ၊ ပညာဗိုလ်၊ သမ္မာဒိဋ္ဌိမဂ္ဂင်ခေါ်သော ပညာစေတသိက်သည် ဓမ္မဝိစယသမ္ဗောဇ္ဈင် မည်၏။

တစ်နည်း = ဒိဋ္ဌိဝိသုဒ္ဓိစသော ပညာဝိသုဒ္ဓိ ၅ပါး၊

အနုပဿနာဉာဏ် ၃-ပါး ဝိပဿနာဉာဏ် ၁၀ပါးသည် **ဓမ္မဝိစယ သမ္ဗောဇ္ဈင်** မည်၏။

ဝါပင်ဝါပေါက်ကို လဲဝါဂွမ်းနုဖြစ်အောင် ဝါဖန်မှု၊ ဝါကြိတ်မှု၊ ဂွမ်းဖတ်မှုကို အဆင့်ဆင့် အဖန်ဖန် ပြုလုပ်ရသကဲ့သို့၊ ခန္ဓာငါးပါးရုပ်နာမ်တရားတို့ကို ဆယ်ပါးသောဝိပဿနာဉာဏ်တို့ဖြင့် အဖန်ဖန် ကြိတ်နယ်၍ ရှုမှုကို **ဓမ္မဝိစယ**ဟုဆိုသည်။

၃။ သမ္မပ္ပဓာန်၊ ဝီရိယိဒ္ဓိပါဒ်၊ ဝီရိယိန္ဒြေ ဝီရိယဗိုလ် သမ္မာဝါယာမမဂ္ဂင် ခေါ်သော ဝီရိယစေတသိက်သည် ဝီရိယသမ္ဗောဇ္ဈင် မည်၏။

၄။ ကာယဂတာသတိ(ဆံပင်၊ မွေးညှင်း စသော ၃၂-ကောဋ္ဌာသကို ရှုပွားမှု)စသည်ကို တည်ထောင်မိ၍ ကမ္မဋ္ဌာန်းအာရုံထင်ရှားမှု တိုးပွားလာသဖြင့် ဖြစ်ပေါ်လာသည့်ဝမ်းမြောက်ခြင်း နှစ်သက်ခြင်းသည် ပီတိသမ္ဗောဇ္ဈင် မည်၏။

၅။ စိတ်မငြိမ်သက်မှု၊ စိတ်အကြံများမှုကြောင့် ဖြစ်ကုန်သော ကိုယ်စိတ်နှစ်တန် ပူပန်ခပ်သိမ်းတို့၏ အစဉ်အတိုင်း ငြိမ်းချမ်း၍ လာခြင်းသည် ပဿဒ္ဓိသမ္ဗောဇ္ဈင် မည်၏။

၆။ သမာဓိခြေ သမာဓိဗိုလ်၊ သမာဓိမဂ္ဂင်ဟု ဆိုအပ်သော သမာဓိတရားသည် သမာဓိသမ္ဗောဇ္ဈင် မည်၏။

၇။ ကမ္မဋ္ဌာန်း အလုပ်တွင်း၌ အချိုးအစား မကျနိုင်သေး၍ ကြောင့်ကြ စိုက်ရလွန်းမှု၊ ကြောင့်ကြ မစိုက်နိုင်ပဲ ဖြစ်ရမှုတို့ ဖြစ်တတ်သည်၊ အချိုးအစားလှလှ၊ အကုန်ကျသွားသောအခါ ကြောင့်ကြစိုက်မှုကင်းသော အလယ်အလတ်သဘော တတြမဇ္ဈတ္တတာစေတသိက်သည် ဥပေက္ခာ သမ္ဗောဇ္ဈင် မည်၏။

**ဆောင် = သတိ+ဓမ္မ၊ ဝိစယနှင့်၊ ဝီရ+ပီတိ၊ ပဿဒ္ဓိတည့်၊ မာဓိ+ဥပေက်၊ ဤခုနှစ်၊ မှတ်လစ် သမ္ဗောဇ္ဈင်။**

**မဂ္ဂင် ၈-ပါး**

(ကိလေသာတို့ကို ပယ်သတ်ကြောင်း၊ အရိယာဘုံဖြစ်သော နိဗ္ဗာန်သို့ ရောက်ကြောင်းဖြစ်သောတရား)

**ဆောင်= အရိယာဂတိ၊ ရောက်မည့်လမ်းကြောင်း၊ တရားပေါင်းကို မဂ္ဂဆိုဘိ၊ ထို၏ အင်္ဂါ၊ အစိတ်မှာမူ၊ မဂ္ဂင်ဟူ၊ မှတ်ယူအမြဲခေါ်။ မဂ္ဂင်အဋ္ဌ၊ ထင်ရှားလှ၊ ဝဋ်မှထွက်ကြောင်းသိ။**

| | | |
|---|---|---|
| သမ္မာဒိဋ္ဌိမဂ္ဂင် | ကုသိုလ်+ ဘာဝနာတရားတို့၌ မှန်ကန်စွာ သိမြင်မှု | ပညာ |
| သမ္မာသင်္ကပ္ပ | ။ ။ ။ ကြံစည်မှု | ဝိတက်(ကု) |
| သမ္မာဝါစာ | ။ ။ ။ ပြောဆိုမှု | သမ္မာဝါစာ |
| သမ္မာကမ္မန္တ | ။ ။ ။ ပြုမူလုပ်ကိုင်မှု | သမ္မာကမ္မန္တ |
| သမ္မာအာဇီဝ | မှန်ကန်စွာတရားသဖြင့်အသက်မွေးမှု | သမ္မာအာဇီဝ |
| သမ္မာဝါယာမ | ကုသိုလ်+ ဘာဝနာတရားတို့၌ မှန်ကန်စွာ လုံ့လအားထုတ်မှု | ဝီရိယ |
| သမ္မာသတိ | ။ ။ ။ အမှတ်ရမှု | သတိ |
| သမ္မာသမာဓိ | ။ ။ ။ တည်ကြည်မှု | ဧကဂ္ဂတာ |

## ဗောဓိပက္ခိယသင်္ဂဟ၌ တရားကိုယ်ယူပုံအတွက် မှတ်သားရန်

ဗောဓိပက္ခိယ(မဂ်ဉာဏ်၏အသင်းအပင်းတရား)များဟု ဆိုသည့်အတိုင်း မဂ်ဉာဏ်ဖြစ်ပေါ်စေနိုင်သော စိတ်စေတသိက်တရားတို့ကိုသာ တရားကိုယ်အဖြစ် ကောက်ယူရသည်။

ဥပမာ– သတိပဋ္ဌာန်လေးပါးတရားကိုယ် ကောက်ယူရာတွင်၊ သတိဟု သာမန်ဆိုသော်လည်း၊ သောဘနစိတ် ၅၉–ပါးလုံးနှင့် ယှဉ်သော သတိကို မယူရပဲ မဂ်ဉာဏ်ဖြစ်ပေါ်စေနိုင်သော(မဟာကုသိုလ် ၈+မဟာကြိယာ ၈+အပ္ပနာဇော ၂၆= ပေါင်း ၄၂–ပါး၌) ယှဉ်သော သတိကိုသာ ကောက်ယူရမည်၊ (သို့) လောကုတ္တရာစိတ် ၈–ပါး၌ ယှဉ်သောသတိကို ထိုက်သည်အားလျော်စွာ ကောက်ယူရမည်။

ဗောဓိပက္ခိယသင်္ဂဟ၌ တရားကိုယ်ပါဝင်မှုသရုပ်

ဆောင်= သဒ္ဒါကား+ ဒွိ၊ ဓိမှု+စတု၊ ငါးခု+ပညာ၊ ရှစ်မှာ+သတိ၊
ဝီရိယ+ကိုး၊ ကိစ္စမျိုး၊ တပ်ရိုးကျမ်းအညီ။

| ဗောဓိပက္ခိယတရား / တရားကိုယ်များ | | | သတိပဋ္ဌာန် ၄ | သမ္မပ္ပဓာန် ၄ | ဣဒ္ဓိပါဒ် ၄ | ဣန္ဒြေ ၅ | ဗိုလ် ၅ | ဗောဇ္ဈင် ၇ | မဂ္ဂင် ၈ |
|---|---|---|---|---|---|---|---|---|---|
| ၁။ | သဒ္ဓါ | ၂ | | | | * | * | | |
| ၂။ | သမာဓိ | ၄ | | | | * | * | * | * |
| ၃။ | ပညာ | ၅ | | | * | * | * | * | * |
| ၄။ | သတိ | ၈ | (၄)* | | | * | * | * | * |
| ၅။ | ဝီရိယ | ၉ | | (၄)* | * | * | * | * | * |
| ၆။ | သင်္ကပ္ပ | ၁ | | | | | | | * |
| ၇။ | ပဿဒ္ဓိ | ၁ | | | | | | * | |
| ၈။ | ပီတိ | ၁ | | | | | | * | |
| ၉။ | ဥပေက္ခာ | ၁ | | | | | | * | |
| ၁၀။ | ဆန္ဒ | ၁ | | | * | | | | |
| ၁၁။ | စိတ္တ | ၁ | | | * | | | | |
| ၁၂။ | သမ္မာဝါစာ | ၁ | | | | | | | * |
| ၁၃။ | သမ္မာကမ္မန္တ | ၁ | | | | | | | * |
| ၁၄။ | သမ္မာအာဇီဝ | ၁ | | | | | | | * |

**အလုံးစုံသော ဗောဓိပက္ခိယတရား**တို့သည် လောကုတ္တရာစိတ်၌ ဖြစ်ကြကုန်၏။ **သင်္ကပ္ပနှင့်ပီတိ**တို့သည် အချို့သော လောကုတ္တရာစိတ်၌ မဖြစ်ကြကုန်။ **သီလဝိသုဒ္ဓိ စသော** ဝိသုဒ္ဓိ(၆)ပါးတို့၏ ဖြစ်ရာအခါ၌ လောကီကုသိုလ် + ကြိယာစိတ်၌လည်း ယှဉ်သင့်သည့် အားလျော်စွာ ဖြစ်ကြကုန်၏။

## သဗ္ဗသင်္ဂဟ

(စိတ်၊ စေတသိက်၊ရုပ်၊နိဗ္ဗာန် အားလုံးသိမ်းကြုံးရေတွက်ရာအခန်း)

**ခန္ဓာ ၅-ပါး**

(အပေါင်းအစုဟူသော အနက်ကြောင့် ခန္ဓာမည်၏)

| | |
|---|---|
| ရူပက္ခန္ဓာ | ရုပ် ၂၈ ပါး အပေါင်းအစု |
| ဝေဒနာက္ခန္ဓာ | (စိတ် ၈၉ပါး၌ရှိသော)ဝေဒနာစေတသိက်အစု |
| သညာက္ခန္ဓာ | ( ။ )သညာစေတသိက်အစု |
| သင်္ခါရက္ခန္ဓာ | ဝေဒနာ၊ သညာမှကြွင်းသောစေတသိက် ၅၀ သည် သင်္ခါရအစု |
| ဝိညာဏက္ခန္ဓာ | စိတ် ၈၉-ပါး အပေါင်းအစု |

မှတ်ချက် ။ ။ နိဗ္ဗာန်ကား ခန္ဓာမှလွတ်သော ခန္ဓဝိမုတ်တရားတည်း။
ဆောင် = ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာ+သင်္ခါရ၊ ဝိညာဏဟု၊
အစုငါးတန်၊ ငါးရပ်ခန်တည်း။

## ဉပါဒါနက္ခန္ဓာ ၅-ပါး (ဉပါဒါန်၏အာရုံဖြစ်သောခန္ဓာ)

ဉပါဒါန်၏အာရုံတရားကိုယ်မှာ လောဘ၊ ဒိဋ္ဌိတို့ဖြစ်သည်။ ၎င်းတို့သည် လောကီနယ်၌ ကျက်စားသောတရားများဖြစ်၍ **ဉပါဒါနက္ခန္ဓာ ၅-ပါးကို လောကီဖြစ်သောခန္ဓာ ၅-ပါး ဟုဆိုသည်။**

**ဆောင် = လောကီခန္ဓာ၊သက်သက်မှာ၊ဉပါဒါနက္ခန်၊**

| | |
|---|---|
| ရူပုပါဒါနက္ခန္ဓာ | ရုပ် ၂၈-ပါး အပေါင်းအစု |
| ဝေဒနုပါဒါနက္ခန္ဓာ | (လောကီစိတ် ၈၁ပါး၌ရှိသော)ဝေဒနာစေတသိက်အစု |
| သညုပါဒါနက္ခန္ဓာ | ( ။ ) သညာစေတသိက်အစု |
| သင်္ခါရုပါဒါနက္ခန္ဓာ | ( ။ ) ဝေဒနာ၊သညာမှ ကြွင်းသော စေတသိက် ၅၀ အစု |
| ဝိညာဏုပါဒါနက္ခန္ဓာ | လောကီစိတ် ၈၁-ပါးအစု |

**ဆောင် = ရေမြှုပ်ပမာ၊ ရုပ်ခန္ဓာ၊ ဝေမှာ+ရေပွက်ဟန်၊**
**တံလျှပ်ပမာ၊ မှတ်သညာ၊ သင်္ခါ+ငှက်ပျောစံ၊**
**မျက်လှည့်အသွင်၊ စိတ်ဝိညာဏ်၊ ငါးအင်နှစ်မဲ့ဟန်၊**

## ခန္ဓာနှင့် ဥပါဒါနက္ခန္ဓာ ၂-မျိုး ခွဲဟောခြင်း

ခန္ဓာ၌ လောကီ+ လောကုတ္တရာတရား အားလုံး ပါဝင်သည်။ ဥပါဒါနက္ခန္ဓာ၌ လောကီတရား သက်သက်သာဖြစ်သည်။ (လောကုတ် ၈ သည် ဥပါဒါနက္ခန္ဓာမမည်)

**(ခန္ဓာဟောပြီး- ဥပါဒါနက္ခန္ဓာကို ထပ်ဟောရခြင်းမှာ** ဝိပဿနာရှုသော ပုဂ္ဂိုလ်များအတွက် လောကီတရားဥပါဒါနက္ခန္ဓာကိုသာ အနိစ္စ၊ ဒုက္ခ၊ အနတ္တစသည် ရှုရသည်ကို ပြလို၍ ထပ်ဟောရသည်။ (လောကုတ္တရာတရားကိုသာ အာရုံပြု၍ ဝိပဿနာ မရှုရ)

ဆောင် = လောကီ+ လောကုတ်၊ မယုတ်မကြွင်း၊ ခန္ဓာတွင်း၌ သိမ်းသွင်း၍ယူ၊ ပြတော်မူ၊ မှတ်ယူခန္ဓာဒေသနာတည်း။
ဝိပဿနာ၊ ရှုဖို့ဌာလျှင်၊ ဥပါဒါနက်၊ လောကီတွက်၊ သက်သက်ဟောရ ပြန်သတည်း။

## အာယတန ၁၂-ပါး

(စိတ်၊ စေတသိက်တို့ဖြစ်ကြောင်းတရားကို အာယတန ဟုခေါ်သည်)

| စက္ခာယတန | မျက်စိအကြည်ရုပ် | စက္ခုပသာဒ | အဇ္ဈတ္တိကာယတန |
|---|---|---|---|
| သောတာ။ | နား ။ | သောတ ။ | (အတွင်းအာယတန |
| ဃာနာ ။ | နှာခေါင်း ။ | ဃာန ။ | ၆-ပါး) |
| ဇိဝှါ ။ | လျှာ ။ | ဇိဝှါ ။ | အိမ်ရှင် ၆-ဦး |
| ကာယာ ။ | ကိုယ် ။ | ကာယ ။ | |
| မနာ ။ | စိတ် ။ | စိတ် ၈၉ပါး | ဒွါရ ၆-ပါး |
| ရူပါ ။ | အဆင်းမျိုးစုံ | ရူပါရုံ | ဗဟိဒ္ဓါယတန |
| သဒ္ဒါ ။ | အသံမျိုးစုံ | သဒ္ဒါရုံ | |
| ဂန္ဓာ ။ | အနံ့မျိုးစုံ | ဂန္ဓာရုံ | (အပြင်အာယတန |
| ရသာ။ | အရသာ ။ | ရသာ | ၆-ပါး) |
| ဖောဋ္ဌဗ္ဗာ ။ | အတွေ့အထိ ။ | ဖောဋ္ဌဗ္ဗာရုံ | ဧည့်သည် ၆-ဦး |
| ဓမ္မာ ။ | စေ၅၂+သုခုမရုပ်၁၆+နိဗ္ဗာန် | ဓမ္မာရုံ | အာရုံ ၆-ပါး |

ဆောင် = ရှာပျက်ကြီးနှယ်၊ ရွှေခြောက်သွယ်၊ နောက်ဝယ်တပ်ဓားပြ။ စေ+သုခုမ်၊ မြတ်နိဗ္ဗာန်၊သုံးတန်ဓမ်အရ။ (ဓမ်-ဓမ္မာယတန)

ဓာတ် ၁၈-ပါး

(မိမိသဘောကို ဆောင်တတ်သောကြောင့် ဓာတ်မည်၏)

ဆောင်သည်ဆိုသည်မှာ မိမိပင်ကိုယ်လက္ခဏာအတိုင်း ထင်ရှားစွာ ဖြစ်၍ပြခြင်းကို ဆိုသည်။

| စက္ခုဓာတ် | မျက်စိအကြည်ဓာတ်ရုပ် | စက္ခုပသာဒ | အဇ္ဈတ္တိကာယတန |
|---|---|---|---|
| သောတ။ | နား ။ | သောတ ။ | (အတွင်းခံဓာတ်ဒွါရ |
| ဃာန ။ | နှာခေါင်း ။ | ဃာန ။ | ငါးမျိုး=အခံဓာတ် |
| ဇိဝှါ ။ | လျှာ ။ | ဇိဝှါ ။ | ၅-မျိုး |
| ကာယ ။ | ကိုယ် ။ | ကာယ ။ | |
| ရူပ ။ | အဆင်းမျိုးစုံ | ရူပါရုံ | |
| သဒ္ဒ ။ | အသံ ။ | သဒ္ဒါရုံ | ဗဟိဒ္ဓ(အပြင်ဓာတ် |
| ဂန္ဓ ။ | အနံ့မျိုးစုံ | ဂန္ဓာရုံ | အာရုံ ၅-မျိုး= |
| ရသ ။ | အရသာ ။ | ရသာရုံ | အတိုက်ဓာတ်) |
| ဖောဋ္ဌဗ္ဗ ။ | အတွေ့အထိ ။ | ဖောဋ္ဌဗ္ဗာရုံ | |
| စက္ခုဝိညာဏဓာတ် | မြင်သိစိတ် | စက္ခုဝိညာဏ်ဒွေ | |
| သောတ ။ | ကြားသိ ။ | သောတ ။ | ဝိညာဏဓာတ် |
| ဃာန ။ | နံသိစိတ် ။ | ဃာန ။ | ၇-ပါး |
| ဇိဝှါ ။ | လျှက်သိလျှက် ။ | ဇိဝှါ ။ | (အသိဓာတ် |
| ကာယ ။ | ထိသိဓာတ် | ကာယ ။ | ၇-မျိုး) |
| မနော ။ | သိကာမျှစိတ် | မနောဓာတ် ၃ | |
| မနောဝိညာဏဓာတ် | အထူးသိစိတ် | ကြွင်းစိတ် ၇၆ | |
| ဓမ္မဓာတ် | စေ-၅၂+သုခုမ-၁၆ နိဗ္ဗာန် | ဓမ္မာရုံ | |

**ဆောင်= သတ္တ+ဇီဝ၊ ကင်းစဉ်ပ၊ ဘာဝဓာတ်တိုင်းဖြစ်။**
**(သတ္တမဟုတ်၊ ဇီဝမဟုတ်၊ မိမိသဘာဝအတိုင်း၊ ဖြစ်ခြင်းကို ဓာတ်ဟု ခေါ်သည်)**
**ဆောင်= ဒွါရ+အာရုံ၊ ကွဲပြားပုံ၊ မှတ်တုံအာယတန တစ်ဆယ့်နှစ်။**
**စိတ်–မနော–ဧ၊ ဓာတ်ခွန်ဝေ၊ တွက်ရေ ဓာတ်ဆယ့်ရှစ်။**
**(အာယတန – ၁၂–ပါးမှ မနာယတနတစ်ခုကို ဝိညာဏဓာတ် ၇–မျိုး ပွားယူလိုက်လျှင် ဓာတ် ၁၈–ပါး ဖြစ်သွားသည်။)**

## သစ္စာ ၄–ပါး

**(မသွေမကွက်၊ မှန်ကန်ချက်ကို သစ္စာဆို၏)**
**ဒု– သ–နိ–မဂ်၊ မသွေကွက်၊ လေးချက်မှန်သစ္စာ)**

| | | |
|---|---|---|
| ဒုက္ခသစ္စာ | တေဘူမက ဝဋ်သုံးပါး ဒုက္ခအမှန်တရားများ | လောကီ ၈၁ + လောဘ ကြဉ်စေ ၅၁ + ရုပ် ၂၈ |
| သမုဒယ။ | ဒုက္ခဖြစ်ကြောင်းအမှန်တရား | လောဘ(တဏှာ) |
| နိရောဓ။ | ဒုက္ခ၊သမုဒယ ၂–ပါးချုပ်ရာ အမှန်တရား | နိဗ္ဗာန် |
| မဂ္ဂသစ္စာ | ဒုက္ခ၊ သမုဒယချုပ်ရာနိဗ္ဗာန် သို့ရောက်ကြောင်းအမှန်တရား | မဂ် ၄–ပါး၌ရှိသော မဂ္ဂင်တရားကိုယ် ၈–ပါး |

ဆောင်= စိတ်+စေ+လောကီ၊ ရုပ်ဌာရီ၊ ဒုက်ပြီ–သ+တဏှာ။
နိမှာ+နိဗ္ဗာန်၊ အင်ရှစ်တန်၊ အမှန်မဂ္ဂသာ။

မှတ်ချက်။ ။ မဂ်နှင့်ယှဉ်သောမဂ်စိတ္တုပ္ပါဒ် ၂၉-ပါး၊ ဖိုလ်စိတ္တုပ္ပါဒ် ၃၇-ပါး တို့သည် သစ္စဝိမုတ် (သစ္စာလေးပါးမှ လွတ်၏)
မဂ်စိတ္တုပ္ပါဒ် ၂၉=မဂ်စိတ် ၁+(မဂ္ဂင်တရားကိုယ် ၈ပါးကြဉ်)မဂ်နှင့်ယှဉ်သော စေတသိက် ၂၈
ဖိုလ်စိတ္တုပ္ပါဒ် ၃၇= ဖိုလ်စိတ် ၁+ဖိုလ်နှင့်ယှဉ်သောစေတသိက် ၃၆၊

အဘိဓမ္မာသင်တန်း ပို့ချဝဉ်

## နိဗ္ဗာန်သည်ခန္ဓာဝိမုတ် (ခန္ဓာမဖွဲ့ရခြင်း)

နိဗ္ဗာန်သည် ကာလသုံးပါး+အဇ္ဈတ္တ+ဗဟိဒ္ဓ,သြဠာရိက+သုခုမ၊ ဟီန+ပဏီတ၊ ဒူရ၊ သန္တိက၊ အားဖြင့် မကွဲပြားသောကြောင့် ခန္ဓာမဖွဲ့ရ။

ဆောင်= ကာလသုံးရပ်၊ အဇ္ဈတ်+ဗဟိ၊ သြဠာရိက+သုခုမနှင့်၊ ဟီန+ ပဏီတော၊ ဒူရေ+သန္တိက၊ ကွဲပြားမှု၊ ခန္ဓဖွဲ့ကောင်း၏။ နိဗ္ဗာန်မှာမူ၊ ကာလလွတ်ငြား၊ နှစ်ပါးမကွဲ၊ မြဲဗဟိဒ္ဓ၊ သုခုမနှင့်၊ ပဏီတပေ၊ ဒူရေတွက်မှ၊ တစ်ဘက်ရ၊ ခန္ဓ ဝိမုတ်မည်။

သမုစ္စည်းပိုင်းပြီး၏။

*****

# ပစ္စည်းပိုင်း

## ပစ္စည်း = အကြောင်းတရား

ဤအပိုင်းသည် အကြောင်းတရားနှင့်စပ်ယှဉ်သောအပိုင်းဖြစ်သဖြင့် အကြောင်းနှင့်မကင်းရာဖြစ်သော အကျိုးတရားကိုလည်း ယှဉ်တွဲ၍ပြဆိုသည်။ ထို့ကြောင့် ဤအပိုင်းသည် အကြောင်း+အကျိုးယှဉ်စပ်ပုံ၊ ဆက်သွယ်ပုံကို ပြသောအပိုင်းဖြစ်သည်။

### ကြောင်းကျိုးဆက်သွယ်ပုံ ၂–မျိုး

**၁။ ပဋိစ္စသမုပ္ပါဒ်နည်း**

(ကြောင်း+ကျိုးဆက်သွယ်ပုံသက်သက်= သာမညကိုပြဆိုသောနည်း)

**၂။ ပဋ္ဌာန်းနည်း**

(ကြောင်း+ကျိုးဆက်သွယ်ပုံကို အသေးစိတ်= အကြွင်းမရှိ ဝိသေသအားဖြင့် အထူးပြဆိုသောနည်း)

အကြောင်းတရားကို **ပစ္စည်း**။ အကျိုးတရားကို **ပစ္စယုပ္ပန်**၊ ကျေးဇူးပြုပုံ- ပြုနည်းအထူးကို = **ပစ္စယသတ္တိ** ဟုခေါ်သည်။

**ပဋိစ္စသမုပ္ပါဒ်နည်း**။ ။ ပစ္စည်း+ ပစ္စယုပ္ပန် ၂–မျိုး ဆက်သွယ်ကျေးဇူးပြုပုံ သာမညကို ပြသည်။

**ပဋ္ဌာန်းနည်း** ။ ။ပစ္စည်း+ပစ္စယုပ္ပန် ၂–မျိုး ဆက်သွယ်ကျေးဇူးပြုရာတွင် မည်သို့မည်ပုံ ကျေးဇူးပြုသည်ဟူသော ပစ္စယသတ္တိကိုပါ အထူးဝိသေသအားဖြင့် ပြဆိုသည်။

## ပဋိစ္စသမုပ္ပါဒ်နည်း

| ပစ္စည်း | ပစ္စယုပ္ပန် | ဆက်သွယ်ပုံ |
|---|---|---|
| အဝိဇ္ဇာပစ္စယာ | သင်္ခါရာ | (မသိမှုအဝိဇ္ဇာကြောင့်ပြုပြင်မှု သင်္ခါရဖြစ်၏) |
| သင်္ခါရပစ္စယာ | ဝိညာဏံ | (သင်္ခါရကြောင့် ပဋိသန္ဓေ ဝိပါက်ဝိညာဏ် စိတ်+ပဝတ္တိဝိပါက်ဝိညာဏ်စိတ်တို့ဖြစ်၏) |
| ဝိညာဏပစ္စယာ | နာမရူပံ | (ဝိညာဏ်ကြောင့် နာမ်ရုပ်ဖြစ်၏) |
| နာမရူပပစ္စယာ | သဠာယတနံ | နာမ်ရုပ်ကြောင့် အတွင်းခံ အာယတန ၆ပါး ဖြစ်၏။ |
| သဠာယတန ပစ္စယာ | ဖဿော | (အတွင်းခံအာယတန ၆-ပါးကြောင့် တွေ့ထိမှု ဖဿဖြစ်၏) |
| ဖဿပစ္စယာ | ဝေဒနာ | (ဖဿကြောင့် ခံစားမှုဝေဒနာဖြစ်၏) |
| ဝေဒနာပစ္စယာ | တဏှာ | (ဝေဒနာကြောင့် တွယ်တာတပ်မက်မှု တဏှာ ဖြစ်၏) |
| တဏှာပစ္စယာ | ဥပါဒါနာ | (တဏှာကြောင့်စွဲလန်းမှု ဥပါဒါန်ဖြစ်၏) |
| ဥပါဒါနပစ္စယာ | ဘဝေါ | (ဥပါဒါန်ကြောင့် ကမ္မဘဝ၊ဥပပတ္တိဘဝဖြစ်၏) |

(လောကီကုသိုလ်ကံ၊ အကုသိုလ်ကံသည် ကမ္မဘဝ၊ လောကီကုသိုလ်ကံ၊ အကုသိုလ်ကံ၏ အကျိုးသည် ဥပပတ္တိဘဝ)

| | | |
|---|---|---|
| ဘဝပစ္စယာ | ဇာတိ | (ကမ္မဘဝကြောင့် ဘဝတစ်ခု၏အစ ပဋိသန္ဓေနေမှု ဇာတိ ဖြစ်၏) |
| ဇာတိပစ္စယာ | ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ဒုက္ခ၊ ဒေါမနဿ ဥပါယာသာ၊ သမ္ဘဝန္တိ။ | (ဇာတိကြောင့် အိုမှု ဇရာ၊ သေမှု မရဏ စိုးရိမ်မှုသောက၊ ငိုကြွေးမှု ပရိဒေဝ ကိုယ်ဆင်းရဲခြင်းဒုက္ခ၊ စိတ်နှလုံး ပူပန်ခြင်း ဒေါမနဿ၊ ပြင်းထန်စွာ ပူဆွေးမှု ဥပါယာသတို့ ဖြစ်ကုန်၏) |

ဤသို့ အဝိဇ္ဇာ စသော ကြောင်း+ကျိုးတရားတို့ အဆက်ဆက် မပြတ်ဖြစ်ပေါ်ကြသဖြင့် လူ နတ် ဗြဟ္မာ တိရစ္ဆာန် သတ္တဝါအားလုံးတို့ ဖြစ်ပေါ်ကြသည်။ မည်သူ တစ်ဦးတစ်ယောက်မျှ ဖန်ဆင်းသူ မရှိပါပေ။

## အဝိဇ္ဇာအကြောင်းကား အာသဝေါတရား

အဝိဇ္ဇာ သင်္ခါရစသောတရားတို့ ကြောင်း+ကျိုးဆက် အစဉ်အတိုင်း ဖြစ်သွားပုံကို သိရပါ၏၊ အဝိဇ္ဇာ၏အကြောင်းကား အဘယ်နည်း ဆိုသော်-

အဝိဇ္ဇာ၏အကြောင်းမှာ သင်္ခါရ စသောတရားတို့ ကြောင်း+ကျိုးဆက်ဖြစ်ပေါ်သဖြင့် **တဏှာဟူသော ဝဋ်မြစ်မပြတ်သေးသော ပုဂ္ဂိုလ်တို့အား ကာမာသဝ၊ ဘဝါသဝ၊ ဒိဋ္ဌာသဝ၊ အဝိဇ္ဇာသဝ (တရားကိုယ်အားဖြင့် လောဘ၊ ဒိဋ္ဌိ၊ မောဟ) တည်းဟူသော အာသဝေါတရားတို့သည် ဖြစ်ကြကုန်၏။ ထိုအာသဝေါတရားတို့ကြောင့် အဝိဇ္ဇာ ဖြစ်ပြန်၏။**

### ပဋိစ္စသမုပ္ပါဒ်တရားတို့၏ အဓိပ္ပာယ်အကျဉ်းချုပ်

**အဝိဇ္ဇာ (မောဟ)**

* *မိုက်မဲစွာလှ၊ မှောင်ကြီးချ၊ မောဟအဝိဇ္ဇာ။*

သတ္တဝါတို့အား အမှန်တရားကို မသိမမြင်နိုင်အောင် ဖုံးကွယ်စေတတ်သောကြောင့် အဝိဇ္ဇာကို အမှောင်တကာ့ အမှောင်ဆုံးဖြစ်သည်ဟုဆိုသည်။ အမှန်ကို မသိကြ၍ မိုက်ချင်တိုင်း မိုက်၊ မှားချင်တိုင်း မှားကာ သံသရာတွင် နစ်ချင်တိုင်း နစ်နေရသည်။

အဝိဇ္ဇာ၏ဆန့်ကျင်ဘက်ကား

* *အသိအလိမ္မာ၊ ဉာဏ်ပညာ၊ ဝိဇ္ဇာ အမောဟ*

**သင်္ခါရ**

* *အကုသိုလ်နှင့်၊ ကုသိုလ်နှစ်ထွေ၊ စေတနာဝေမှ၊ ကံသုံးဝ၊ မှတ်ကြ သင်္ခါရာ။*
*ပုညာ+ပုည၊ အာနေဥ္ဇ၊ သုံးဝခွဲစိတ်ဖြာ။*

**သင်္ခါရ ၃မျိုး**

၁။ အပုညာဘိသင်္ခါရ = အကုသိုလ်စိတ် ၁၂-ပါး၌ရှိသော စေတနာ။

၂။ ပုညာဘိသင်္ခါရ = (အရူပကုသိုလ် ၄-ပါးကြဉ်) လောကီကုသိုလ် ၁၃-ပါး၌ရှိသော စေတနာ)

၃။ အာနေဉ္ဇာဘိသင်္ခါရ= အရူပကုသိုလ် ၄-ပါး၌ရှိသော စေတနာ။

**(သင်္ခါရ= စေတနာ= ကံ)** (စေတနာဟံ ဘိက္ခဝေ ကမ္မံ ဝဒါမိ)

(ဘိက္ခဝေ = ရဟန်းတို့၊ အဟံ= ငါဘုရားသည်၊ စေတနာ= စေတနာကို၊ ကမ္မံ= ကံဟူ၍၊ ဝဒါမိ= ဟောတော်မူ၏။)

**ဝိညာဏ်**

* *သန္ဓိ+ပဝတ္တိ၊ နှစ်မျိုးရှိ၊ ဝိပါက် ဝိညာဏါ။*

**နာမ်ရုပ်**

* *စေတသိက်မူ၊ နာမ်ဟုယူ၊ ရုပ်မူကမ္မဇာ*

- ဝိပါက်ဝိညာဏ်စိတ်နှင့်ယှဉ်သော စေတသိက်များကို **နာမ်**ဟု ယူရမည်။
- ထိုဝိပါက်ဝိညာဏ်စိတ်+စေတသိက်တို့နှင့်ယှဉ်သော ကမ္မဇရုပ်ကို **ရုပ်** အရယူရမည်။

  * *စေတသိက်မူ၊ နာမ်ဟုယူ၊ ရုပ်မူကမ္မဇာ*

- ဝိညာဏ် ၂မျိုး ခွဲယူသကဲ့သို့ နာမ်ရုပ်ကိုလည်း ပဋိသန္ဓေနာမ်ရုပ်၊ ပဝတ္တိနာမ်ရုပ် ဟု ၂မျိုးခွဲယူရမည်။

**သဠာယတန**

* *သဠာယတန၊ ခြောက်ဒွါရ၊ မနဝိပါက်သာ။*

- သဠာယတန= (ဆဠာယတန)အရ ဒွါရ ၆ပါးကို ယူရမည်။

ဒွါရ ၆ပါးတွင် ရှေ့ ၅ ဒွါရ၏အရမှာ-

ပသာဒရုပ်ငါးပါးကို ယူ၍ မနောဒွါရအရမှာ ပဋိသန္ဓေဝိပါက်၊ ပဝတ္တိဝိပါက်စိတ်တို့ကိုသာ ယူစေချင်၍ မနဝိပါက်သာ ဟုဆိုသည်။

**ဖဿ၊ ဝေဒနာ**

✱ ဝိညာဏ်ခြောက်ဝ၊ ယှဉ်တုံကြ၊ ဖဿ+ဝေဒနာ။

- ဖဿအရ= ဝိညာဏ် ၆-ပါးနှင့် ယှဉ်သော ဖဿ ၆-ပါးကို ယူရမည်။
- ဝေဒနာအရ= ထိုဝိညာဏ် ဖဿ ၆-ပါးနှင့်ယှဉ်သော ဝေဒနာ ၆-ပါးကို ယူရမည်။

ယူပုံ၁။ စက္ခုဝိညာဏ်နှင့်ယှဉ်သော ဖဿသည် စက္ခုသမ္ဖဿမည်၏။ ထို စက္ခုသမ္ဖဿ နှင့်ယှဉ်သော ဝေဒနာသည် စက္ခုသမ္ဖဿဇာ ဝေဒနာ မည်၏။

(သော+ဃာ+ဇိ+ကာ နည်းတူ)

ယူပုံ၆။ မနောဝိညာဏ်နှင့်ယှဉ်သော ဖဿသည် မနောသမ္ဖဿ မည်၏။
ထိုမနောသမ္ဖဿနှင့်ယှဉ်သော ဝေဒနာသည် မနောသမ္ဖဿဇာ ဝေဒနာမည်၏။

**တဏှာ**

✱ ခြောက်ပါးအာရုံ၊ သာယာတုံ၊ ခြောက်စုံညစ်တဏှာ

တဏှာအရ ရူပါရုံစသည်ကို သာယာနှစ်သက်တပ်မက်သော တဏှာ ၆မျိုးကို ယူရမည်။

ရူပါရုံကိုသာယာတပ်မက်သောလောဘသည် ရူပတဏှာ မည်၏။

| | | | |
|---|---|---|---|
| သဒ္ဒါရုံ | ။ | ။ | သဒ္ဒတဏှာ ။ |
| ဂန္ဓာရုံ | ။ | ။ | ဂန္ဓတဏှာ ။ |
| ရသာရုံ | ။ | ။ | ရသတဏှာ ။ |
| ဖောဋ္ဌဗ္ဗာရုံ | ။ | ။ | ဖောဋ္ဌဗ္ဗတဏှာမည်၏။ |
| ဓမ္မာရုံ | ။ | ။ | ဓမ္မတဏှာ ။ |

## ဘင်္ဂ အစစ် ၁၀၈—မျိုး

* တဏှာသုံးတန်၊ တည်ထားပြန်၊ အာ+ကာ+သန် နှင့်မြှောက်။
* တဏှာအစစ်၊ တစ်ရာရှစ်၊ ဖြစ်၏ကိုယ်မှာရောက်။

ဥပါဒါန် * ကာမ+ဒိဋ္ဌိ၊ သီလဗ္ဗတ၊ အတ္တစွဲသန်၊ လေးတန်သရုပ်ပြ။

## တဏှာနှင့် ကာမုပါဒါန်အထူး

- **အားနည်းသော** လောဘသည် **တဏှာ** မည်၏။
- **အားကြီးသော** လောဘသည် **ကာမုပါဒါန်** မည်၏။

## ဘဝ

ဘဝ **၂-မျိုး** (၁) ကမ္မဘဝ၊ (၂) ဥပပတ္တိဘဝ ဟူ၍ရှိသည်။

* ကုသလာ- ကုသလ၊ ကမ္မပထံ၊ ဤနှစ်တန်၊ ကမ္မဘဝသာ။
ဝိပါက်ခန္ဓာ၊ ကဋတ္တာဟု၊ ရုပ်နာမ်စု၊ ဥပပတ္တိသာ။
* အကုသိုလ်စေတနာကံ ၁၂-ပါး+ လောကီကုသိုလ်စေတနာကံ ၁၇-ပါးတို့သည် **ကမ္မဘဝမည်၏။**
* လောကီဝိပါက် ၃၂-ပါး +စေတသိက် ၃၅ ဟူသော ဝိပါက် နာမက္ခန္ဓာ ၄-ပါး၊ ကဋတ္တာရုပ်ခေါ် ကမ္မဇရုပ် ၂၀ တို့သည် ဥပပတ္တိဘဝမည်၏။
* ကမ္မဘဝကြောင့် ဥပပတ္တိဘဝ ဖြစ်ရ၏။
* တစ်နည်း ကမ္မဘဝ+ကြောင့် ဇာတိ၊ ဇရာ၊ မရဏတို့ဖြစ်ရသည်။
* ထို့ကြောင့် ဥပပတ္တိဘဝ = ဇာတိ၊ ဇရာ၊ မရဏ
* (ဇာတိ၊ ဇရာ၊ မရဏ= ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ)

**ဇာတိ** ဥပပတ္တိဘဝခေါ်သော နာမ်ရုပ်တရားတို့၏ဥပါဒ်ဖြစ်ပွားမှု- ဥပါဒ်ခဏကိုဇာတိ။

**ဇရာ** ဥပပတ္တိဘဝ၏ ဌီခဏဟူသော ရင့်ရော်မှုကို ဇရာ၊

**မရဏ** ထို ဥပပတ္တိဘဝ၏ ပျက်ဆုံးမှု ဘင်ခဏကို မရဏ။

* ဖြစ်မှု+ရင့်မှု၊ ပျက်ဆုံးမှု၊ ဥပပတ္တိမှာ
(သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသ တို့ကား ထင်ရှားပြီး)

တစ်ဖန် ထိုပဋိစ္စသမုပ္ပါဒ်တရားတို့ကို အင်္ဂါအားဖြင့်လည်းကောင်း၊ ကာလအားဖြင့်လည်းကောင်း၊ အစပ်အားဖြင့် လည်းကောင်း၊ အလွှာအားဖြင့်လည်းကောင်း၊ ဝဋ်အားဖြင့် လည်းကောင်း၊ မူလအားဖြင့် လည်းကောင်း ခွဲခြားမှတ်သား ပြဆိုဦးအံ့။

* အင်္ဂါ ဆယ့်နှစ်၊ သုံးဆစ်ကာလ၊ သုံးဝအစပ်၊ လေးရပ်အလွှာ၊ ဝဋ်သုံးဖြာ၊ မှတ်ပါမူလဒွေး။

## အင်္ဂါ ၁၂–ပါး

(၁) **အဝိဇ္ဇာ**၊ (၂) **သင်္ခါရ**၊ (၃) **ဝိညာဏ်**၊ (၄) **နာမ်ရုပ်**၊ (၅) **သဠာယတန**၊ (၆) **ဖဿ**၊ (၇) **ဝေဒနာ**၊ (၈) **တဏှာ**၊ (၉) **ဥပါဒါန်**၊ (၁၀) **ဘဝ**၊ (၁၁) **ဇာတိ**၊ (၁၂) **ဇရာမရဏ**။

မှတ်ချက်- သောကစသော ၅-ပါးတို့သည် ဇာတိ၏မုချအကျိုးမဟုတ်၊အကျိုးဆက်မျှသာဖြစ်၍ အင်္ဂါအနေဖြင့်ထည့်မရေတွက်ပါ။(ပြဟ္မာနှင့်အနာဂါမ်,ရဟန္တာတို့မှာ ဒေါသပယ်ထား၍ သောကစသည်မဖြစ်)

## ကာလအခွန့် ၃–ပါး

၁။ **အဝိဇ္ဇာ၊ သင်္ခါရ** ၂-ပါးသည် အတိတ်ကာလ=အတိတ်အခွန့်။

၂။ **ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ** ၈ပါးသည် ပစ္စုပ္ပန်ကာလ= ပစ္စုပ္ပန်အခွန့်

၃။ **ဇာတိ+ဇရာ+မရဏ** =၃-ပါးသည် အနာဂတ်ကာလ အနာဂတ်အခွန့်မည်၏။

## အလွှာ ၄–ပါး

(၁) အတိတ်အကြောင်း ၅–ပါး တစ်လွှာ = အဝိဇ္ဇာ၊ သင်္ခါရ(တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ = ၃–ပါးကိုလည်း ရသင့်၍ထည့်) ၅–ပါး

(၂) ပစ္စုပ္ပန်အကျိုး ၅–ပါး တစ်လွှာ = ဝိညာဏ်၊ နာမ်ရုပ်၊သဠာယတန၊ ဖဿ၊ ဝေဒနာ ၅–ပါး

(၃) ပစ္စုပ္ပန်အကြောင်း ၅-ပါး တစ်လွှာ = တဏှာ၊ ဥပါဒါန်၊ ကမ္မဘဝ (အဝိဇ္ဇာသင်္ခါရ ၂-ပါးကိုလည်း ရသင့်၍ထည့်) ၅မျိုး

(၄) အနာဂတ်အကျိုး ၅-ပါး တစ်လွှာ = ဇာတိ၊ ဇရာ၊ မရဏ (ဇာတိ၊ ဇရာ၊ မရဏ၊ ၃-ပါးသည် ဝိညာဏ်၊ နာမ်ရုပ်၊သဠာယတန၊ ဖဿ၊ ဝေဒနာ ၅-ပါးနှင့်တူညီသည်)

မှတ်ချက်

(၁) မုချအားဖြင့် အတိတ်အကြောင်းတရားမှာ အဝိဇ္ဇာနှင့် သင်္ခါရ ၂-ပါးသာ (တဏှာ၊ ပါဒါန်၊ ကမ္မဘဝ ၃-ပါးကို ရသင့်သဖြင့်ယူ၍ ၅-ပါး ဖြစ်သည်။)

(၂) မုချအားဖြင့် ပစ္စုပ္ပန်အကျိုးမှာ ၅-ပါးပင်

(၃) မုချအားဖြင့် ပစ္စုပ္ပန်အကြောင်းမှာ တဏှာ၊ ပါဒါန်၊ ကမ္မဘဝ ၃-ပါးသာ (အဝိဇ္ဇာ၊ သင်္ခါရ ၂-ပါးကို ရသင့်သဖြင့်ယူ၍ ၅-ပါးဖြစ်သည်။)

(၄) မုချအားဖြင့် အနာဂတ်အကျိုးတရားမှာ ဇာတိ၊ဇရာ၊မရဏ ၃-ပါးသာ (ဇာတိ၊ ဇရာ၊ မရဏ ၃-ပါးသည် ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ဝေဒနာဟူသော ပစ္စုပ္ပန်အကျိုးငါးပါးနှင့် သဘောတူသဖြင့်၊ ၎င်း ၅-ပါးကို အစားယူ၍ အနာဂတ်အကျိုးတရား ၅-ပါးဟု ရေတွက်သည်)

## အခြင်းအရာ ၂၀

အလွှာ ၄-မျိုးတွင် တရား ၅-မျိုးစီရှိ၍ (၄x၅=၂၀)သော တရားတို့ကို အခြင်းအရာ ၂၀ ဟုခေါ်သည်။

အစပ် ၃-ပါး

၁။ အတိတ်အကြောင်း ၅-ပါးနှင့် ပစ္စုပ္ပန်အကျိုး ၅-ပါးအကြား တစ်စပ်။

(သင်္ခါရနှင့်+ ဝိညာဏ်အကြားတစ်စပ်)

မှတ်ချက် * အစပ် စပ်ရာတွင် ရသင့်၍ယူထားသောတရားများနှင့် မစပ်ရဘဲ မုချရသင့်သောတရားများ အချင်းချင်းသာ စပ်ရမည်။

၂။ ပစ္စုပ္ပန်အကျိုး ၅-ပါးနှင့်ပစ္စုပ္ပန်အကြောင်း ၅-ပါး အကြား တစ်စပ်။

(ဝေဒနာနှင့်တဏှာ အကြားတစ်စပ်)

၃။ ပစ္စုပ္ပန်အကြောင်း ၅-ပါးနှင့်အနာဂတ်အကျိုး ၅-ပါးအကြား တစ်စပ်။

**(ကမ္မဘဝနှင့် + ဇာတိအကြား တစ်စပ်)**

**ဆောင်** သင်္ခါ + ဝိညာ၊ ဝေ + တဏှာ၊ ဘဝ + ဇာတိ၊ သုံးစပ်ရှိ၊ စပ်ဘိ ချင်းချင်းသာ။

## ဝဋ် ၃-ပါး

ချာချာလှည့်ပတ်ခြင်းကို ဝဋ္ဋ (ဝဋ်)ဟုခေါ်သည်။

၁။ အဝိဇ္ဇာ၊ တဏှာ၊ ဥပါဒါန် ၃-မျိုးသည် မိမိသန္တာန်၌ ကိန်းတည်၍ **ပူပန်စေတတ်သောတရား**များဖြစ်၍ ကိလေသာဝဋ် မည်၏။

၂။ ထိုကိလေသာဝဋ်တရားသုံးပါး မိမိသန္တာန်၌ရှိနေသဖြင့် ကမ္မဘဝ၊ သင်္ခါရတို့ကို ပြုနေကြသည်။ ထို ၂-ပါးသည် ကမ္မဝဋ် မည်၏။

၃။ ထိုကိလေသာဝဋ်၊ ကမ္မဝဋ် ၂-မျိုးကြောင့် ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ(ဥပပတ္တိဘဝခေါ်သော ဇာတိ၊ ဇရာ၊ မရဏ)တို့ ဖြစ်ကြသည်။ ၎င်း ၅-မျိုး(သို့မဟုတ်) ၃-မျိုးသည် ဝိပါကဝဋ် မည်၏။

မူလ ၂ပါး (သို့) ဝဋ်မြစ် ၂-ပါး

၁။ **အဝိဇ္ဇာ**၊ ၂။ **တဏှာ**

ပဋိစ္စသမုပ္ပါဒ်သံသရာကို နှစ်ပိုင်းခွဲလျှင်

၁။ အတိတ်အကြောင်းနှင့် ပစ္စုပ္ပန်အကျိုးတရားတို့ကို သံသရာ ရှေ့ပိုင်း၊

၂။ ပစ္စုပ္ပန်အကြောင်းနှင့် အနာဂတ်အကျိုးတရားတို့ကို သံသရာ နောက်ပိုင်းဟု ခွဲနိုင်သည်။

**ရှေ့ပိုင်းဝဋ်မြစ်ကား အဝိဇ္ဇာ၊ နောက်ပိုင်း ဝဋ်မြစ်ကား တဏှာ** ဖြစ်သည်။ ထိုဝဋ်မြစ် ၂-ပါး အမြစ်သဖွယ် စွဲမြဲငုတ်တည်နေသည်ကို တူးဖော်၍ မဖျက်ဆီးနိုင်သေးသမျှ၊ လူ+နတ်+ပြဟ္မာ စသောဘဝများ၊ ဆင်းရဲခြင်း၊ ချမ်းသာခြင်းစသော ဘဝသံသရာ အခက်အလက် အသီးအပွင့်များ ဆက်လက် သီးပွင့်နေဦးမည်သာ ဖြစ်သည်။

## အဝိဇ္ဇာ၏အကြောင်းတရားနှင့် ပဋိစ္စသမုပ္ပါဒ်စက်ရဟတ်လည်ပုံ

**ဆိုခြင်း၊ သေခြင်းနှင့်တွေ့ဝေမိန်းမောခြင်း၏ အကြောင်းဖြစ်**သော **သောက** စသော တရားအပေါင်းသည် မပြတ်နှိပ်စက်ခံရသော သတ္တဝါတို့၏သန္တာန်၌ **(လောဘ၊ ဒိဋ္ဌိ၊ မောဟ)**ဟူသော **အာသဝေါ တရား**တို့သည် ဖြစ်ကုန်၏။ ထိုအာသဝေါတရားကြောင့် **အဝိဇ္ဇာ** ဖြစ်ပြန်၏။ ထိုအဝိဇ္ဇာကြောင့် **သင်္ခါရ** စသည်ဆက်၍ ဖြစ်ပေါ်လာ၏။ သင်္ခါရ စသည်ကြောင့်---

**ဇာတိ၊ ဇရာ၊ မရဏ၊ သောက** စသည်တို့ ဖြစ်လာ၏။ ဇာတိဇရာမရဏ သောက စသည်ကြောင့် **အာသဝေါတရား**တို့ ဖြစ်ပြန်၏။ အာသဝေါ တရားကြောင့် **အဝိဇ္ဇာ** ဖြစ်ပြန်၏။ **ဤသို့လျှင် အစအဆုံး မရှိဘဲ တပြောင်းပြန်ပြန် လှည့်ပတ်နေရသော ဝဋ်တရားကို သံသရာ စက်ရဟတ်** လည်နေသည်ဟု ခေါ်သည်။

* **ဇရာ၊မရဏ၊သောကစသည်ကြောင့် အာသဝေါတရား**
  (လော-ဒိ၊ မော)
* အာသဝေတရားတို့ကြောင့် အဝိဇ္ဇာ
* အဝိဇ္ဇာကြောင့် သင်္ခါရ စသည်
* သင်္ခါရစသည်ကြောင့် ဇာတိ၊ဇရာ၊ မရဏ၊သောက စသည်
* **ဇာတိ၊ဇရာ၊မရဏ၊သောက အာသဝေါတရား စသည်ကြောင့်**

## ပဋိစ္စသမုပ္ပါဒ်စက်ရဟတ်၊ ဝဋ်မြစ်ပြတ်ပုံ

အဝိဇ္ဇာ၊ တဏှာ၊ မူလ ၂-ပါး (ဝဋ်မြစ် ၂-ပါး)ကို အရဟတ္တမဂ် ဖြင့် တူးဖော်၍ အကြွင်းမရှိ ဖျက်ဆီးနိုင်သောအခါမှ ပဋိစ္စသမုပ္ပါဒ် သံသရာစက်ရဟတ်အပြီးတိုင် ပြတ်တော့သည်။

**ပဋိစ္စသမုပ္ပါဒ်နည်း ပြီး၏။**

****

## ပဋ္ဌာန်းနည်း

ပဋိစ္စသမုပ္ပါဒ်နည်းတွင် ကြောင်းကျိုးဆက်စပ်ပုံသာမညသာ ပြဆိုပြီး၊ ပဋ္ဌာန်းနည်းတွင် စိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန်၊ ပညတ်စသော တရားတို့၏ ကြောင်းကျိုးဆက်စပ်ရာတွင် ဟေတုပစ္စယသတ္တိ စသည်တို့ဖြင့် မည်သို့မည်ပုံ ကျေးဇူးပြုသည်ဟု ကျေးဇူးပြုပုံ ပြုနည်း ပစ္စယသတ္တိ အထူးကိုပါ အသေးစိတ်ပြဆိုသည်။

ပဋ္ဌာန်းနည်းသည် ရုပ်၊ နာမ် တရားတို့၏ အသေးစိတ်ဖြစ်ပုံ ဆက်စပ်ပုံ မည်သို့မည်ပုံဆက်သွယ်၍ ကျေးဇူးပြုသည်တို့ကို အကျယ်အားဖြင့် ဝေဖန်ပြဆိုထားသောကြောင့် များစွာကျယ်ဝန်း၍ နက်နဲခက်ခဲလှသည်။

ထို့ကြောင့် ဘုရားရှင်၏အမြင့်ဆုံး သဗ္ဗညုတဉာဏ်၏အရာသာဖြစ်သည်။ ဘုရားရှင်၏အမြင့်ဆုံး သဗ္ဗညုတဉာဏ်တော်သည် ဝိနည်း၊ ပိဋကတ်တရား၊ သုတ္တန်တရား၊ အဘိဓမ္မာတွင်လည်း အောက်ပိုင်း(၆)ကျမ်းတွင် မကျက်စားလောက်သေးပဲ (၇)ကျမ်းမြောက် ပဋ္ဌာန်းကျမ်းကြီးကိုရောက်မှ (ပဋ္ဌာန်းနည်းဖြင့် အဘိဓမ္မာတရားတို့ကို ခွဲခြမ်း ဝေဖန်ဆင်ခြင်ခြင်းကိုပြုမှ) အားရအောင် ကျက်စားခွင့်ရသဖြင့် အလွန်ကျယ်ဝန်းနက်နဲသောတရားတော် ဖြစ်သည်။

### ပဋ္ဌာန်းပစ္စယုဒ္ဒေသ (အကျဉ်းဆုံးပဋ္ဌာန်း ၂၄ ပစ္စည်း)

၁။ ဟေတုပစ္စယော=ဟိတ်= မူလအကြောင်းတရား၊ ရေသောက်မြစ်သဖွယ်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၂။ အာရမ္မဏပစ္စယော = အာရုံဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၃။ အဓိပတိပစ္စယော = ပြိုင်ဘက်မရှိ၊ အကြီးအမှူး ဖြစ်၍ ကျေးဇူးပြုသော သတ္တိတရား။

၄။ အနန္တရပစ္စယော = အခြားမရှိသည်ဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။

၅။ သမနန္တရပစ္စယော = ကောင်းစွာ အခြားမရှိသည်ဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။

၆။ သဟဇာတပစ္စယော = အတူတကွဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။

၇။ အညမညပစ္စယော = အချင်းချင်း အပြန်အလှန် ကျေးဇူးပြုတတ်သော သတ္တိတရား။

၈။ နိဿယပစ္စယော = မှီရာဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၉။ ဥပနိဿယပစ္စယော = အားကြီးသော မှီရာဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၁၀။ ပုရေဇာတပစ္စယော = ရှေးကဖြစ်၍ (ရှေး၌ဖြစ်နှင့်၍) ကျေးဇူးပြုတတ်သော သတ္တိတရား။

၁၁။ ပစ္ဆာဇာတပစ္စယော = နောက်မှဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။

၁၂။ အာသေဝနပစ္စယော = အဖန်တလဲလဲ မှီဝဲထုံအပ်သည်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၁၃။ ကမ္မပစ္စယော = ဗီဇမျိုးစေ့သဖွယ်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။

၁၄။ ဝိပါကပစ္စယော = အကျိုးတရားဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။

၁၅။ အာဟာရပစ္စယော = ထောက်ပံ့နိုင်စေသည်ဖြစ်၍ (အလွန်ဆောင်ထားသည်ဖြစ်၍) ကျေးဇူးပြုတတ်သော သတ္တိတရား။

၁၆။ ဣန္ဒြိယပစ္စယော = မိမိဆိုင်ရာကိစ္စ၌ အစိုးရသည်ဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။
၁၇။ ဈာနပစ္စယော = စိုက်စိုက်စူးစူး၊ အထူးရှုတတ်သည်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။
၁၈။ မဂ္ဂပစ္စယော = ခရီးလမ်းသဖွယ်၊ ယာဉ်၊ ရထားသဖွယ် ဖြစ်၍ ကျေးဇူးပြုတတ်သောသတ္တိတရား။
၁၉။ သမ္ပယုတ္တပစ္စယော = အချင်းချင်း နှီးနှောယ်ရောစပ်သည်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။
၂၀။ ဝိပ္ပယုတ္တပစ္စယော = အချင်းချင်း မနှီးနှောယ်၊ မရောစပ်သည် ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။
၂၁။ အတ္ထိပစ္စယော = ရှိနေသည်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။
၂၂။ နတ္ထိပစ္စယော = မရှိတော့သည်ဖြစ်၍ ကျေးဇူးပြုတတ်သော သတ္တိတရား။
၂၃။ ဝိဂတပစ္စယော = ကင်းရှင်းသည်ဖြစ်၍ ။ ။
၂၄။ အဝိဂတပစ္စယော = မကင်းသေးသည်ဖြစ်၍ ။ ။

## ၂၄ပစ္စည်းကို ရာသီအားဖြင့် ခေဒန်ခြင်း

၁။ နာမ်ပစ္စည်းတရားသည် --> နာမ်ပစ္စယုပ္ပန်တရားအား ကျေးဇူးပြုပုံ ၆ ပစ္စည်း။
၂။ နာမ် ။ ။ --> နာမ်ရုပ် ၅ ပစ္စည်း။
၃။ နာမ် ။ ။ --> ရုပ် ၁ ပစ္စည်း။
၄။ ရုပ် ။ ။ --> နာမ် ၁ ပစ္စည်း။
၅။ ပညတ်၊နာမ်၊ရုပ်သည် --> နာမ် ၂ ပစ္စည်း။
၆။ နာမ်ရုပ် ၂ပါးသည် --> နာမ်ရုပ် ၂ပါး ၉ ပစ္စည်း။

၁။ နာမ်သည် --> နာမ်အား ၆ ပစ္စည်း

အနန္တရ၊ သမနန္တရ၊ နတ္ထိ၊ ဝိဂတ၊ အာသေဝန၊ သမ္ပယုတ္တ= ၆

*** အာသေ+ သမ္ပ၊ ဝိဂတနှင့်၊ နတ္ထိ+အာနန်၊ သမနန်၊ နာမ်သည် နာမ်အားခြောက်။**

၂။ နာမ်သည် --> နာမ်ရုပ် ၂ပါးအား ၅ ပစ္စည်း

ဟေတု+ ဈာန+ မဂ္ဂ+ ကမ္မ+ ဝိပါက = ၅

*** ဟေ+ဈာ+မဂ်+ကံ၊ ဝိပါကံ၊ နာမ်သည်နာမ်ရုပ်ငါး။**

၃။ နာမ်သည် --> ရုပ်အား ၁ ပစ္စည်း (ပစ္ဆာဇာတ)

*** နာမ်သည်ရုပ်အား၊ မျိုးတစ်ပါး၊ မှတ်သား ပစ္ဆာ။**

၄။ ရုပ်သည် --> နာမ်အား ၁ ပစ္စည်း (ပုရေဇာတ)

*** ရုပ်သည်+နာမ်အား၊ မျိုးတစ်ပါး၊ မှတ်သား ပုရေဇာ။**

၅။ ပညတ်+နာမ်+ရုပ်သည် --> နာမ်အား ၂-ပစ္စည်း (အာရမ္မဏ ဥပနိဿယ)

*** ပညတ်+နာမ်+ရုပ်၊ နာမ်အား ဒုက်၊ အဟုတ် ဥ+အာရမ်။**

၆။ နာမ်ရုပ် ၂-ပါးသည် --> နာမ်ရုပ် ၂-ပါးအား ၉-ပစ္စည်း

**အဓိပတိ+ သဟဇာတ + အညမည + နိဿယ + အာဟာရ+ ဣန္ဒြိယ+ ဝိပ္ပယုတ္တ+အတ္ထိ+အဝိဂတ = ၉**

*** နာမ်+ရုပ် ၂ပါး၊ နာမ်ရုပ်အားတွင်၊ သဟ+အင်+ဓိ+အဝိ+နိ+ဟာ၊ ဣန်+ဝိပ်-လာ၊ အတ်ပါကိုးပစ္စည်း။**

**နာမ်သည် --> နာမ်အား ၆ ပစ္စည်း ကျေးဇူးပြုပုံ**

| ပစ္စည်း | ပစ္စယုပ္ပန် | ပစ္စယသတ္တိ |
|---|---|---|
| အခြားမဲ့ဖြစ်၍ချုပ်လေပြီးသော(ရဟန္တာတို့၏စုတိကြဉ်) ရှေးရှေးစိတ် ၈၉+စေ ၅၂ + ပဝတ္တိပဋိသန္ဓေနာမက္ခန္ဓာလေးပါး ပစ္စည်းတရားသည် | (ရဟန္တာတို့၏စုတိနှင့်တကွ) နောက်နောက်သောစိတ် ၈၉ +စေ ၅၂ နာမက္ခန္ဓာလေးပါး ပစ္စယုပ္ပန်တရားအား | အနန္တရ၊သမနန္တရ၊ နတ္ထိ၊ ဝိဂတ (၄) |

* ခြားမဲ့ရှေ့နာမ်၊ ပစ္စည်းနာမ်၊ နောက်နာမ်အား အမြဲ။

နာန်+ သမနန်+နတ်+ဝိတ်၊ လေးတန်အတူပဲ။

| | | |
|---|---|---|
| (အဆုံးဇောကြဉ်)<br>ရှေးရှေးသောလောကီဇော<br>သတ္တစတ္တာလီသ၊ ၄၇<br>စေ ၅၂ | ပဌမဇော၊ ဖိုလ်ဇောကြဉ်<br><br>နောက်နောက် ဇော ၅၁<br>စေ ၅၂ အား | အာသေဝန |

* (ရှေ့ဇောဇာတ်တူ၊ ကု+ကူ+ကြိယာ၊ နန္တရာ၊ ပွားဌာသေဝန။)

| | | |
|---|---|---|
| အလုံးစုံတက္ကဖြစ်သော<br>စိတ် ၈၉+စေ ၅၂<br>ပဝတ္တိပဋိသန္ဓေနာမက္ခန္ဓာ<br>လေးပါးသည် | အချင်းချင်းအား | သမ္ပယုတ္တ |

* စိတ်+စေလုံးစုံ၊ နာမ်အကုန်၊ ယှဉ်တုံသမ္ပယုတ်။

******

## နာမ်သည် နာမ်အား ၆–ပစ္စည်းတို့၏ အဓိပ္ပါယ်နှင့် ဥပမာ

**အနန္တရပစ္စည်း** အနန္တရပစ္စည်းသည် စိတ်တစ်ခုခု ချုပ်ဆုံးသွားလျှင် အခြားမဲ့ဖြစ်၍ (အခြားမရှိသည်ဖြစ်၍) နောက်ထပ် စိတ်တစ်ခု ဆက်ကာဆက်ကာ ဖြစ်ပေါ်အောင် ကျေးဇူးပြုခြင်းပင် ဖြစ်သည်။ ဝီထိစိတ်အစဉ်များကို ကြည့်ပါ၊ **ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ဝုဋ္ဌော၊ ဇော၊ တဒါရုံ စသည်ဖြင့် ကြားထဲ ၌ အခြားမရှိဘဲ ဝီထိစိတ်အစဉ်အတိုင်း ဆက်ကာ ဆက်ကာ** ဖြစ်သွားခြင်းကို အနန္တရပစ္စည်း (အနန္တရ ပစ္စယသတ္တိဖြင့်)ကျေးဇူးပြုသည်ဟု ဆိုသည်။

*ဥပမာအားဖြင့်* စကြဝတေးမင်းကြီး နတ်ရွာလားခြင်းသည် သားကြီး အိမ်ရှေ့ဥပရာဇာအား အခြားမရှိဘဲ အလိုအလျောက် ဆက်ကာ မင်းအဖြစ်ကို ကျေးဇူးပြုသကဲ့သို့ပင် ဖြစ်သည်။

**ရှေးရှေးစိတ္တုပ္ပါဒ်သည် နောက်စိတ္တုပ္ပါဒ် ၁း ကျေးဇူးပြုပုံ**

အတိမဟန္တာရုံ စက္ခုဒွါရဝီထိ၌ အတီတဘဝင်သည် ဘဝင်္ဂစလနအား၊ ဘဝင်္ဂစလနသည် ဘဝင်္ဂုပစ္ဆေဒအား ဘဝင်္ဂုပစ္ဆေဒသည် ပဉ္စဒွါရာဝဇ္ဇန်းအား၊ပဉ္စဒွါရာဝဇ္ဇန်းသည် စက္ခုဝိညာဏ်အား၊ စက္ခုဝိညာဏ်သည် သမ္ပဋိစ္ဆိုင်းအား၊ သမ္ပဋိစ္ဆိုင်းသည် သန္တီရဏအား၊ သန္တီရဏသည် ဝုဋ္ဌောအား၊ ဝုဋ္ဌောသည် ပထမဇောအား၊ ပထမဇောသည် ဒု+တ+စ+ပ+ဆ+သတ္တမဇောအား၊ သတ္တမဇောသည် ပထမတဒါရုံအား၊ ပထမတဒါရုံသည် ဒုတိယတဒါရုံအား၊ ဒုတိယတဒါရုံသည် နောက်ဘဝင်အား အနန္တရပစ္စယသတ္တိဖြင့် ကျေးဇူးပြု၏။ ဤသို့ ဝီထိအစဉ်ဖြင့် ဆက်လက်၍ ပစ္စည်းပြုပုံကို သိရာ၏။

ကိစ္စအစဉ်အားဖြင့် ပဋိသန္ဓေကိစ္စသည် ဘဝင်ကိစ္စအား အနန္တရသတ္တိဖြင့် ကျေးဇူးပြု၏။ ဘဝင်ကိစ္စသည် မိမိဘဝင်အချင်းချင်းအားရင်း၊ အာဝဇ္ဇန်းကိစ္စအားရင်း၊ စုတိကိစ္စအားရင်း အနန္တရသတ္တိဖြင့် ကျေးဇူးပြု၏။ အာဝဇ္ဇန်းကိစ္စသည် ဒဿနကိစ္စအားရင်း။ ပ။ ဖုသနကိစ္စအားရင်း အနန္တရသတ္တိဖြင့် ကျေးဇူးပြု၏။ ဒဿနစသော ပဉ္စဝိညာဏ်ကိစ္စသည် သမ္ပဋိစ္ဆိုင်းကိစ္စအား ကျေးဇူးပြု၏။ သန္တီရဏကိစ္စသည် ဝုဋ္ဌောကိစ္စအား ကျေးဇူးပြု၏။ ဝုဋ္ဌောကိစ္စသည် မိမိဟုဆိုအပ်သော ဝုဋ္ဌောကိစ္စအားရင်း၊ ဇောကိစ္စအားရင်း ဘဝင်ကိစ္စအားရင်း ကျေးဇူးပြု၏။ ဇောကိစ္စသည် မိမိဇောကိစ္စအားရင်း၊ ဘဝင်ကိစ္စအားရင်း၊ တဒါရုံကိစ္စအားရင်း၊ စုတိကိစ္စအားရင်း ကျေးဇူးပြု၏။ တဒါရုံကိစ္စသည် မိမိတဒါရုံကိစ္စအားရင်း၊ ဘဝင်ကိစ္စအားရင်း၊ စုတိကိစ္စအားရင်း ကျေးဇူးပြု၏။ စုတိကိစ္စသည် ပဋိသန္ဓေကိစ္စအား **ကျေးဇူးပြု၏။ (ရဟန္တာတို့၏ စုတိကိစ္စသည်ကား နန္တရပစ္စည်းပြုရန် ကိစ္စမရှိလေပြီ။ ထို့ကြောင့် ရဟန္တာတို့၏ စုတိစိတ်သည် ပစ္စည်းမထိုက် ပစ္စယုပ္ပန် သက်သက်သာ ထိုက်လေသည်။)**

**ပစ္စည်းသက်သက်သာ ထိုက်သောစိတ်ဟူသည်ကား မရှိ။ နမတဂ္ဂသံသရာကြီးသည် စမရှိလေသောကြောင့် စဆုံးသောစိတ် ဟူ၍လည်း မရှိရာ။** ထိုသို့ အစဆုံးသောစိတ်၏ မရှိခြင်းကြောင့် ပစ္စည်းသက်သက်သာ ထိုက်သော နာမ် ဟူ၍လည်း တစ်စုံတစ်ရာမျှ မရှိခဲ့လေ။ အနမတဂ္ဂသံသရာ၌ သတ္တဝါတို့၏ စိတ်အစဉ်သည် တစ်ရံတစ်ခါမျှ နားနေခွင့် မရကြလေကုန်။ မိမိတို့ ထိုက်သင့်သောကိစ္စကို ရွက်ဆောင် လုပ်ကိုင်ကြကုန်လျက် အနန္တရပစ္စည်း ဆက်၍သာ နေကြရကုန်၏။ နိဗ္ဗာန်သို့ရောက်မှသာလျှင် အနန္တရပစ္စည်းဆက်မှုကိစ္စ ပြီးဆုံးလေတော့သည်။

ဤအနန္တရပစ္စည်းအရာ၌ ရနိုင်သမျှကို သိမ်းကျုံးပေါင်းရုံး၍ ရှေ့ရှေ့ဖြစ်သော စိတ်တစ်ခု ယုတ်ကိုးဆယ် စေတသိက်ဒွေပညာသသည် ပစ္စည်း၊ နောက်နောက်ဖြစ်သော စိတ်တစ်ခုယုတ်ကိုးဆယ် စေတသိက်ဒွေပညာသသည် ပစ္စယုပ္ပန် ဟူ၍ ဆိုရသည်။ အစိတ်စိတ် ဆိုင်ရာဆိုင်ရာ ခွဲခြမ်းစိတ်ဖြာ၍ ဝေဖန်ရာသေး၏။

**သမနန္တရပစ္စည်း**။ (ကောင်းစွာ) အခြားမရှိဘဲ ကျေးဇူးပြုခြင်းပင်ဖြစ်၍ အနန္တရနှင့်တူ၏။

**နတ္ထိပစ္စည်း** ။ မရှိသည်ဖြစ်၍ ကျေးဇူးပြုခြင်း၊ (အနန္တရနှင့်သဘောတူပင်) ရှေ့စိတ်မရှိတော့ခြင်း၊ ချုပ်ခြင်းသည် နောက်စိတ်ဖြစ်ဖို့ ကျေးဇူးပြုခြင်းပင် ဖြစ်သည်။ မီးငြိမ်းသွားခြင်းသည် အမှောင်ဖြစ်ဖို့ ညဥ့်ကုန်မှုသည် နေထွက်ဖို့ ကျေးဇူးပြုသကဲ့သို့ ဖြစ်သည်။

**ဝိဂတပစ္စည်း** ။ ကင်းသည်ဖြစ်၍ ကျေးဇူးပြုခြင်း၊ (နတ္ထိနှင့်သဘောတူ၏)နေဝင်ခြင်းသည် လထွက်ရန်အတွက်၊ နေဝင်ခြင်းသည် အမှောင်ဖြစ်ရန်အတွက် ကျေးဇူးပြုခြင်းပင်ဖြစ်သည်။

**အာသေဝနပစ္စည်း**။ အဖန်တလဲလဲထုံအပ်သည်ဖြစ်၍ ကျေးဇူးပြုခြင်း။

ရှေးရှေး၌ဖြစ်သော ကုသိုလ်ဇောတို့သည်-->နောက်နောက်ကုသိုလ်ဇောတို့အားရင်း

။ အကုသိုလ်ဇော --> ။ အကုသိုလ်ဇော-

။ ကြိယာဇော --> ။ ကြိယာဇော -

အင်အားကောင်းအောင်၊ ပို၍ အာနိသင်ရှိအောင် အဖန်တလဲလဲထုံအပ်သည်ဖြစ်၍ ကျေးဇူးပြုတတ်၏။ ဥပမာ၊ **ရှေးရှေးလိမ်းခြယ်ထားထုံထားအပ်သော နံ့သာသည် နောက်ထပ်လိမ်းခြယ်အပ်၊ ထုံအပ်သော နံ့သာအား ပို၍မွှေးအောင် ကြိုင်အောင် ဖြစ်ပွားစေသကဲ့သို့ ဖြစ်သည်။**

အာသေဝနပစ္စယ၌ "အာသေဝတိ ပုနပ္ပုနံ ပဝတ္တတိတိ အာသေဝနံ"။ အာသေဝတိ၊ မှီဝဲသမှု အထုံပြုတတ်၏။ ပုနပ္ပုနံ၊ အဖန်ဖန်။ ပဝတ္တိ၊ ဆင့်ကာ ဆင့်ကာ ဖြစ်လာတတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ အာသေဝနံ၊ အာသေဝန မည်၏။ အဓိပ္ပာယ်ကား ကုသိုလ်အစရှိသောတရားသည် မိမိနှင့်ဇာတ်အားဖြင့် တူမျှသော ပယောဂဖြင့် ပြီးစီးစေအပ်သော **ကုသိုလ်အစရှိသောတရားမျိုးကို မိမိ၏ အခြားမဲ့ အနန္တရ၌ အဖန်ဖန်ဖြစ်အောင် ကျေးဇူးပြုမှုသည် အာသေဝန သတ္တိမည်၏။ တစ်နည်းကား မိမိ၏အခြားမဲ့၌ ဖြစ်သောတရားကို မိမိနှင့် သဘောတူသည်၏အဖြစ်သို့ ရောက်အောင် ကျေးဇူးပြုမှုသည် အာသေဝန သတ္တိမည်၏။** ထိုသို့ ကျေးဇူးပြုမှုကို "ထုံသည်"ဟုဆိုသည်။ ပမာအားဖြင့် တစ်ခုသော နံ့သာကြုတ်၊ နံ့သာသေတ္တာသည် မိမိအတွင်းသို့ရောက်လာသော အဝတ်အထည်စသော ဝတ္ထုများကို မိမိနှင့်တူစွာ မွှေးကြိုင်သင်းပျံ့အောင် ထုံလေဘိ သကဲ့သို့တည်း။အဖန်ဖန်ထပ်၍ဖြစ်အောင် ကျေးဇူးပြုမှုမည်သည်ကား တစ်ဆင့်ထက် တစ်ဆင့် လေ့လာနိုင်နင်း၍ အားရှိသည်အဖြစ်သို့ ရောက်စေမှုနှင့်တကွ နာမ်အဆင့် ဆင့် ဖြစ်အောင် ကျေးဇူးပြုမှုပေတည်း။ ပမာအားဖြင့် **သာသနာတော်ကျမ်းဂန်၊ လောကီကျမ်းဂန်တို့ကို သင်ကြားရာတို့၌ ရှေးရှေး၌ဖြစ်သော အားထုတ်မှု များသည် နောက်နောင်သင်ကြားအပ်သော ကျမ်းဂန်မှုတို့ကို လွယ်လင့်စွာ လေ့လာနိုင်နင်းအောင် အားထုတ်ဘိသကဲ့သို့ ရှေ့ရှေ့ဖြစ်သော ဇောတို့သည် အခြားမဲ့ဖြစ်သော နောက်နောင်ဇောတို့အား ဆောင်ရွက်ဖွယ်ကိစ္စတို့၌ လေ့လာနိုင်နင်းအောင် အာသေဝနသတ္တိထူးဖြင့် ကျေးဇူးပြုပေ၏။** ဤသို့လျှင် ဇာတ်တူဖြစ်သော ရှေ့ရှေ့သောစိတ်သည် နောက်စိတ်အား ဇာတ်တူ သဘောတူ ဖြစ်အောင် အဖန်ဖန် ဖြစ်ပွားစေခြင်း၊ ထုံခြင်းကိစ္စဖြင့် ကျေးဇူးပြုသော အာသေဝန ပစ္စည်းကို ရည်တော်မူ၍-**ရှေ့ဇောဇာတ်တူ၊ ကု,ကု,ကြိယာ၊ နန္တရာ၊ ပွားငှါ သေဝန။** ဟူ၍ မိန့်တော်မူသည်။

**အာသေဝနပစ္စယ** သတ္တိရ,မရ ရှေ့ရှေ့ဖြစ်သော ကုသိုလ်ဇော၊ အကုသိုလ်ဇော၊ ကြိယာဇောတို့၌သာလျှင် အာသေဝနပစ္စယသတ္တိကို ရအပ်၏။

အာဝဇ္ဇန်းဒွေနှင့် အလုံးစုံသော ဝိပါက်စိတ်တို့မှာမူကား အာသေဝန သတ္တိကို မရအပ်။ ထိုစကားမှန်၏။ မနောဒွါရာဝဇ္ဇန်းစိတ်သည် နှစ်ကြိမ်သုံးကြိမ် ထပ်၍ဖြစ်သော်လည်း အလွန်တရာ အားနည်းသောစိတ် ဖြစ်လေသောကြောင့်

တစ်စုံတစ်ခုသောပယောဂဖြင့် ပွားစေခြင်းငှါလည်းကောင်း ယုတ်လျော့စေခြင်းငှါ လည်းကောင်း ပြုပြင်၍ရသော စိတ်မဟုတ်။ ထို့ကြောင့် အာဝဇ္ဇန်းဒွေတို့မှာ အာသေဝနသတ္တိကို မရအပ်ဘဲ ရှိလေသည်။ ဝိပါက်အပေါင်းတို့တွင် လောကုတ္တရာ ဝိပါက်ဟုဆိုအပ်သော ဖိုလ်စိတ်တို့သည် ဇောကိစ္စနှင့်ဖြစ်လည်း ဖြစ်ကြကုန်၏။ အားထုတ်မှု ပယောဂဖြင့်လည်း ပြီးစီးသောတရားမျိုး ဖြစ်ကြကုန်၏။ ထိုသို့ပင် ဖြစ်ကြကုန်သော်လည်း ထိုဖိုလ်စိတ်တို့သည် မဂ်စေတနာ၏ အာနုဘော်ကြောင့် သာလျှင် ဖြစ်ပေါ်ရသောတရားတို့သာ ဖြစ်ကြကုန်၏။ ထိုမဂ်စေတနာနှင့်ကင်း၍ သက်သက် အသီးအခြားဖြစ်သော တစ်စုံတစ်ခုသော ပယောဂဖြင့် အလိုလို ထူထောင်ထကြွ၍ ဖြစ်နိုင်သောတရားမျိုး မဟုတ်ကြကုန်။ ထို့ကြောင့် ထိုဖိုလ်စိတ် တို့မှာလည်း အာသေဝနသတ္တိကို မရအပ်ဘဲ ရှိလေသည်။ ကံ၏အစွမ်းသက်သက်နှင့် ဖြစ်ပေါ်ရကုန်သော လောကီဝိပါက်တို့၌မူကား ဆိုဖွယ်ရာမရှိလေပြီ။

ဇာတ်တူအချင်းချင်းအားသာလျှင် အာသေဝနပစ္စည်း တပ်သောကြောင့် မဂ်ဇောသည် နောက်ဖိုလ်ဇောအား အာသေဝနပစ္စည်း မတပ်နိုင်။ ထို့ကြောင့် မဂ်ဇောသည် အာသေဝနပစ္စည်း၏ ပစ္စယုပ္ပန် အမြဲထိုက်လေသည်။ ဖိုလ်ဇော ကား အာသေဝနပစ္စနိက် မြဲသောတရားပေတည်း။

အာဒိကမ္မိက ဈာန်ဝီထိတို့၌ အာဒိကမ္မိကဈာန်ဇောသည်လည်း အာသေဝန ပစ္စယုပ္ပန် မြဲသောတရားပေတည်း။ ။ အဆုံးစွန်၌ ဖြစ်ရသော အလုံးစုံသော လောကီဇော ၄၇-ပါးတို့သည် အာသေဝနပစ္စယုပ္ပန်မြဲသော တရားတို့ပေတည်း။

ကာမဇောတို့တွင် ရှေးဦးစွာဖြစ်သောဇောတို့သည် မိမိတို့၏ရှေ့၌ ဇောစိတ် မရှိလေသောကြောင့် အာသေဝနပစ္စယုပ္ပန် မထိုက်။ အာသေဝနပစ္စည်း အမြဲထိုက် ကြလေကုန်သည်။

**ဘုံကွဲသော်လည်း အာသေဝနပစ္စည်းတပ်ပုံ။** ။ ဇာတ်ကွဲပြားလျှင် အာသေဝနပစ္စည်းမတပ်သကဲ့သို့ ဘုံကွဲပြားလျှင် အာသေဝနပစ္စည်းမတပ်ဘဲ ရှိပါသလော ဟူမူ ဘုံကွဲသော်လည်း အာသေဝနပစ္စည်းတပ်၏ ဟူ၍ ဖြေရာ၏။ ထို့ကြောင့် ပဋ္ဌာန်းပါဠိတော်၌ "**ဂေါတြဘူမဂ္ဂဿ ဝေါဒါနံ မဂ္ဂဿ** အာသေဝန ပစ္စယေန ပစ္စယော။ **ပရိတ္တော မဂ္ဂဿ** အာသေဝန ပစ္စယေန ပစ္စယော" စသည်ဖြင့် ဟောတော်မူ၏။

ဝိထိပိုင်း၌ "**သောကုနောင်ဖြစ်၊ သုံးဆယ့်နှစ်၊ တစ်ဆယ့်နှစ်ဉ+ကုမှာ။ သော ကြိ နောင်ရှစ်၊ ဉကြိနှစ်၊ နောက်ဖြစ်ခြောက်ပနာ**"ဟူ၍ ဆိုအပ်သော

ကဗျာသည်လည်း ဇာတ်မတူသော ကာမာဝစရတရားတို့နှင့် မဟဂ္ဂုတ်လောကုတ္တရာ တို့၏ အနန္တရသတ္တိ အာသေဝနသတ္တိတို့ဖြင့် ကျေးဇူးပြုပုံကို ပြဆို၏။

## သမ္ပယုတ္တပစ္စည်း (ရောစပ်သည်ဖြစ်၍ ကျေးဇူးပြုသောတရား)

စိတ်+စေတသိက်- နာမ်ခန္ဓာအချင်းချင်း ရောစပ်သည်ဖြစ်၍ ကျေးဇူးပြုသည်။

ဥပမာ။ ပျားရည်၊ သကာ၊ ဆီ၊ ထောပတ် လေးမျိုးရောစပ်သည် ဖြစ်၍ အရသာခွဲမရအောင် အချင်းချင်း ရောစပ်သကဲ့သို့တည်း။

သမ္ပယုတ္တပစ္စည်းခေါ်ပုံ။ **။ ကေပ္ပါဒ၊ ကေနိရောဓ၊ ကောလမ္ဗဏ၊ ကေဝတ္ထုက ဟုဆိုအပ်သော အင်္ဂါလေးပါး အပြားအားဖြင့် အညီအညွတ် ယှဉ်သည်ဖြစ်၍ ကျေးဇူးပြုတတ်သော တရားများကို သမ္ပယုတ္တပစ္စည်းဟု ခေါ်သည်။** "အညီ အညွတ် ယှဉ်သည်"ဟူရာ၌ ထောပတ်၊ ပျားရည်၊ သကာ၊ ဆီဟူသော အရသာ လေးမျိုးကို ရောစပ်ထားသော စတုမဓု၌ ဤကား ထောပတ်အရသာတည်း။ ဤကား ပျားရည်အရသာတည်းဟု ခွဲခြား၍ မရနိုင်ဘိသကဲ့သို့ အချင်းချင်း ခွဲခြားမရနိုင်လောက်အောင် ပေါင်းစပ် ရောယှက်နေခြင်းကို ဆိုလိုသည်၊ တစ်ပေါင်း တည်း တစ်မျိုးတည်းအဖြစ် (ကေတ္တ)သို့ ရောက်ရှိခြင်းကို ဆိုလိုသည်။

**သမ္ပယုတ္တနှင့် သဟဇာတအထူး။** ။ဤသမ္ပယုတ္တပစ္စည်းသည် သဟဇာတ ပစ္စည်းကဲ့သို့ တစ်ပြိုင်နက် အတူတကွ ဖြစ်ပေါ်ရုံမျှဖြင့် ရနိုင်သောပစ္စည်း မဟုတ်ချေ၊ အထက်ပါ သမ္ပယောဂလက္ခဏာ လေးပါးနှင့် ညီညွတ်မှသာလျှင် သမ္ပယုတ္တပစ္စည်း ဖြစ်ပေါ်ရာ၌ စေတသိက် ၁၉-ပါးတို့သည်လည်း ပါဝင်ကုန်၏၊ ထိုစိတ်နှင့် တစ်ပြိုင်တည်းပင် စိတ္တဇရုပ် တို့သည်လည်း ဖြစ်ပေါ်ကုန်၏၊ ထိုတွင် လောဘမူပဌမစိတ်နှင့် စေတသိက် ၁၉ပါးတို့သည် သဘောလက္ခဏာအားဖြင့် တစ်မျိုးစီ ဖြစ်ကုန်သော်လည်း အထက်ပါ လက္ခဏာလေးပါးတို့ဖြင့် အချင်းချင်း နှီးနှောရောစပ်၍ ဖြစ်ကုန်၏၊ တစ်ပေါင်းတည်း အဖြစ်သို့ရောက်လျက် အာရုံ၌ တပ်မက်ခြင်းကိစ္စကို ဆောင်ရွက်ကုန်၏၊ တရားကိုယ် ၂၀-ပါး ဖြစ်သော်လည်း အာရုံ၌ တပ်မက်ခြင်း တစ်မျိုးတည်းသာ ဖြစ်၏၊ ထို့ကြောင့် ၎င်းစိတ်နှင့် စေတသိက် ၁၉-ပါးတို့သည် အချင်းချင်း သမ္ပယုတ္တ ပစ္စည်းအားဖြင့် ကျေးဇူးပြုသည်ဟုဆိုရ၏၊ စိတ္တဇရုပ်သည်ကား လောဘမူ ပဌမ

စိတ်နှင့်တစ်ပြိုင်နက်ဖြစ်သော်လည်း ရုပ်တရားဖြစ်၍ နာမ်တရားတို့နှင့် ရောယှက်နှီးနှောခြင်းမရှိချေ။ ထို့ကြောင့် လောဘမူ ပဌမစိတ်နှင့် စိတ္တဇရုပ်တို့သည် တစ်ချိန်တည်း၌ အတူတကွ ဖြစ်တည်ကြရုံမျှသာဖြစ်သဖြင့် သဟဇာတပစ္စည်းသာ တပ်၍ သမ္ပယုတ္တပစ္စည်း မတပ်နိုင်ချေ။

**နာမ်နှင့်ရုပ်သမ္ပယုတ္တ မဖြစ်** ။ စင်စစ်အားဖြင့် သဘာဝယုတ္တိကို စဉ်းစားစိစစ်လျှင် နာမ်တရားနှင့်ရုပ်တရားကို အချင်းချင်း သမ္ပယုတ္တပစ္စည်း မတပ်နိုင်ကြောင်းမှာ လွန်စွာ ထင်ရှားလှသည်၊ နာမ်နှင့်ရုပ်တို့ သည် တစ်ခါတစ်ရံ အတူဖြစ်ခြင်း(=ဧကုပ္ပါဒ) တစ်ခါတစ်ရံ အတူချုပ်ခြင်း(=ဧက နိရောဓ) ရှိနိုင်ငြားသော်လည်း စိတ်သက်နှင့်ရုပ်သက် မတူရကား ဖြစ်ပျက်နှစ်ပါး စုံတူ (= ဧကုပ္ပါဒ၊ ဧကနိရောဓ)ဟူသော လက္ခဏာနှစ်မျိုးလုံးကိုမူ မရနိုင်ချေ။ ထို့ပြင် ရုပ်တို့တွင် ဝိညတ်ဒွေသည် **ဖြစ်+ပျက် ၂-ပါးစုံတူ** လက္ခဏာကို ရနိုင်ငြားသော် လည်း စိတ်သည် အာရုံကို ယူတတ်သော **သာရမ္မဏ**တရားဖြစ်၍ ရုပ်သည် အာရုံကို မယူတတ်သော **အနာရမ္မဏ**တရားဖြစ်၏၊ ထို့ကြောင့် တူသောအာရုံ ရှိမှုဟူသော ဧကာလမ္ဗဏလက္ခဏာကိုလည်း မရနိုင်ချေ။ စိတ်သည် ဝတ္ထုရုပ် ခြောက်ပါးကို မှီ၍ ဥပါဒါရုပ်တို့သည် မဟာဘုတ်လေးပါးကို မှီကုန်၏၊ မဟာဘုတ် လေးပါးတို့သည်ကား တစ်ပါးသည် တစ်ပါးကို မှီကုန်၏။ ထို့ကြောင့် စိတ်နှင့် ရုပ်တို့၌ ဧကဝတ္ထုကဟူသော လက္ခဏာကိုလည်း မရနိုင်ချေ၊ ဤသို့ သမ္ပယောဂ လက္ခဏာလေးပါးမရှိသောကြောင့် နာမ်နှင့်ရုပ်တို့သည် အချင်းချင်း သမ္ပယုတ္တ ပစ္စည်းမတပ်ခြင်း ဖြစ်ပေသည်။

**ရုပ်အချင်းချင်း သမ္ပယုတ္တမဖြစ်** ။ ။ကလာပ်တစ်မျိုးတည်းတွင် ပါဝင်သော ရုပ်တို့သည် အချင်းချင်း ဖြစ်တူ,ပျက်တူပင် ဖြစ်ကြသည်၊ မှီရာမဟာဘုတ်အားဖြင့်လည်း တူကြသည်၊ အဝိနိဗ္ဘောဂရုပ် ရှစ်ပါး တို့သည်ကား တစ်ပါးစီခွဲခြား၍ မရနိုင်အောင်ပင် သဘောအားဖြင့်လည်း ပေါင်းစပ် နှီးနှောမိကြကုန်သည်၊ သို့ဖြစ်သော်လည်း **အနာရမ္မဏတရားများဖြစ်၍** ဧကာ လမ္ဗဏဟူသော သမ္ပယောဂလက္ခဏာကိုကား မရနိုင်ချေ၊ ထို့ကြောင့် ရုပ်အချင်းချင်း လည်း သမ္ပယုတ္တပစ္စည်းမတပ်ကြောင်းကို မှတ်သားအပ်ပေသည်။

(ဧကုပ္ပါဒ-စသော လက္ခဏာ ၄-ပါး အပြည့်အစုံ မရလျှင် သမ္ပယုတ္တ ပစ္စည်း မရဟု မှတ်ပါ)

**နာမ်အချင်းချင်းသာ သမ္ပယုတ္တဖြစ်ပုံ** ။ ။ဤသို့ နာမ်နှင့်ရုပ်သည်လည်းကောင်း၊ ရုပ်အချင်းချင်းသော်လည်းကောင်း၊ သမ္ပယုတ္တပစ္စည်းမတပ်နိုင်သောကြောင့် **နာမ်ခန္ဓာလေးပါး အချင်းချင်းသာလျှင် သမ္ပယုတ္တပစ္စည်းတပ်ကြောင်း ထင်ရှား**

လေတော့သည်၊ ထို့ကြောင့် ပစ္စယနိဒ္ဒေသပါဠိတော်၌လည်း "စတ္တာရော ခန္ဓာ အရူပိနော အညမညံ သမ္ပယုတ္တပစ္စယေန ပစ္စယော" ဟူ၍ ဟောတော်မူသည်။

**သမ္ပယုတ္တနှင့် အညမညအထူး။** ။ ဤသမ္ပယုတ္တပစ္စည်းသည် အချင်းချင်း အပြန်အလှန် ကျေးဇူးပြုမှုပါသောကြောင့် အညမညပစ္စည်း၏ သတ္တိမျိုးလည်း ရှိ၏၊ သို့သော် အညမညသတ္တိမှာ အချင်းချင်း အပြန်အလှန် ကျေးဇူးပြုရုံမျှသာ ဖြစ်၏၊ သမ္ပယုတ္တပစ္စည်းကား အချင်းချင်း အပြန်အလှန် ကျေးဇူးပြုရုံမျှသာ မဟုတ်မူ၍ သမ္ပယောဂလက္ခဏာလေးပါးတို့ဖြင့် အချင်းချင်း မျှတညီညွတ်စွာ ပေါင်းစပ်ယှဉ်တွဲခြင်းကိုသာ ဆိုလိုသည်၊ **အညမည** ပစ္စည်း၌မူကား မဟာဘုတ် ရုပ်အချင်းချင်းသော်လည်းကောင်း၊ ပဋိသန္ဓေနာမက္ခန္ဓာ နှင့် ဟဒယဝတ္ထုရုပ်တို့ အပြန်အလှန်အားဖြင့်သော်လည်းကောင်း ကျေးဇူးပြုခြင်း များ ပါဝင်နိုင်သည်၊ ဤ **သမ္ပယုတ္တပစ္စည်း၌ကား နာမ်ခန္ဓာလေးပါးတို့ အချင်းချင်း အပြန်အလှန် ကျေးဇူးပြုမှု တစ်မျိုးသာ ပါဝင်လေသည်။**

**ပစ္စည်းသုံးမျိုးအထူး။** ။အချုပ်အားဖြင့် မှတ်သားလွယ်အောင် ဖော်ပြပါမူ (၁) တစ်ပြိုင်နက် အတူတကွဖြစ်ပေးသော တရား အားလုံးသည် သဟဇာတပစ္စည်းဖြစ်၏၊ (၂) ထိုတရားများအနက်မှ အချင်းချင်း အပြန်အလှန် ကျေးဇူးပြုသော တရားများသည်သာလျှင် အညမညပစ္စည်းလည်း ဖြစ်၏၊ (၃) ထို အညမညဖြစ်သော အနန္တရ၊ သမနန္တရ၊ နတ္ထိ၊ ဝိဂတ ၄ ပစ္စည်း သည် သဘောထားအတူ ဖြစ်သဖြင့် ပစ္စည်း၊ ပစ္စယုပ္ပန် အားလုံး တူညီ၏။ ထို အညမညပစ္စည်းထိုက်သောတရားများအနက်မှ ဧကုပ္ပါဒစသော သမ္ပယောဂ လက္ခဏာလေးပါးနှင့်ညီညွတ်သောတရားများသာ သမ္ပယုတ္တပစ္စည်း တတ်နိုင်သည်။

ထိုအညမညပစ္စည်းထိုက်သောတရားများအနက်မှ ဧကုပ္ပါဒစသော သမ္ပယောဂလက္ခဏာလေးပါးနှင့်ညီညွတ်သောတရားများသာ သမ္ပယုတ္တပစ္စည်း တပ်နိုင်သည်။

အနန္တရ၊ သမနန္တရ၊ နတ္ထိ၊ ဝိဂတ ၄–ပစ္စည်းသည် သဘောထား အတူဖြစ်သဖြင့် ပစ္စည်း ပစ္စယုပ္ပန်အားလုံးတူညီသည်။

ပစ္စည်းလည်း နာမ်တရား ပစ္စယုပ္ပန်လည်း နာမ်တရားပင် ဖြစ်သည်။

အာသေဝန၊ သမ္ပယုတ္တ ၂–ပစ္စည်းသည် ပစ္စည်းလည်း နာမ်တရား၊ ပစ္စယုပ္ပန်လည်း နာမ်တရားပင် ဖြစ်သည်။

ထို့ကြောင့် နာမ်သည် နာမ်တရားအား ကျေးဇူးပြုပုံ ၆ပစ္စည်း ဖြစ်သည်။

## ၂။ နာမ်သည် နာမ်ရုပ်အား ၅–ပစ္စည်း ကျေးဇူးပြုပုံ

| | | |
|---|---|---|
| ဟိတ် ၆–ပါး<br>လောဘ+<br>+ဒေါသ<br>+မောဟ<br>+အလောဘ<br>+အဒေါသ<br>+အမောဟ | အတူယှဉ်ဘက်၊သဟိတ်စိတ် ၇၁၊ မောဟမူဒွေး၌ မောဟကြဉ်သော စေ ၅၂ နာမက္ခန္ဓာ + သဟိတ် စိတ္တဇရုပ်၊ သဟိတ်ပဋိသန္ဓေ ကမ္မဇရုပ်အား | ဟေတုပစ္စယ သတ္တိဖြင့် ကျေးဇူးပြု၏ |

| | | |
|---|---|---|
| ဈာနင်တရားကိုယ်၅–ပါး (တက်+စါ+ပီ+ဝေါကေဂ္ဂေ) | အတူယှဉ်ဘက်=စိတ်+စေ–နာမက္ခန္ဓာ စိတ္တဇရုပ်+ပဋိသန္ဓေကမ္မဇရုပ်အား | ဈာန |
| မဂ္ဂင်တရားကိုယ် ၉–ပါး (ပညာ+ဝိတက်+ဝိရတိ–၃ +ဝီရိယ+သတိ+ကေဂ္ဂတာ +ဒိဋ္ဌိ | အတူယှဉ်ဘက်–စိတ်+စေ–နာမက္ခန္ဓာ စိတ္တဇရုပ်+ပဋိသန္ဓေကမ္မဇရုပ်အား | မဂ္ဂ |

**လင်္ကာ** ✱ တက်၊ စာ+ပီ+ဝေ၊ ကေဂ္ဂေ၊ ငါးတွေ့ရှုဈာန။
ပဉ်+တက်+ဝါ+ကမ်၊အာဇီဝမ်။ ဝါယာမ်+သ+စိ+ဒိဋ္ဌ(မဂ္ဂင် ၉ပါး)

**ဟေတုပစ္စည်း**။ ။အကြောင်းရင်း၊ မူလ၊ ရေသောက်မြစ်သဖွယ် ကျေးဇူးပြုတတ်သောတရား ဟိတ် ၆–ပါးသည် ၎င်းနှင့်ယှဉ်ဘက် စိတ်+စေတသိက်+သဟိတ်စိတ္တဇ ရုပ် + သဟိတ်ပဋိသန္ဓေကမ္မဇရုပ်များ ဖြစ်ပွား လာအောင် ကျေးဇူးပြုသည်။

ဥပမာ သစ်ပင်၏ရေသောက်မြစ်သည် ပင်စည်၊ အကိုင်း၊ အခက်အလက်၊ အရွက်၊ အသီးတို့ကို ဖြစ်ပွားစေ သကဲ့သို့ ဖြစ်သည်။

ရေသောက်မြစ်နှင့်တူပုံ။ ။ "ရေသောက်မြစ်နှယ်၊ ကျေးဇူးကြွယ်၊ ကြီးကျယ် ကြောင်းရင်းများ"ဟူသော ပကိဏ်းပိုင်းကဗျာနှင့်

အညီ ဟိတ်ခြောက်ပါးတရားတို့သည် သစ်ပင်ကြီးတို့၏ ရေသောက်မြစ်ကြီးတို့နှင့် တူကုန်၏။ သစ်ပင်ကြီးတို့၏ ရေသောက်မြစ်ကြီးတို့သည် မြေ၌ ထောက်ရာတည်ရာ ပြု၍ သစ်ပင်ကြီးတို့ကို ခိုင်မြဲစည်ပင်စေကုန်ဘိသကဲ့သို့ ဟိတ်ခြောက်ပါးတရား တို့သည်လည်း အာရုံတည်းဟူသော မြေပေါ်၌ ထောက်ရာတည်ရာပြု၍ သမ္ပယုတ် တရားတို့ကို ခိုင်မြဲစည်ပင်စေကုန်၏။ ရေသောက်မြစ်ရှိနေမှုကြောင့် သစ်ပင်ကြီး တို့သည် အမျိုးမျိုးသော ကြီးပွားခြင်းဖြင့် ကြီးပွားနိုင်ကြကုန်သကဲ့သို့၊ ဟိတ် ခြောက်ပါးတရားရှိခြင်းကြောင့် သဟဇာတ်တရားတို့သည် အမျိုးမျိုးသော ကြီးပွားခြင်းဖြင့် ကြီးပွားနိုင်ကြကုန်၏။

**"ပစ္စယ"သဒ္ဒါသည် "ဥပကာရက"အနက်ရှိ၏၊ "ဥပကာရက" ဆိုသည်ကား ကျေးဇူးပြုတတ်သည် ထောက်ပံ့ချီးမြှောက်တတ်သည်ဟု ဆိုလိုသည်၊ ကျေးဇူးပြုမှုဆိုသည်ကား ဓိဓိထင်ရှားရှိနေခဲ့လျှင် ဓိဓိနှင့် စပ်ဆိုင်သောတရားတို့သည် မဖြစ်ပေါ်သေးလျှင်လည်း ဖြစ်ပေါ်ကြကုန်၏၊ ဖြစ်ပေါ်ပြီးရှိလျှင်လည်း တည်တံ့နိုင်ကြကုန်၏၊ တည်ပြီးသောတရားတို့သည် လည်း အဆင့်ဆင့် ကြီးပွားစည်ပင်ရန် အခြေအနေသို့ ရောက်ကြကုန်၏၊ ထိုသဘောမျိုးကို ကျေးဇူးပြုမှုဆိုသည်၊ ပရမတ္ထတရားတို့မှာ ကိုယ်တိုင် အားထုတ်မှု ကြောင့်ကြဗျာပါရစိုက်မှု မည်သည်မရှိကြလေကုန်၊ ဓိဓိထင်ရှား ရှိနေသည့်အတွက် ဓိဓိနှင့်စပ်ဆိုင်သမျှသောတရားတို့၏ အင်အားအမျိုးမျိုး နှင့်ပြည့်စုံမှုကိုသာလျှင် ဓိဓိက ကျေးဇူးပြုသည်ဟူ၍ ဆိုရပေသည်၊**
ဝိဂြိုဟ်ကား "ပဋိစ္စ ဧတိ ဖလံ ပဝတ္တတိ ဧတသ္မာတိ ပစ္စယော"၊ ဧတသ္မာ၊ ထိုအကြောင်းမှ။ ပဋိစ္စ၊ စွဲ၍။ ဧတိ၊ ဖြစ်တတ်၏။ ဖလံ၊ အကျိုး တရားသည်၊ ပဝတ္တတိ၊ ဖြစ်တတ်၏။ ဣတိ တသ္မာ၊ ထို့ကြောင့်၊ ပစ္စယော၊ ပစ္စယမည်၏၊ အကျိုးတရားတို့၏ စွဲ၍စွဲ၍ ဖြစ်ရာကို "ပစ္စယ"ခေါ်၏ ဟူလို၊ ပစ္စယုပ္ပန်မည်ပုံ၊ ကျေးဇူးခံစားရ၍ ပစ္စည်းကြောင့်ဖြစ်ရသောတရားကို "ပစ္စယုပ္ပန်" ဟူ၍ ဆိုရသည်၊

## မောဟမူဒွေ၌ရှိသော မောဟကို ကြဉ်ရခြင်း

မောဟမူဒွေ၌ ယှဉ်နေခိုက်ဖြစ်သော မောဟစေတသိက်သည် ဓိဓိကသာ ကျေးဇူးပြုရ၍ ပစ္စည်းသက်သက်ဖြစ်၏၊ မိမိကို ဟေတုကိစ္စဖြင့် ပြန်၍ ကျေးဇူးပြုမည့် တရားမရှိ။ ထို့ကြောင့် ထိုမောဟမူဒွေ၌ ယှဉ်နေခိုက်ဖြစ်သော မောဟကို ကြဉ်ရမည်။

လောဘမူ ဒေါသမူတို့၌ယှဉ်သော မောဟသည်မူကား မိမိကလည်း ဟေတုသတ္တိဖြင့် သမ္ပယုတ်တရားတို့ကို ကျေးဇူးပြု၏၊ မိမိကိုယ်လည်း လောဘ ဒေါသတို့က ဟေတုသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။ ထို့ကြောင့် ထိုမောဟကို ပစ္စယုပ္ပန်၌ သွင်းခွင့်ရလေသည်။

**စိတ္တဇရုပ်။** ။ရုပ်ပစ္စယုပ္ပန်၌ ရုပ်ပိုင်းတွင် ပြဆိုအပ်ပြီးသောအတိုင်း စိတ် ၇၅ ပါးကြောင့်ဖြစ်သော ရုပ်များကို "စိတ္တဇရုပ်"ဟူ၍ ခေါ်ရသည်။ ထိုစိတ္တဇရုပ်သည်လည်း သဟိတ်စိတ်ကြောင့်ဖြစ်သော "သဟိတ်စိတ္တဇရုပ်" အဟိတ်စိတ်ကြောင့်ဖြစ်သော "အဟိတ်စိတ္တဇရုပ်"အားဖြင့် နှစ်ပါးရှိပြန်၏။ ထိုတွင် သဟိတ်စိတ်ကြောင့်ဖြစ်သော သဟိတ်စိတ္တဇရုပ်တို့သည်သာလျှင် ဟိတ်တရားတို့၏ ကျေးဇူးပြုမှုကို ခံစားကြကုန်သဖြင့် ပစ္စယုပ္ပန်၌ ဝင်ကြရကုန်သည်။ အဟိတ်စိတ္တဇရုပ်တို့သည်ကား ဟိတ်၏ ကျေးဇူးကို မခံစားကြရကုန်သောကြောင့် ပစ္စယုပ္ပန် မထိုက် ပစ္စနိက်၌ ဝင်ကြရကုန်သည်။

**ပဋိသန္ဓေကမ္မဇရုပ်။** ။ပဋိသန္ဓေဝိညာဏ်နှင့်တကွဖြစ်သော ကမ္မဇရုပ်ကို "ပဋိသန္ဓေ ကမ္မဇရုပ်" ခေါ်သည်။ ထိုပဋိသန္ဓေကမ္မဇရုပ်သည်လည်း သဟိတ်ပဋိသန္ဓေကမ္မဇရုပ်,အဟိတ်ပဋိသန္ဓေကမ္မဇရုပ်အားဖြင့် နှစ်ပါးရှိပြန်၏။ ထို နှစ်ပါးတို့တွင် သဟိတ်ပဋိသန္ဓေ ၁၇-ပါးနှင့် အတူတကွဖြစ်သော သဟိတ်ပဋိသန္ဓေ ကမ္မဇရုပ်တို့သည်သာလျှင် ဟိတ်၏ ကျေးဇူးကို ခံစားကြရကုန်၏။ ထို့ကြောင့် ထိုသဟိတ်ပဋိသန္ဓေကမ္မဇရုပ်တို့ကို ပစ္စယုပ္ပန်၌ သွင်းရကုန်သည်။ အဟိတ်ပဋိသန္ဓေ နှစ်ပါးနှင့် အတူတကွဖြစ်သော အဟိတ်ပဋိသန္ဓေကမ္မဇရုပ်တို့သည်မူကား ဟိတ်၏ ကျေးဇူးကို မခံစားကြရကုန်။ ထို့ကြောင့် ပစ္စနိက်၌ ဝင်ကြရကုန်သည်။

## ကမ္မဇရုပ်ကို ပဋိသန္ဓေအခိုက်တွင် ကျေးဇူးပြုရခြင်းအကြောင်း

ဟေတု အစရှိသော သဟဇာတနာမ်ပစ္စည်းမျိုးတို့သည် မိမိတို့ကြောင့် ဖြစ်သည်မဟုတ်ဘဲ ကံကြောင့်သာလျှင် ဖြစ်ရသော ကမ္မဇရုပ်ကို ပဋိသန္ဓေအခိုက်မှာ အဘယ်ကြောင့် ကျေးဇူးပြုရပါသနည်းဟူမူ-ပဋိသန္ဓေအခိုက်၌ဖြစ်ရသော ရုပ်နာမ်စု သည် ဘဝသစ်၌ ရုတ်ခနဲ ရောက်လာကြကုန်သော အာဂန္တုဧည့်သည်တို့ဖြစ်လျက် ရှိနေကြကုန်၏။ မိမိတို့၏ ရှေ့၌ဖြစ်၍နေနှင့်သော အိမ်သည် အဟောင်းတရားများ လည်း မရှိကြကုန်။ ဧည့်သည်တို့မည်သည် တစ်ခုသော ဇရပ်စသည်၌ ဆုံမိကြ လျှင် ရှေးက တစ်စုံတစ်ရာ သိကျွမ်းဘူးသည် မဟုတ်ကြကုန်ဘဲ ဆွေမျိုး

ဉာတကာစသည်ဖြင့် တော်စပ်နိုးနွယ်ဘူးကြသည် မဟုတ်ကုန်ဘဲ လွန်စွာပင် ခင်မင်ကြကုန်၏။ ထိုအတူ ပဋိသန္ဓေအခိုက်၌ဖြစ်သော ပဋိသန္ဓေ နာမ်ခန္ဓာနှင့် ကမ္မဇရုပ်ခန္ဓာတို့သည် တစ်စုံတစ်ရာ စပ်လျဉ်းခြင်း မရှိကြကုန်သော်လည်း ညွှန်သည်ဖြစ်နေကြကုန်သောကြောင့် အချင်းချင်း အားကိုးအားထား ပြုကြရကုန်၏။ အချင်းချင်း ငဲ့ကြရကုန်၏။ အချင်းချင်း ပစ္စည်းပြုကြရကုန်၏။ ထို့ကြောင့် ဟေတုစသော သဟဇာတနာမ်ပစ္စည်းမျိုးတို့သည် မိမိတို့ကြောင့်ဖြစ်သည် မဟုတ်ဘဲ ကံကြောင့်သာဖြစ်သော ရုပ်တို့ကို ပဋိသန္ဓေအခါ၌ သဟဇာတကိစ္စဖြင့် ပစ္စည်းတပ်ကြရကုန်သည်။

## ပဝတ္တိအခါ၌ ကမ္မဇရုပ်နှင့် နာမ်ခန္ဓာတို့၏ အချင်းချင်း မငဲ့ပုံများ

ပဝတ္တိအခါ၌မူကား ညွှန်သည်ကိစ္စမှ ကျွတ်လွတ်ကြလေကုန်၏။ ကမ္မဇရုပ်ကလည်း နာမ်ခန္ဓာကို မငဲ့ဘဲ မိမိအကြောင်းအားလျော်စွာသာလျှင် ဖြစ်လေ၏။ နာမ်ခန္ဓာကလည်း ကမ္မဇရုပ်ကို မငဲ့ မိမိကြောင့်ဖြစ်သော စိတ္တဇရုပ်ကိုသာ ငဲ့လေ၏။ ပဝတ္တိအခါ၌ နာမ်ခန္ဓာနှင့်ကမ္မဇရုပ်တို့၏ အချင်းချင်းမငဲ့ကြပုံကို နိရောဓသမာပတ်ဝင်စား၍ နေသော ပုဂ္ဂိုလ်မှာ နာမ်ခန္ဓာမရှိဘဲလျက် ကမ္မဇရုပ်ခန္ဓာ၏ အစဉ်မပြတ်ဖြစ်နေပုံကို မြင်၍ သိသာလှ၏။

## ပဝတ္တိအခါစိတ်သည် စိတ္တဇရုပ်ကိုသာ ငဲ့ပုံ

ပဋိသန္ဓေအခါ၌ ပဋိသန္ဓေစိတ်သည် စိတ္တဇရုပ်ကို မဖြစ်စေနိုင်။ ထို့ကြောင့် မိမိကြောင့်ဖြစ်၍ သားသမီးနှင့်တူသော စိတ္တဇရုပ်ကို ငဲ့စရာမရှိ။ အတူတကွ ဖြစ်သော ညွှန်သည်မိတ်ဆွေ ကမ္မဇရုပ်ကိုသာလျှင် ငဲ့ရလေသည်။ ပဝတ္တိအခါ၌မူကား စိတ်သည် စိတ္တဇရုပ်ကိုဖြစ်စေသဖြင့် မိမိမှာ ငဲ့စရာ သားသမီးကို ရလေ၏။ ထိုအခါ၌မူကား မိမိ၏ သားသမီးနှင့်တူသော စိတ္တဇရုပ်ကိုသာ ပစ္စည်းပြုသောအားဖြင့် ငဲ့လေ၏။ မစပ်မဆိုင်သော ကမ္မဇရုပ်ကို အမှုမစိုက်အားနိုင်ဘဲ ကျေးဇူးပြုမှုမှ လက်လွှတ်ရလေသည်ဟူ၍လည်း ကြံစည်ရာ၏။

စိတ္တုပ္ပါဒ်တစ်ခု၌ နာမ်ခန္ဓာ,ရုပ်ခန္ဓာတို့အား ဟေတုပစ္စည်းတပ်ပုံကို ပြဆိုဦးအံ့။

လောဘမူ ပဌမ အသင်္ခါရိကစိတ်ဖြင့် ပြဆိုမည်။ ။ ထိုလောဘမူ ပဌမအသင်္ခါရိကစိတ် ဖြစ်ပေါ်သောအခါ စေတသိက်ပေါင်း ၁၉-ပါး ပါရှိ၏။ မိမိတည်းဟူသော စိတ်ကို ထည့်လျှင် ၂၀ ဖြစ်၏။ ၎င်းနာမ်တရား ၂၀ အပေါင်းကို

နာမ်ကလာပ်တစ်ခုဟူ၍ ဆိုအပ်၏။ ။ ထိုစိတ်ဖြစ်သည်နှင့် တပြိုင်နက် စိတ္တဇ ရုပ်ကလာပ်တို့သည်လည်း ဖြစ်ပေါ်ကြကုန်၏။ ။ နာမ်ကလာပ် ၂၀ တို့တွင် လောဘ၊ မောဟအားဖြင့် ဟိတ်တရားနှစ်ပါး ပါရှိ၏။ ။ထိုဟိတ်နှစ်ပါးသည် သဟဇာတ်ဖြစ်သော နာမ် ၁၈–ပါးတို့အား ဟေတုပစ္စည်းတပ်၏။ နာမ် ၁၈ပါး သည် ပစ္စည်းပြုခံရသောကြောင့် ပစ္စယုပ္ပန်ဖြစ်၏။ ယခင်ဟိတ်နှစ်ပါးသည် မိမိနှင့် အတူဖြစ်သော စိတ္တဇရုပ်တို့အား ဟေတုပစ္စည်း တပ်၏။ စိတ္တဇရုပ်တို့သည် ပစ္စည်းပြုခံရသောကြောင့် ပစ္စယုပ္ပန် မည်ကုန်၏။ ။ ဟိတ် ၂–ပါးတို့တွင် လောဘကို ပစ္စည်းဆိုလျှင် မောဟသည် ပစ္စယုပ္ပန်ဘက်က နေ၏။ မောဟကို ပစ္စည်းဆိုလျှင် လောဘသည် ပစ္စယုပ္ပန်ဘက်က နေ၏။ ဤသို့ အချင်းချင်းလည်း ဟေတုသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။

ပဋိသန္ဓေအခိုက်၌ ဟေတုပစ္စည်းတပ်ပုံကို ဆိုဦးအံ့– ဂဗ္ဘသေယျကပုဂ္ဂိုလ်၏ မဟာဝိပါက် သောမနဿ ဉာဏသမ္ပယုတ် ပထမစိတ်ဖြင့် ပြဆိုမည်။ ။ထို မဟာဝိပါက် ပထမစိတ်သည် ဂဗ္ဘသေယျကပုဂ္ဂိုလ်၌ ပဋိသန္ဓေကိစ္စဖြင့် ဖြစ်ပေါ် လာသောအခါ မိမိနှင့်အတူ သမ္ပယုတ်တရားပေါင်း ၃၃–ပါး ပါရှိ၏။ မိမိကို ထည့်လျှင် ၃၄–ပါးဖြစ်၏။ ထိုနာမ်ပေါင်း ၃၄–ပါးကို နာမ်ကလာပ်တစ်ခု ခေါ်၏။ ထိုပဋိသန္ဓေ ဝိညာဏ်စိတ်နှင့် တပြိုင်နက် ကမ္မဇကလာပ် သုံးစည်းလည်း ဖြစ်ပေါ် လာ၏။ ယင်းနာမ်ကလာပ်တွင် အလောဘ၊ အဒေါသ၊ အမောဟ အားဖြင့် ဟိတ် ၃–ပါး ပါရှိ၏။ ထိုဟိတ် ၃–ပါးသည် သမ္ပယုတ်ဖြစ်သော နာမ် ၃၁–ပါးတို့အား ဟေတုသတ္တိဖြင့် ကျေးဇူးပြု၏။ ထိုမှတပါး မိမိနှင့် အတူတကွ သဟဇာတ်ဖြစ် သော ကမ္မဇကလာပ် ၃–စည်းတို့အားလည်း ဟေတုသတ္တိဖြင့် ကျေးဇူးပြု၏။ ကျေးဇူးပြုခံရသော နာမ်ခန္ဓာ ရုပ်ခန္ဓာတို့သည် ဟေတုပစ္စည်း၏ ပစ္စယုပ္ပန် အတွင်းသို့ ဝင်ရောက်ကြရကုန်၏။ ဤသို့စသော အမြွက်ဖြင့် ဟေတုပစ္စည်း၏ ကျေးဇူးပြုပုံကို အကျယ်ဝေဖန်၍ သိရာ၏။

**ဟေတုပစ္စည်းပြီး၏။**

*****

စျာနပစ္စည်း။ ။ စိုက်စိုက်စူးစူး၊ အထူးထင်ရှားအောင် ရှုတတ်သည် ဖြစ်၍ ကျေးဇူးပြုတတ်သောတရား။ စျာနင်တရားကိုယ် ၅ပါးသည် ၎င်းနှင့်ယှဉ်ဘက် စိတ်+ စေတသိက်+စိတ္တဇရုပ်+ ပဋိသန္ဓေကမ္မဇရုပ်တို့အား စိုက်စိုက်စူးစူး အထူးထင်ရှား အောင် ကျေးဇူးပြုတတ်၏။

ဥပမာ။ အဝေး၌ တည်၍ သေးငယ်သောမှတ်တိုင်စက်ကွင်းကို မြားဖြင့် မှန်အောင်ပစ်လိုသော လေးသမားသည် လေးကို မြဲစွာ ကိုင်၍ ပစ်မှတ်တည့်တည့်ကို သေသေချာချာ တည့်အောင်ချိန်၊ စိုက်စိုက်စူးစူး ပြူးပြူးထင်ရှားအောင် ကြည့်၍ ပစ်မှတ်ကို တည့်အောင်ပစ်သော လေးသမား ကဲ့သို့ စျာနင်တရားကိုယ် ၅ပါးသည် ဆိုင်ရာအာရုံ၌ စိုက်စိုက်စူးစူး အထူး ထင်ရှားအောင် ရှုတတ် ကျေးဇူးပြု တတ်၏။

တစ်နည်း သစ်ပင်ထိပ်ဖျား၊ တောင်ထိပ်ဖျားတို့၌ တည်သော သူကဲ့သို့ အဝေးရှုခင်း မြင်ကွင်းတို့ကို ထင်ရှားအောင် ရှုကြည့်နိုင် မြင်နိုင်၏။

စျာန်ကိစ္စ ဝိတက်စသော တရားငါးပါးတို့၏ ပူးပေါင်း ဆောင်ရွက်မှုကြောင့် အာရုံကို စူးစိုက်စွာ ရှုခြင်း ဟူသော စျာန်ကိစ္စ ပြီးမြောက်ရပုံကို ပေါ်လွင် ထင်ရှားစေရန် ထိုတရားများ၏ သဘောလက္ခဏာ အသီးအသီးကိုလည်း ပြန်လည် လေ့လာအပ်ပေသည်။

ဝိတက် သည် သမ္ပယုတ်တရားတို့ကို အာရုံသို့ ရှေးရှုတင်ပေးခြင်း လက္ခဏာ ရှိ၏။ ထိုသို့ တင်ပေးခြင်းဖြင့် စိတ်ကို အာရုံ၌ မြဲမြံစွာ ယှဉ်စပ် ပူးတွဲ၍ထားသကဲ့သို့ ဖြစ်၏။

ဝိစာရ သည် အာရုံကို အဖန်ဖန် အထပ်ထပ် သုံးသပ်ခြင်းလက္ခဏာရှိ၏။ သို့ဖြစ်၍ အာရုံနှင့် စိတ်အစဉ်မပြတ် ယှဉ်စပ်ပူးတွဲနေစေရန် ဝိစာရ က လှံ့ဆော်ပေးသကဲ့သို့ ရှိသည်။

ပီတိ သည် အာရုံကို ချစ်ခင်မြတ်နိုးခြင်း လက္ခဏာရှိ၏။ သို့ဖြစ်၍ စိတ်ကို အာရုံပေါ်၌ နှစ်သက်ပျော်မွေ့စေလျက် ထိုအာရုံမှ ထွက်ခွာမသွား ချင်အောင် ပီတိက ဆွဲဆောင်ထားသည်။

(သုခ) သည်လည်း အာရုံကို ခံစားခြင်းကိစ္စဖြင့် စိတ်ကို အာရုံ၌ ခိုင်မြဲစွာ
ဝေဒနာ ဖွဲ့စပ်ထားသည်။

ကေဂ္ဂတာ သမာဓာန လက္ခဏာရှိသော ဧကဂ္ဂတာသည်ကား စိတ်ကို အာရုံ တစ်ခုတည်းပေါ်၌ မလှုပ်မရှက် ငြိမ်သက်စွဲမြဲနေအောင် ပြုလုပ်ပေး သည်။

ဤသို့လျှင် အသီးအသီးသော လက္ခဏာများဖြင့် ဝိတက်စသော တရားတို့သည် ဈာန်ကိစ္စကို ဆောင်ရွက်ကြပေသည်။

**ဝိတက်ရှေ့ဆောင်ပုံ**

ဈာန်အင်္ဂါငါးပါးတို့တွင် ဝိတက်သည် ရှေ့သွားခေါင်းဆောင်ဖြစ်၏။ ဝိတက်က စိတ်ကို အာရုံပေါ်သို့ရောက်အောင် တင်မပေးလျှင် စူးစိုက်စွာ ရှုခြင်း ဈာန်ကိစ္စသည် မဖြစ်မြောက်နိုင်ပေ၊ ထို့ကြောင့် ဝိတက်နှင့်မယှဉ်သော ဒွေပဉ္စဝိညာဏ်တစ်ဆယ်တို့၌ (သုခ)ဝေဒနာ၊ ဧကဂ္ဂတာဟူသော ဈာနင်တရားကိုယ် ၂-ပါး ပါဝင်သော်လည်း ၎င်းတို့သည် ဈာန်ပစ္စည်း မတပ်ချေ။ ဒုတိယဈာန်စသော စိတ်တို့သည်ကား ဝိတက်နှင့်မယှဉ်သော်လည်း ဝိတက်နှင့်ယှဉ်သော ပထမဈာန် ကို အခြေထား၍ တိုးတက်ပွားများရသော ဘာဝနာအစွမ်းကြောင့်သာလျှင် ဖြစ်ပေါ်နိုင်ကုန်၏။ ထို့ကြောင့် ဈာန်ပစ္စည်း တပ်ကုန်၏။

**ဈာန်၏အစွမ်း**

ဈာန်အင်္ဂါ ၅-ပါးတို့၏ အထွတ်အထိပ်ကား ဧကဂ္ဂတာဖြစ်၏။ မှန်၏၊ အာရုံတစ်ခုတည်းပေါ်၌ မလှုပ်မရှက် ငြိမ်သက်တည်ကြည်ခြင်းသည် ဈာန်၏ ထူးခြားသော အစွမ်းသတ္တိဖြစ်ပေသည်။ ထို့ကြောင့် အမြင့်ဆုံးဖြစ်သော ပဥ္စမ ဈာန်၌ ဝိတက်၊ ဝိစာရစသည်တို့ မရှိတော့ဘဲ ဥပေက္ခာ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါ ၂-ပါးသာ ရှိတော့သည်။

**ဈာန်စိတ်ဟု ခေါ်ရပုံ**

အထက်ပါ ဈာန်အင်္ဂါ ၅-ပါးတို့သည် ဒွေပဉ္စဝိညာဏ်ကြဉ်သော ကာမ စိတ်တို့၌လည်းကောင်း၊ မဟဂ္ဂုတ်လောကုတ္တရာစိတ်တို့၌လည်းကောင်း ထိုက်သည့် အားလျော်စွာရှိကြ၏။ ထိုသို့ရှိသော်လည်း အဘိဓမ္မာ၌ မဟဂ္ဂုတ်စိတ် ၂၇-ပါး ကိုသာ ဈာန်စိတ်ရှိသော အမည်ဝိသေသဖြင့် ခေါ်ဝေါ်လျက်ရှိ၏။ ယင်းသို့ ဈာန်အင်္ဂါနှင့် ယှဉ်သောစိတ်အများရှိသည့်အနက်မှ မဟဂ္ဂုတ်စိတ်တို့ကိုသာ

ဈာန်စိတ်ဟူ၍ အထူးပြု ခေါ်ဝေါ်ရခြင်းကား အကြောင်းထူးရှိသောကြောင့် ဖြစ်၏။ ကာမစိတ်တို့သည် အကြောင်းတိုက်ဆိုင်ရုံမျှနှင့်ပင် ဖြစ်ပေါ်လာနိုင်သည်၊ ဥပမာဆိုသော် ကောင်းသောအဆင်းကို မြင်လျှင် နှစ်သက်တပ်မက်သည့် တဏှာ လောဘစိတ် ဖြစ်သကဲ့သို့တည်း၊ မဟဂ္ဂုတ်စိတ်တို့မှာမူကား အကြောင်းတိုက်ဆိုင်ရုံ မျှနှင့် ပေါ်မလာနိုင်၊ ကသိုဏ်း စသော အာရုံတစ်မျိုးမျိုး၌ စူးစိုက်စွဲမြဲစွာ ရှုခြင်းဟူသော သမထဘာဝနာကို ပွားများမှသာလျှင် မဟဂ္ဂုတ်စိတ်တို့သည် ဖြစ်ပေါ်နိုင်၏၊ ဖြစ်ပေါ်သည့်အခါ၌လည်း ကာမစ္ဆန္ဒစသော နီဝရဏတို့မှ ဝေးကွာ သဖြင့် အာရုံတစ်မျိုးတည်းအပေါ်၌ ကြာမြင့်စွာ စူးစိုက်နိုင်၏။ ကာမစိတ်များကဲ့သို့ အာရုံ အမျိုးမျိုးသို့ ပြောင်းရွှေ့မှု မများချေ။ ထို့ကြောင့် မဟဂ္ဂုတ်စိတ်တို့သည် ဈာန်စိတ်ဟူသော အမည်ဝိသေသကို ရရှိခြင်းဖြစ်သည်။

လောကုတ္တရာစိတ်တို့သည်ကား နိဗ္ဗာန်တစ်မျိုးတည်း၌ စူးစိုက်စွာ ရှုသော် လည်း ကိလေသာကို ပယ်သတ်ခြင်းကိစ္စ၊ ငြိမ်းအေးစေခြင်းကိစ္စအားဖြင့် မဂ် စိတ်၊ ဖိုလ်စိတ်ဟူသော အမည်ထူးကို ရပြီးဖြစ်သောကြောင့် ဈာန်စိတ်ဟူ၍ မခေါ်ပေ။ (သို့ရာတွင် အချို့နေရာများ၌ ဈာန်ကို အခြေပြု၍ရသော မဂ်ဖိုလ် တို့ကို ပရိယာယ်အားဖြင့် ဈာန်ဟူ၍ ခေါ်ထားသည်ကို တွေ့ရ၏။)

## ဈာန်အင်္ဂါတို့၏ သတ္တိကွဲပြားပုံ

မဟဂ္ဂုတ်ဈာန်စိတ်တို့၌ရှိသည့် ဝိတက်၊ ဝိစာရ၊ ပီတိ (ဝေဒနာ) သုခ၊ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါငါးပါးတို့နှင့် ကာမစိတ်တို့၌ရှိသည့် ယင်းဈာန် အင်္ဂါငါးပါးတို့မှာ သတ္တိချင်း ကွဲပြားကြသည်။

မဟဂ္ဂုတ်ဈာန်စိတ်၌ရှိသော ဈာန်အင်္ဂါတို့သည် ကိစ္စနှစ်ပါးကို ဆောင်ရွက် နိုင်သည့် သတ္တိထူးများရှိကြသည်။ ယင်းဈာန်အင်္ဂါတို့သည် (၁) အာရုံကို စူးစူး စိုက်စိုက်ရှုခြင်းကိစ္စ (၂) ဈာန်၊ ကုသိုလ်တို့၏ ဆန့်ကျင်ဘက်ဖြစ်သော နီဝရဏ ငါးပါးတို့ကို လောင်ကျွမ်းဖုတ်မြိုက်ခြင်း ကိစ္စတို့ကို ဆောင်ရွက်ကြသည်။

**မဂ္ဂပစ္စည်း** ။ ။ ခရီးလမ်းသဖွယ်၊ ယာဉ်+ရထားသဖွယ် လိုရာ ခရီးသို့ ရောက်စေအောင် ကျေးဇူးပြုတတ်သော တရား

မဂ္ဂင်တရားကိုယ် ၉ပါးသည် မိမိနှင့်ယှဉ်ဘက်စိတ်+ စေတသိက် +စိတ္တဇရုပ်တို့ကိုဖြစ်စေကာ (ကောင်းသောသမ္မာမဂ္ဂင်နှင့်ယှဉ်ဘက်တရား

တို့က သုဂတိဘုံ နိဗ္ဗာန်ဘုံတို့သို့၎င်း၊ မကောင်းသောမိစ္ဆာမဂ္ဂင်နှင့် ယှဉ်ဘက်တရားတို့က ဒုဂ္ဂတိဘုံသို့၎င်း ပို့ဆောင်သဖြင့် ကျေးဇူးပြုသည်။)

ဥပမာ။ ပကတိသော ခရီးလမ်း၊ ယာဉ်၊ ရထားတို့သည် ခရီးသွားသူအား အလိုရှိသောအရပ်ဒေသသို့ရောက်အောင် ပို့ဆောင်ပေးသကဲ့သို့ ဖြစ်သည်။

| | | | |
|---|---|---|---|
| စိတ် ၈၉ခု၌ရှိသော ပစ္စုပ္ပန်စေတနာ ၈၉ ခုသည် | တကွဖြစ်သောစိတ်-၈၉+စေတနာကြဉ် စေ-၅၁၊စိတ္တဇရုပ်,ပဋိသန္ဓေကမ္မရုပ်အား | သဟဇာတကမ္မ | ကမ္မ |
| အသီးသီးသောခဏ၌ ဖြစ်သောအတိတ်-ကုသိုလ်+အကုသိုလ် စေတနာသည် | ကံကြောင့်ဖြစ်သော ဝိပါက် နာမက္ခန္ဓာကဋတ္တာရုပ်တို့အား | နာနက္ခဏိကကမ္မ | |
| အလုံးစုံသောဝိပါက် ၃၆+ပဝတ္တိ ပဋိသန္ဓေနာမက္ခန္ဓာ တို့သည် | အချင်းချင်းအားငြင်း အချင်းချင်းနာမက္ခန္ဓာ၊စိတ္တဇရုပ် ပဋိသန္ဓေကမ္မဇရုပ်တို့အား၎င်း | **ဝိပါက**-ပစ္စယသတ္တိဖြင့် ကျေးဇူးပြု၏။ | |

**လင်္ကာ** - သဟဇာတ၊ နာနခဏာ၊ စေတနာ၊ မှတ်ပါနှစ်ကမ္မ။
**သ**, မှာ+လုံးစုံ၊ နာမှာတုံ၊ ကု+ကို- အတိတ်ရ။
သုံးဆယ့်ခြောက်ထွေ၊ ဝိ-စိတ်+စေ၊ မှတ်လေဝိပါက။

**ကမ္မပစ္စည်း** မျိုးဗီဇသဖွယ်၊ အတူဖြစ်ဘက် ရုပ်+နာမ်တရားတို့ကို ပြုပြင်စီရင်ဖန်တီးတတ်၊ ဖြစ်စေတတ်သော စေတနာကို ကံဟုခေါ်သည်။

(ကံဖြစ်၍ ကျေးဇူးပြုတတ်သောတရား ပြုပြင်စီမံ ဖန်တီးတတ် ဖြစ်စေတတ်သည်ဖြစ်၍ ကျေးဇူးပြုတတ်သောတရား ဖြစ်သည်။)

ကမ္မ ၂-မျိုး ။ သဟဇာတကမ္မနှင့် နာနက္ခဏိကကမ္မဟု ၂-မျိုး ရှိသည်။

**သဟဇာတကမ္မ** စိတ် ၈၉-ပါး၌ ရှိသော ပစ္စုပ္ပန်စေတနာ ၈၉-ပါးသည် မိမိနှင့်အတူတကွဖြစ်ဘက်၊ စိတ်+စေတသိက်+စိတ္တဇ

ရုပ်+ပဋိသန္ဓေကမ္မရုပ်တို့အား ဖြစ်ပွားအောင် မြဲမြံ တည်တံ့အောင် ကျေးဇူးပြုတတ်၏။

ဥပမာ။ သစ်ပင်တို့၏အမြစ်မျိုးဓာတ်သည် အတူတကွဖြစ်ဘက် သစ်ပင်အားပွားစည်းအောင် တည်တံ့ခိုင်မြဲအောင် ပြုပြင်စီရင်သောအားဖြင့် ကျေးဇူးပြုသကဲ့သို့ဖြစ်သည်။

**နာနက္ခဏိကကမ္မ** အသီးသီးသော ခဏဌ်ဖြစ်သော အတိတ်ဖြစ်သော ကုသိုလ်ကံ၊ အကုသိုလ်ကံ စေတနာသည် ထိုကံကြောင့် ဖြစ်ပေါ်သော ဝိပါက်နာမက္ခန္ဓာ၊ ကဋတ္တာရုပ်တို့အား ကံ၏ အကျိုးတရားများအဖြစ် ဖြစ်ပေါ်အောင် ပြုပြင်စီမံ ဖန်တီးသောအားဖြင့် ကျေးဇူးပြု၏။

ဥပမာ။ မျိုးစေ့အမျိုးမျိုးတို့သည် မိမိတို့ဆိုင်ရာ သရက်၊ ပိန္နဲစသော ပင်စည် အဖူးအညွန့် အခက်အလက် အသီးအရွက် စသည်ကိုဖြစ်စေသည်။ မျိုးစေ့ဗီဇဓာတ် အလျောက် အချို အချဉ် စသည်တို့ကိုဖြစ်စေသကဲ့သို့ ကျေးဇူးပြုသည်။

ကမ္မပစ္စယဌ် "ကာယဂ်၊ ဝါစဂ်၊ စိတ္တဂ်ါဘိသခ်ရဏဘူတေန စိတ္တပ္ပယောဂသခ်ါတေန ကိရိယာဘာဝေန ပစ္စယော ဥပကာရကောတိ ကမ္မပစ္စယော"။ ကါယဂ်၊ ဝါစဂ်၊ စိတ္တဂ်ါဘိသခ်ရဏဘူတေန=ကိုယ်အမှုအရာ၊ နှုတ်အမှုအရာ၊ စိတ်အမှုအရာကို ပြုပြင်စီရင်မှုဖြစ်၍ဖြစ်သော။ စိတ္တပ္ပယောဂသခ်ါတေန= စိတ်၏ကြောင့်ကြ ဗျာပါရစိုက်ထုတ်မှုဟု ဆိုအပ်သော။ ကိရိယာဘာဝေန= အပြုအမှု၏ အဖြစ်ဖြင့်။ ပစ္စယောဥပကာရကော= ကျေးဇူးပြုတတ်သည်တည်း။ ဣတိတသ္မာ= ထို့ကြောင့်။ ကမ္မပစ္စယော၊ ကမ္မပစ္စည်းမည်၏။ အဝိပ္ပါယ်ကား တပည့်ကြီး လက်သမားကြီးတို့ကဲ့သို့ မိမိ၏ကိစ္စ၊ သူတပါးတို့၏ ကိစ္စများကို ပြီးစီးအောင် ကြောင့်ကြောင့်ကြကြ ဗျာပါရစိုက်ထုတ်မှုဖြင့် ကျေးဇူးပြုသောပစ္စည်းသည် ကမ္မပစ္စည်း မည်၏။ သမ္ပယုတ်တရားစုနှင့် စိတ္တဇရုပ်၊ ပဋိသန္ဓေ ကမ္မဇရုပ်တို့အား ကမ္မပစ္စယသတ္တိဖြင့် ကျေးဇူးပြုသောစေတနာသည် သဟဇာတကမ္မပစ္စည်း မည်၏။

ဤသဟဇာတကမ္မပစ္စည်းသည် သဟဇာတပစ္စည်းကြီးအတွင်းမှ စေတနာ တစ်ခု သက်သက်ကို ခွဲထုတ်၍ ဟောအပ်သော ပစ္စည်းပေတည်း။

ပစ္စည်းပြုပုံကား သဟဇာတပစ္စည်းကဲ့သို့ပင်တည်း။

**ပစ္စည်းပြုပုံအမြွက်ကား။** ။ လောဘမူ ပထမ အသင်္ခါရိကစိတ်မှာ စေတသိက် တစ်ဆယ့်ကိုးနှင့်တကွ နာမ်တရားပေါင်း ၂၀ ရှိ၏။ ထိုနာမ်ကလာပ်တွင် စေတနာစေတသိက်ပါရှိ၏။ ထိုလောဘမူစိတ်ဖြစ်သည်နှင့် တပြိုင်နက် စိတ္တဇရုပ်လည်း ဖြစ်ပေါ်၏။ ထိုသို့ဖြစ်ရာ စေတနာစေတသိက်သည် မိမိနှင့် သမ္ပယုတ်ဖြစ်သော နာမ်တရား တစ်ဆယ့်ကိုးပါးတို့အား ကမ္မသတ္တိဖြင့် ကျေးဇူးပြု၏။ သဟဇာတဖြစ်သော စိတ္တဇရုပ်အားလည်း ကမ္မသတ္တိဖြင့် ကျေးဇူးပြု၏။ ပဋိသန္ဓေအခိုက်ကား ပဋိသန္ဓေဝိညာဏ်နှင့် သမ္ပယုတ်ဖြစ်သော စေတနာသည် မိမိနှင့် သမ္ပယုတ်ဖြစ်သော ပဋိသန္ဓေနာမက္ခန္ဓနှင့် သဟဇာတ် ဖြစ်သော ပဋိသန္ဓေကမ္မဇရုပ်တို့အား ကမ္မသတ္တိဖြင့် ကျေးဇူးပြုပေ၏။

နာနာက္ခဏိကာ၌ "အတ္တနော ပစ္စယုပ္ပန္နဓမ္မပဝတ္တိက္ခဏတော ဝိသုံ ဘူတေ အတီတေ နာနာခဏေ သိဒ္ဓါတိ နာနာက္ခဏိကာ"။ အတ္တနော= မိမိ၏။ ပစ္စယုပ္ပန္နဓမ္မပဝတ္တိက္ခဏတော= အကျိုးဖြစ်သော ပစ္စယုပ္ပန် တရား၏ဖြစ်သောကာလမှ။ ဝိသုံဘူတေ= အသီးအခြားဖြစ်၍ ဖြစ်သော။ အတီတေ= အတိတ်ဖြစ်သော။ နာနာခဏေ= ခဏအထူးထူး၌။ သိဒ္ဓါ= ပြီးစီးလေသည်တည်း။ ဣတိ တသ္မာ= ထို့ကြောင့်။ နာနာက္ခဏိကာ= နာနာက္ခဏိကာ မည်၏။ ပြဆိုအပ်ပြီးသော အတိတ်စေတနာ ၃၃-ပါး တို့ကို ရစေ။ ထို ၃၃-ပါးသော အတိတ်စေတနာ တို့သည်သာလျှင် ဘုံပိုင်း၌ ပြဆိုအပ်ပြီးသောအတိုင်း ကံအမျိုးမျိုးဖြစ်ကြကုန်သည်။ ထို နာနာက္ခဏိကကမ္မစေတနာ တို့သည်ပင်လျှင် သုံးဆယ့်တစ်ဘုံတို့၌ အမျိုးမျိုးသော ဝိပါက်တို့ကို ဖြစ်စေနိုင်ကုန်သည်။ ကမ္မဇရုပ်အမျိုးမျိုးကို ဖြစ်စေနိုင်ကုန်သည်။ နာနာတ္တကာယ နာနာတ္တသညီအစရှိသော ဘဝ ကိုးပါးကို ဖြစ်စေနိုင်ကုန်သည်။ ဇလာဗုဇ အစရှိသော ပဋိသန္ဓေလေးမျိုးကို ဖြစ်စေနိုင်ကုန်သည်။

စေတနာ၏ သဘောနှစ်မျိုးကို ပြဆိုဦးအံ့။ ။ စေတနာမည်သည် ဖြစ်ပေါ်၍လာသည်ရှိသော် နှစ်ပါးသောကိစ္စကို ဆောင်ရွက်လျက်သာ ဖြစ်ပေါ်၍ လာ၏။ ကိစ္စနှစ်ပါးကား မိမိနှင့်တကွဖြစ်သော သဟဇာတ် တရားကို စီရင် နှိုးဆော်ခြင်းကိစ္စ၊ နောင် အနာဂတ်ကာလ၌ အကျိုးဝိပါက်နှင့်ကမ္မဇရုပ်များကို ဖြစ်ပေါ်စေခြင်းငှါ မျိုးထားခြင်းကိစ္စများပေတည်း။ ထိုနှစ်ပါးတို့တွင် နောင်အကျိုး

ဝိပါက်နှင့် ကမ္မဇရုပ်တို့ကို ဖြစ်ပေါ်အောင် မျိုးထားခြင်းကိစ္စကိုမူကား ကုသိုလ်စိတ် အကုသိုလ်စိတ်တို့၌သာ ရအပ်၏။ ထိုမျိုးထားခြင်းကိစ္စကို ဆောင်ရွက်သော ကုသိုလ် စေတနာ အကုသိုလ်စေတနာ ၃၃-ပါးတို့ကိုပင် နာနာက္ခဏိကစေတနာ ဟူ၍ ခေါ်ဆိုရလေသည်။

သဟဇာတ်တရားတို့ကို စိရင်ခြင်း၊ စေ့ဆော်ခြင်းကိစ္စကိုမူကား စိတ်တစ်ခု ယုတ်ကိုးဆယ်တို့မှာ အလုံးစုံ ရအပ်၏။ ထိုသို့ သဟဇာတ် တရားတို့ကို စိရင် စေ့ဆော်တတ်သောစေတနာကို သဟဇာတပစ္စည်းတပ်သော စေတနာဟူ၍ ဆိုအပ်၏။

**ကိစ္စနှစ်ပါးကိုဆောင်သည့် စေတနာမျိုး။** ။ကုသိုလ် အကုသိုလ်တို့၌ ယှဉ်သော စေတနာသည် သဟဇာတ်တရား တို့ကို စိရင်စေ့ဆော်ခြင်း= သံဝိဓာနကိစ္စ၊ မျိုးထားခြင်း= ဗီဇနိဓာနကိစ္စ နှစ်ပါးစုံကို ဆောင်ရွက်ပေ၏။

**ကိစ္စတစ်ပါးကိုသာဆောင်သည့် စေတနာမျိုး။** ။ ဝိပါက်စိတ်၊ကြိယာစိတ်တို့ ၌ ရှိသောစေတနာသည် မူကား သဟဇာတ်တရားတို့ကို စိရင် နှိုးဆော်ခြင်း သံဝိဓာန ကိစ္စတစ်ပါးကိုသာလျှင် ရွက်ဆောင်နိုင်၏ဟူ၍ ဝေဖန်၍ သိရာ၏၊ ဥပမာအားဖြင့် မိန်းမနှင့်ယောကျာ်းတို့၏ ပေါင်းဖော်စည်းဝေးခြင်းသည် ကာမသုခကို ခံစားခြင်းကိစ္စ၊ နောင်အခါ သားသမီး ကို ဖြစ်ပွားစေရန် သားအိမ်အတွင်း၌ မျိုးထားခြင်းကိစ္စ နှစ်ပါးကို ပြီးစေဘိသကဲ့သို့ စေတနာ၏ သတ္တိကို သိရာ၏။

**မျိုးထားမှုကိစ္စ။** ။ နောင်အခါ ဝိပါက်နာမက္ခန္ဓာ ကဋတ္တာရုပ်တို့ကို ဖြစ်စေရန် မျိုးထားမှုဟု ဆိုအပ်သော ဗီဇနိဓာန ကိစ္စသည် လျှင်မြန်စွာ အကျိုးမပေးနိုင်သေး၊ သရက်မျိုးစေ့ အစရှိသည်တို့သည် သရက်ပင်ပေါ်၌ သရက် သီး၏အတွင်း၌ ရင့်၍နေခြင်း၊ မြေဥတု၊ ရေဥတုစသည်တို့ကို ငံ့လင့်၍နေခြင်း စသည်တို့ဖြင့် ကြာမြင့်မှ သရက်ပင်တည်းဟူသော အကျိုးကို ဖြစ်ပေါ်စေသကဲ့သို့ ဝိပါက်နာမက္ခန္ဓာကဋတ္တာရုပ်တို့ကိုဖြစ်စေရန် အကြောင်းအမျိုးမျိုးတို့နှင့် ပြည့်စုံသော အခါသို့ကျရောက်ပါမှ ထိုဝိပါက်နာမက္ခန္ဓာ ကဋတ္တာရုပ်တည်းဟူသော အကျိုးတို့ကို ဖြစ်ပေါ်စေနိုင်သည်။ ထိုနာနာက္ခဏိကဖြစ်သော အတိတ်စေတနာသည် ချုပ်လေ ပြီး၍ ထင်ရှားမရှိသော်လည်း ထို မိမိဖြစ်ရာ စိတ်သန္တာန်မှာ နောင်အကြောင်း ပြည့်စုံသောအခါ ထိုက်သက်ရာအကျိုးကို ဖြစ်ပေါ်စေရန် ဗီဇနိဓာနသတ္တိ

အထူးကို ထားခဲ့လေ၏။ ထို ဗီဇနိတာနသတ္တိအထူး၏ ထင်ရှားရှိမှုကြောင့်သာလျှင် အကြောင်းပြည့်စုံသောအခါ အကျိုးတို့သည် ပေါ်ပေါက်၍ လာနိုင်ကြကုန်သည်။ ထိုသတ္တိအထူးသည် ဥပါဒ်၊ ဌီ၊ ဘင် အားဖြင့် ထင်ရှားမရှိသော်လည်း အနုသယ ဓာတ်ကဲ့သို့ ထင်ရှားရှိသည်သာလျှင် ဖြစ်၏။ အနုသယဓာတ်ကို ပညတ်ဟူ၍ မဆိုရသကဲ့သို့ ဤ နာနာက္ခဏိကကမ္မပစ္စယသတ္တိကိုလည်း ပညတ်ဟူ၍ မဆိုရပေ။ ပရမတ်တို့၏သတ္တိအထူးပေတည်း ဟူ၍သာလျှင် ခိုးမှမ်းထိုက်ပေ၏။

**ဝိပါကပစ္စည်း။** အကျိုးတရားသက်သက်ဖြစ်၍ ကျေးဇူးပြုတတ်သောတရား၊ ဝိပါက်စိတ်ဟူသော အကျိုးတရားတို့သည် အချင်းချင်းအားငင်း အချင်းချင်း နာမက္ခန္ဓာ၊ စိတ္တဇရုပ်၊ ပဋိသန္ဓေကမ္မဇရုပ်တို့အား အကျိုးတရား သက်သက်အနေဖြင့် (ကြောင့်ကြဗျာပါဒ မရှိတော့ဘဲ၊ အစွမ်းသတ္တိတိုးတက်မဖြစ်ပေါ်တော့ပဲ) အေးငြိမ်းစွာ ကျေးဇူးပြု၏။

ဥပမာ။ အစွမ်းကုန်မှည့်ပြီးသော သစ်သီးသည် စားသုံးဖို့ အကျိုးသက်သက်သာ ဖြစ်တော့သည်။ ထပ်၍တိုး၍ ရင့်စရာ၊ မှည့်စရာအကြောင်း ဗျာပါဒမရှိတော့ပဲ၊ မှည့်ရင့်ခြင်း၏ အဆုံးသို့ ရောက်သဖြင့် အေးငြိမ်းစွာ ကျေးဇူးပြုသကဲ့သို့ဖြစ်သည်။

ဤပစ္စည်း ၅မျိုးသည် ပစ္စည်းဘက်တွင် နာမ်တရားသာဖြစ်၍ ပစ္စယုပ္ပန်၌ နာမ်ရုပ် ၂မျိုးပါရှိသဖြင့် နာမ်သည် နာမ်ရုပ်အား ကျေးဇူးပြုသည့် ၅ပစ္စည်း ဖြစ်သည်။

## ၃။ နာမ်သည် ရုပ်အား ၁ပစ္စည်း (ပစ္ဆာဇာတ)

| | | |
|---|---|---|
| (အရူပဝိပါက် ၄ပါးကြဉ်) နောက်နောက်ဖြစ်သော စိတ် ၈၅+စေ ၅၂+ နာမက္ခန္ဓာတို့သည် | သတ္တဝါတို့သန္တာန်၌၊ ပဋိသန္ဓေအစ ရှိသော ရှေးရှေးစိတ်နှင့်အတူဥပါဒ် ၍- ရုပ်၏ဌီသို့ရောက်သော ကေ ဇကာယ+ဒွိ+တိ+စတုဇကာယအား | ပစ္ဆာ ဇာတ |

လင်္ကာ * သတ္တိရှိနေ၊ ဌိရုပ်ထွေအား၊ စိတ်စေ ၂၉ဖြာ၊ နောက်နောက်လာ၊
တည်ဌါပစ္ဆာဇ။
နာမ်သည်ရုပ်အား၊ မျိုးတစ်ပါး၊ မှတ်သား ပစ္ဆာဇာ။

**ပစ္ဆာဇာတပစ္စည်း** ။ နောက်မှနေ၍ ကျေးဇူးပြုတတ်သောတရား (အရူပဝိပါက် ၄ပါးကြဉ်) နောက်နောက်မှ ဖြစ်သောစိတ်+ စေတသိက် နာမက္ခန္ဓာတို့သည် ရှေးရှေးပဋိသန္ဓေတည်သည်မှစ၍ ဖြစ်လာသောရုပ်တရားတို့အား နောက်မှနေ၍ ကျေးဇူးပြုသည်။

ဥပမာ ။ ရှေ့အရင်ပေါက်ရောက်ကြီးပွားပြီးသော သစ်ပင်တို့ကို နောက်ပိုင်းမှ သွန်းလောင်းထည့်အပ်သော ရေအမျိုးမျိုး၊မြေဆီသြဇာ အမျိုးမျိုးတို့သည် ဆထက်တိုးကာ ကြီးပွားစည်ပင်စေသကဲ့သို့ ကျေးဇူးပြုခြင်းပင်ဖြစ်သည်။

**တစ်နည်း။** ။ လင်းတငယ်လေးများသည် မိခင်လင်းတများ အစာရှာ၍ ကြာညောင်း နေသော်လည်း မိခင်လင်းတကြီးပြန်လာလိမ့်မည်၊ အစားအစာများ ပါလာလိမ့်မည်ဟူသော မျှော်လင့်ချက် အာသာဆန္ဒ+တဏှာစိတ်ဖြင့်သာ သူတို့၏ရုပ်ခန္ဓာကိုယ် ကြီးပြင်းလာရ၏။ ဤဥပမာတွင် နောက်မှဖြစ်သော အာသာဆန္ဒ၊ တဏှာစိတ်+ စေတသိက်(**နာမ်တရား**)တို့က ရှေးဦးအရင် မွေးဖွားပြီးသော လင်းတငယ်လေးတို့၏ (**ရုပ်ခန္ဓာကိုယ်**)အား နောက်မှနေ၍ ကျေးဇူးပြုခြင်းကို ပစ္ဆာဇာတပစ္စည်းဖြင့် ကျေးဇူးပြုသည်ဟု ခေါ်သည်။

၄။ ရုပ်သည် နာမ်အား၊ မျိုးတစ်ပါး၊ မှတ်သားပုရေဇာ

| | | | |
|---|---|---|---|
| အာရုံငါးပါးတို့သည် | ပဉ္စဝိညာဏ ဝီထိစိတ်တို့အား | အာရမ္မဏ ပုရေဇာတ | ပုရေဇာတ |
| ဝတ္ထုရုပ် ၆ပါးတို့သည် | ပဝတ္တိအခါသတ္တ- ဝိညာဏဓာတ် တို့အား | ဝတ္ထုပုရေ ဇာတ | |

**လင်္ကာ** ✱ ဝတ္ထုပုရေ၊ အာပုရေ၊ နှစ်ထွေပုရေဇ။
ရှေး၌ပုံသေ၊ ဖြစ်ခဲ့ပေ၊ မှတ်လေပုရေဇ။

**ပုရေဇာတပစ္စည်း။** ရှေးကအရင်ဖြစ်နှင့်၍ ကျေးဇူးပြုတတ်သောတရား။

အာရုံငါးပါးသည် ရှေးကဖြစ်နေမှ၊ အာရုံငါးပါးကြောင့်ဖြစ်သော ပဉ္စဝိညာဏဝီထိစိတ်(ကာမစိတ် ၅၄ပါး)တို့ ဖြစ်ပေါ်ရ၏။

ဝတ္ထုရုပ် ၆ပါးသည် ရှေးကရှိနှင့်နေဖြစ်နေမှ ဝတ္ထုရုပ်ကို မှီ၍ ဖြစ်သော သတ္တဝိညာဏဓာတ်များ (အရူပ ၄ ကြဉ်စိတ် ၈၅ပါး) ဖြစ်ရသည်။ ဤသို့လျှင် အာရုံငါးပါးနှင့် ဝတ္ထုရုပ် ၆ပါး တို့သည် ရှေးကဖြစ်နှင့်နေ၍ ကျေးဇူးပြုသည်။

ဥပမာ။ ရှေးကမ္ဘာဦးအစက ပေါ်ခဲ့သော လ၊ နေတို့သည် နောက်မှဖြစ်သော သစ်ပင်၊ ပန်းမာလ်နှင့်လူအစရှိသော သက်ရှိသက်မဲ့ တို့အား အပူအအေးနှင့်အလင်းရောင်တို့ကိုပေးကာ ရှေးကဖြစ်နှင့်နေ၍ ကျေးဇူးပြုသကဲ့သို့ ဖြစ်သည်။

မှတ်ချက်။ အာရမ္မဏပုရေဇာတပစ္စည်းတရားကို သင်္ဂြိုဟ်ကျမ်းလာ အတိုင်း အာရုံငါးပါးကိုသာ ကောက်ပြသည်။
"ပစ္စုပ္ပန်နိပ္ဖန္နရုပ် အဌာရသ"ကို ပစ္စည်းအဖြစ်ယူ၍ ကောက်သည် ကို သုံးချက်စုနှင့် ပဋ္ဌာန်းကျမ်းကြီးတို့မှ ယူပါကုန်။

## ၄။ ပညတ်+နာမ်+ရုပ်သည်နာမ်အား ၂ပစ္စည်း
## (အာရမ္မဏ၊ ဥပနိဿယ)

လင်္ကာ ✱ ပညတ်+နာမ်+ရုပ် နာမ်အား ဒုက်၊ အဟုတ် ဥ+အာရမ်။

| | | | |
|---|---|---|---|
| စိတ်-၈၉+စေ ၅၂+ရုပ်-၂၈+ နိဗ္ဗာန်+ပညတ်ဟူသောအာရုံ ၆-ပါး ပစ္စည်းတရားတို့သည် | စိတ် ၈၉+စေ ၅၂ နာမ်တရားတို့အား | အာရမ္မဏ (၁) | |
| အလေးအမြတ်ပြုအပ်သော ဣဋ္ဌဖြစ်သော ရုပ် + နာမ် + နိဗ္ဗာန်တရား တို့သည် | အလေးအမြတ်ပြုတတ် သော လောဘမူ ၈ + မဟာကု ၈ + မဟာကြိ ဉာဏသမ်ပ္ပ+လေ့ကုတ္တရာ ၈-ခု၊ နာမက္ခန္ဓာတို့အား | အာရမ္မ ဏူပနိဿ ယ | ဥပနိဿယ (၂) |
| အခြားမရှိ၊ ရှေ့ဦးချုပ်ပြီး (ရဟန္တာတို့ စုတိကြဉ်စိတ် ၈၉+စေ ၅၂ + ပဝတ္တိ ပဋိသန္ဓေနာမက္ခန္ဓာ၄-ပါး) စိတ် + စေတရားတို့သည် | ရဟန္တာတို့ စုတိနှင့်တကွ နောက်နောက်သောစိတ် + စေတသိက်တို့အား | အနန္တ ရူပ နိဿယ | |
| အားကြီးသော ရာဂစသော အကုသိုလ်တရားများ၊ သဒ္ဓါ စသော ကုသိုလ်တရားများ၊ ကာယိကသုခ၊ကာယိကဒုက္ခ၊ ပုဂ္ဂိုလ်၊ ဘောဇဉ်၊ ဥတု၊ ကျောင်းအိပ်ရာ၊နေရာတို့သည် | ထိုက်သည့်အားလျော်စွာ အဇ္ဈတ္တ(ကိုယ်တွင်း)၊ဗဟိဒ္ဓ (ကိုယ်ပ)သန္တာန်တို့၌ ကုသိုလ်+အကုသိုလ်စသော တရားတို့အား | ပကတူပ နိဿယ | |
| အားကြီးသောကုသိုလ်+ အကုသိုလ်စေတနာကံသည် | ဝိပါက် ၃၆-နာမက္ခန္ဓာ တို့အား | | |

(ဥပနိဿယ ၃မျိုး)လင်္ကာ အာရမ္မဏူ၊ နန္တရူနှင့်၊ ပကတူပေ၊ ဤသုံးထွေ၊ ခွဲလေဥပနိဿယ
အာရမ္မဏူ+အာဓိပတူ၊ နန်မူ+နန္တရ၊
အားကြီးမှီရာ၊ ပြုတုံပါ၊ မှတ်ပါဥပနိဿယ။

မှတ်ချက်။ အာရမ္မဏူပနိဿယသည် အာရမ္မဏာ ဓိပတိနှင့်တူ၏။
(နောက်၌ ထင်ရှားလတ္တံ့)
အနန္တရူပ နိဿယသည် အနန္တရနှင့် တူ၏။

လကာ်ာ နာမ်+ရုပ်+ပညတ်၊အဇ္ဈတ်+ဗဟိဒ္ဓါ၊ ကျယ်ဝန်းစွာ၊ သညာ ပကတူပ။ ပကတူတုံ၊ အကြွင်းပုံ၊ လုံးစုံနာမ်အားသာ။

**အာရမ္မဏပစ္စည်း**။ အာရုံဖြစ်၍ ကျေးဇူးပြုတတ်သောတရား၊

အာရုံပြုစရာတရားများ မရှိလျှင်၊ စိတ်+စေတသိက်နာမ်တရားများဖြစ်ပေါ်လာဖို့ အကြောင်းမရှိပေ၊ အာရုံ ၆–ပါး (စိတ်+စေ+ရုပ်+နိဗ္ဗာန်+ပညတ်)တရားတို့သည် ဆိုင်ရာနာမ်တရားများ ဖြစ်ပေါ်လာအောင် ကျေးဇူးပြုပေး၏။

ဥပမာ။ တောင်ဝှေး၊ ကြိုးတန်းတို့သည် အားနည်းသောအဘိုးအိုအဖွားအိုပုဂ္ဂိုလ်တို့အတွက် ဆွဲကိုင်မှီတွယ်ရာဖြစ်သကဲ့သို့ အာရုံ ၆–ပါးသည် စိတ်+စေတသိက်တရားတို့၏ ဆွဲကိုင်မှီတွယ်ရာအဖြစ် ကျေးဇူးပြုသည်။

တစ်နည်းဥပမာ။ အာရုံ ၆–ပါး ပစ္စည်းတရားတို့သည် ရိုးရိုးသံတုံးသံခဲနှင့်တူ၏။

စိတ်+စေတသိက်(အာရမ္မဏိက ပစ္စယုပ္ပန်တရား)တို့သည် သံလိုက်ဓာတ်ရှိသော သံနှင့်တူ၏၊ အာရုံသံတုံးသံခဲမရှိသော်၊ သံလိုက်ဓာတ်သည် ဆွဲယူစရာ မရှိတော့ပေ၊ ထို့ကြောင့် အာရုံနှင့် အာရမ္မဏိက(စိတ်+စေ)တရားတို့သည် သံတုံးသံခဲနှင့် သံလိုက်ဓာတ်ပမာ ကျေးဇူးပြုကြသည်။

အကြီးကျယ်ဆုံးပစ္စည်း။ ။ ပဋ္ဌာန်းပစ္စည်း နှစ်ဆဲ့လေးပါးတို့တွင် ဤအာရမ္မဏပစ္စည်းသည် အကြီးအကျယ်ဆုံးသော ပစ္စည်းကြီးဖြစ်၏။ အာရမ္မဏပစ္စည်းမထိုက်သော ပရမတ်တရား၊ ပညတ်တရားဟူ၍ တစ်စုံတစ်ရာမျှ မရှိချေ။

**နိဗ္ဗာန်သည် အာရမ္မဏနှင့် အာရမ္မဏာဓိပတိ၌သာ ပါပုံ။** ။ နိဗ္ဗာန်တရားသည် နှစ်ဆယ့်လေးပစ္စည်းတို့တွင် အာရမ္မဏပစ္စည်းနှင့် အာရမ္မဏာဓိပတိတို့မှာသာ ပါဝင်၏။ အခြားပစ္စည်းတို့၌ မပါဝင်ချေ။ နိဗ္ဗာန်သည် အပစ္စယ၊ အသင်္ခတ

တရားဖြစ်၍ တစ်စုံတစ်ခုသောပစ္စည်း၏ အကျိုးဖြစ်သော ပစ္စယုပ္ပန်တွင်းသို့လည်း မပါမဝင်ချေ။ တစ်စုံတစ်ရာသောနည်းနှင့်မှ ပစ္စယုပ္ပန်ထိုက်သောတရား မဟုတ်။ အကြောင်းကြောင့် ဖြစ်ပေါ်သောတရား မဟုတ်ဟူ၍ ဆိုလိုသည်။ ထို့ကြောင့် နိဗ္ဗာန်မှာ ပဒဋ္ဌာန်မရှိဟု ဆိုရလေသည်။ နိဗ္ဗာန်သည် ပစ္စယုပ္ပန်ဖြစ်ထိုက်သည်၊ ပစ္စယုပ္ပန် မဖြစ်ထိုက်ဟု လျှဉ်းပါးဖွယ် မရှိပေရကား နှစ်ဆယ့်လေးပစ္စည်းတို့၏ ပစ္စနိက်၌ သွင်းဖွယ်ကိစ္စမရှိဘဲ ဖြစ်လေသည်။ ရုပ်တရားတို့သည် အနာရမ္မဏ တရားဖြစ်၍ အာရုံပြုနိုင်သောတရား မဟုတ်ကုန်ရကား အာရမ္မဏပစ္စယုပ္ပန် မထိုက်၍ အာရမ္မဏပစ္စနိက်၌ ဝင်ကြလေကုန်သည်။

**ဥပနိဿယပစ္စည်း**။ အားကြီးသောအကြောင်းဖြစ်၍ ကျေးဇူးပြုသော တရား ပင်ကိုယ်သဘောအားဖြင့်ပင်၊ ရာဂစသောအကုသိုလ်တရားများ၊ သဒ္ဓါစသော ကုသိုလ်တရားများ၊ ဥတု၊ ဘောဇဉ်၊ သေနာသန၊ ပုဂ္ဂိုလ် တို့သည် သတ္တဝါတို့၏ အဇ္ဈတ္တ(ကိုယ်တွင်းသန္တာန်)၊ ဗဟိဒ္ဓ(ကိုယ်ပသန္တာန်)၊ ကိုယ်တွင်းကိုယ်ပ နှစ်ဌာနလုံး၌၊ ကုသိုလ်တရား၊ အကုသိုလ်တရားများ ဖြစ်ပေါ်ရန်၊ ချမ်းသာ ဆင်းရဲတို့ကို ဖြစ်ပေါ်စေရန်၊ ပကတိ ပင်ကိုယ် သဘောအားဖြင့်ပင် အားကြီးသော မှီရာဖြစ်နေသည်။

ဥပမာ။ ။ ပကတိပင်ကိုယ်သဘောအားဖြင့်ပင် မိုးရေသည် သက်ရှိ သတ္တဝါတို့နှင့် ရေကို မှီကြသောသစ်ပင်တို့အတွက် အားကြီးသော မှီရာဖြစ်သည်။ မိဘကောင်း၊ ဆရာကောင်းတို့သည် သားသမီး၊ တပည့်တို့ ကြီးပွားရေး အသိအလိမ္မာရရှိရေးအတွက် အားကြီးသော မှီရာဖြစ်သည်။ ဥတု၊ ဘောဇဉ်၊ သေနာသန၊ ပုဂ္ဂိုလ်တို့သည် သတ္တဝါ တို့ ချမ်းသာရေး၊ ဆင်းရဲဒုက္ခရောက်ရေးအတွက် အားကြီးသောအနေ ဖြင့် မှီရာဖြစ်နေသည်။

ပကတူပနိဿယ= ပကတိ+ ဥပနိဿယ။

ပကတိ= ပင်ကိုယ်အနေအားဖြင့်ပင်၊ ဥပနိဿယ= အားကြီးသော မှီရာဖြစ်နေသည့်တရား။

အားကြီးသောကုသိုလ်+အကုသိုလ်စေတနာတို့သည်၊ ပင်ကိုယ် သဘောအားဖြင့်ပင် (ဝိပါက် ၃၆+နာမကမ္မဇရှာဟူသော) ကုသိုလ်+

အကုသိုလ်အကျိုးတရားတို့ကို ဖြစ်ပေါ်စေရန် အားကြီးသောမှီရာဖြစ်၍ ကျေးဇူးပြု၏။

ဥပနိဿယ၌ "ဗလဝတရော နိဿယောတိ ဥပနိဿယော"။ ဗလဝတရော၊ အားကြီးလှစွာသော။ နိဿယော၊ မှီရာတည်း။ ဣတိတသ္မာ၊ ထို့ကြောင့်၊ ဥပနိဿယော၊ ဥပနိဿယမည်၏။ အားကြီးသောမှီရာကို ဥပနိဿယ ခေါ်၏ဟူလို။ ဤအရာ၌ ဥပသဒ္ဒါသည် အားကြီးလှသည်ဟု ဆိုအပ်သော ဗလ အနက်ကို ဟော၏။

နိဿယနှင့် ဥပနိဿယနှစ်ပါးတို့၏အထူးကို သလေးထမင်းဥပမာဖြင့် ထင်စွာပြဆိုအံ့။ သလေးထမင်းဖြစ်ရန် အကြောင်းအများတို့တွင် ထမင်းချက်သမားသည်၎င်း ထမင်းအိုးသည်၎င်း ထင်းသည်၎င်း မီးသည်၎င်း ရှိခဲ့၏။ ထို ထမင်းချက်သမားစသော အကြောင်းတို့သည် နိဿယပစ္စည်းမျှသာဖြစ်ကုန်၏။ အားကြီးသော မှီရာဟုဆိုအပ်သော ဥပနိဿယပစ္စည်းမူကား မဖြစ်နိုင်ကြကုန်။ သလေးမျိုးစေ့၊ သလေးစပါး၊ လယ်ခင်း၊ မိုယ်းရေတို့သည်သာလျှင် သလေးထမင်း ၏ ဥပနိဿယပစ္စည်း ဖြစ်နိုင်ကြကုန်၏။ ထိုစကား မှန်၏။ သလေးမျိုးစေ့၊ သလေးစပါး၊ လယ်ခင်း၊ မိုယ်းရေတို့ မရှိကြကုန်လျှင် ထမင်းချက်သမားနှင့် ထမင်းအိုးစသည်တို့သည် သလေးထမင်းဖြစ်အောင် ဘယ်သို့ အစွမ်းထုတ်နိုင် ကြကုန်လိမ့်မည်နည်း။ ပြဆိုအပ်ပြီးသော သလေးမျိုးစေ့စသည်တို့၏ ရှိမှု ကြောင့်သာလျှင် ထမင်းချက်သမားနှင့် ထမင်းအိုးစသည်တို့သည် သလေးထမင်း ဖြစ်အောင် အစွမ်းထုတ်နိုင်ကြလေကုန်သည်။ ထိုဥပမာနှင့်အတူ အကြောင် အကြောင်း မရှိခဲ့ပါလျှင် နိဿယဖြစ်သော မှီရာအကြောင်းတို့ပင်လည်း မရှိနိုင် ကြကုန်။ မှီတတ်သော နိဿိတပစ္စယုပ္ပန်တို့သည်မူကား ဘယ်မှာရှိနိုင်တော့ မည်နည်း။ ထိုသို့ နိဿယပစ္စည်း၏ အကြောင်းဖြစ်နိုင်သောတရားစုကို နိဿယ ပစ္စည်းထက်ပင် အားအင်ရှိသောကြောင့် ဥပနိဿယပစ္စည်း ဟူ၍ ဆိုရလေသည်။

သာမညမှီရာဖြစ်သော ပစ္စည်းသည် နိဿယပစ္စည်းမည်၏။ အားကြီးသော မှီရာဖြစ်သောပစ္စည်းသည် ဥပနိဿယပစ္စည်း မည်၏ဟူ၍ အကျဉ်းအားဖြင့် သိမှတ်လေ။

**အာရမ္မဏူပနိဿယ** ။ ဥပနိဿယပစ္စည်း သုံးမျိုးတို့တွင် သာမည ဖြစ်သော အာရုံစုသည် စိတ်၊ စေတသိက်တို့အား ဥပနိဿယသတ္တိဖြင့် ကျေးဇူးပြုခြင်းငှါ မတတ်နိုင်ကြကုန်။ ဂရုကတ၊ ဣဋ္ဌဖြစ်သော အဓိပတိအာရုံတို့သည်သာလျှင်

အားကြီးသော မှီရာအဖြစ်ဖြင့် စိတ်၊ စေတသိက်တို့အား ကျေးဇူးပြုနိုင်ကြကုန်သည်။ ထို့ကြောင့် အာရမ္မဏာဓိပတိပစ္စည်းကို ဥပနိဿယပစ္စည်း မည်၏ဟူ၍ အကျဉ်းအားဖြင့် သိမှတ်လေ။

**အနန္တရူပနိဿယ ။** ။ နောက်နောင်စိတ်ကို ဖြစ်စေရန် ကျေးဇူးပြုသော တရား တို့တွင် အခြားမဲ့ဖြစ်သော အနန္တရရှေ့စိတ်စုသည် အားကြီးသော မှီရာ အကြောင်း ဖြစ်ပေ၏။ ထို့ကြောင့် အနန္တရပစ္စည်းကို ဥပနိဿယပစ္စည်း၌ သွင်းပြန်၍ အနန္တ ရူပနိဿယပစ္စည်းဟူ၍ ဟောတော်မူရပြန်သည်။

**ပကတူပနိဿယမည်ပုံ ။** ။ ပကတူနိဿယ၌ "ပကတိယာယေဝ ဥပနိဿယောတိ ပကတူပနိဿယော"။ ပကတိယာယေဝ၊ အာရုံအနန္တရတို့နှင့် မရောမဖက် သက်သက် ပကတိသဘောမျိုးအားဖြင့်သာလျှင်။ ဥပနိဿယော၊ အားကြီးသော မှီရာအကြောင်းပစ္စည်းတည်း။ ဣတိတသ္မာ၊ ထို့ကြောင့်။ ပကတူပနိဿယော၊ ပကတူပနိဿယမည်၏။ အဓိပ္ပာယ်ကား ပြဆိုအပ်ပြီးသော အာရမ္မဏာဓိပတိမျိုး၊ အနန္တရမျိုးတို့နှင့် မရောမရှက် သက်သက် သဘောမျိုးအားဖြင့် အားကြီးသော မှီရာဖြစ်သော ပစ္စည်းကို ပကတိသဒ္ဒါဖြင့် အထူးပြု၍ ပကတူပနိဿယပစ္စည်းဟု ဆိုအပ်ပေသည် ဟူလို။ ဤဝိဂြိုဟ်ကား "ပကတိယာယေဝ ဝါ ဥပနိဿယော ပကတူပနိဿယော။ အာရမ္မဏာနန္တရေဟိ အသမ္မိဿောတိ အတ္ထော" ဟူသော ပဋ္ဌာန်းအဋ္ဌကထာနှင့်အညီ ဆိုအပ်သော ဝိဂြိုဟ်ပေတည်း။

တစ်နည်းကား- ပကတောဥပနိဿယော၊ ပကတော၊ မိမိသန္တာန်၌ ကောင်းစွာပြုအပ်၊ဖြစ်အပ်သော၊မှီဝဲအပ်သော။ ဥပနိဿယော၊ အားကြီးသော မှီရာတည်း။ ဣတိတသ္မာ၊ ထို့ကြောင့် ပကတူပနိဿယော၊ ပကတူပနိဿယမည်၏။ အဓိပ္ပါယ်ကား သင့်တင့်လျှောက်ပတ်သောအခါကာလ၌ အကျိုးဖြစ်သောပစ္စယုပ္ပန် တရားတို့ စင်စစ်ဖြစ်ပွားစေရန် ကောင်းစွာပြုအပ်ဖြစ်စေအပ် မှီဝဲအပ်သော အားကြီးသောမှီရာအကြောင်းကို ပကတ သဒ္ဒါဖြင့် အထူးပြု၍ ပကတူပ နိဿယ ပစ္စည်းဟု ဆိုအပ်လေသည်။

ပကတူပနိဿယပစ္စည်း၌-ကု-ကု၊ အကု၊ အဗျာကတ အားလည်းကောင်း

အကု - ကု၊ အကု၊ အဗျာကတ အားလည်းကောင်း

အဗျာကတ- ကု၊ အကု၊ အဗျာကတ အားလည်းကောင်း

အလုံးစုံ ကျေးဇူးပြုနိုင်ကြကုန်၏။

ပကတူပနိဿယ၏ ပစ္စည်းတပ်ပုံကို အမြွက်မျှ ပြဆိုအံ့။ ပဋ္ဌာန်းပါဠိတော်၌ ဟောတော်မူအပ်ကုန်သော ရာဂ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ပတ္ထနာတရားတို့နှင့်တကွ ပဥ္စာနန္တရိယသို့ မရောက်သော အကုသိုလ်တရားတို့သည် ထိုက်သည်အားလျော်စွာ မိမိအဇ္ဈတ္တသန္တာန်၌ စတုဘူမကကုသိုလ်တို့ ဖြစ်ပွားရန် ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကုန်၏။ ပဥ္စာနန္တရိယထိုက်သော အကုသိုလ်တို့သည်မူကား စတုဘူမကကုသိုလ်တို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူး မပြုနိုင်ကုန်၊ ကာမာဝစရကုသိုလ်အားသာလျှင် ကျေးဇူးပြုနိုင်၏။ အဘယ်ကြောင့် နည်းဟူမူ ပဥ္စာနန္တရိယကံထိုက်သော သူ၏သန္တာန်မှာ ရူပကုသိုလ်၊ အရူပကုသိုလ်၊ လောကုတ္တရာကုသိုလ်တို့ ဖြစ်ပွားခြင်းငှါ မတတ်နိုင်သောကြောင့်တည်း။

ပြဆိုအပ်ပြီးသော ရာဂစသော တရားတို့က ကုသိုလ်ဖြစ်ပွားရန် ကျေးဇူး ပြုဟန်ကား ပညာအဆင်အခြင်နှင့်ပြည့်စုံသော ပုဂ္ဂိုလ်သည် မိမိသန္တာန်၌ ဖြစ်ဘူး သော ရာဂစသည်တို့၏ အပြစ်ဒေါသ အာဒီနဝကို သိမြင်၍ ထိုရာဂစသည်တို့ကို ပယ်ဖျောက်ခြင်းငှါ ဒါနကိုသော်လည်း ပြု၏၊ သီလကိုသော်လည်း ဆောက်တည်၏၊ ဘာဝနာကိုသော်လည်း ပွားများ၏၊ ရူပဈာန်ကို ရအောင်သော်လည်း ကြိုးစား၏၊ အရူပဈာန်ကို ရအောင်သော်လည်း ကြိုးစား၏၊ လောကုတ္တရာကုသိုလ်ဖြစ်သော မဂ်ကိုသော်လည်း ကြိုးစား၏၊ ထိုအခါ ထိုပုဂ္ဂိုလ်၏ သန္တာန်၌ ကာမာဝစရ စသော ကုသိုလ်တို့သည် ဖြစ်ပွားကြကုန်၏၊ ထိုကုသိုလ်တို့သည် ရာဂစသည်ကို ဥပနိဿယပစ္စည်းပြု၍ ဖြစ်ကြကုန်သောကြောင့် မိမိသန္တာန်၌ ဖြစ်ဘူးကုန်သော ရာဂအစရှိသည်တို့သည် စတုဘူမကကုသိုလ်တို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကုန်၏။

ပြဆိုအပ်ပြီးသော ရာဂအစရှိသော အကုသိုလ်တရားတို့သည် အဇ္ဈတ္တ သန္တာန် ဗဟိဒ္ဓသန္တာန်တို့၌ ထိုက်သည်အားလျော်စွာ ပါဏာတိပါတစသော အကုသိုလ်စိတ်တို့ကို ဖြစ်ပွားရန် ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။ ကာယိကသုခ၊ ကာယိကဒုက္ခ အစရှိကုန်သော အဗျာကတဝိပါက်တရားတို့ကို ဖြစ်ပွားစေရန်လည်း ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကုန်၏။

(ဤကား အကုသိုလ်တရားတို့က ကုသိုလ်၊ အကုသိုလ်၊ အဗျာကတ တို့အား ပကတူပနိဿယသတ္တိဖြင့် ပစ္စည်းပြုပုံတည်း။)

ပဋ္ဌာန်းပါဠိတော်၌ ဟောတော်မူအပ်ကုန်သော သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာတရားတို့နှင့်တကွသော ကုသိုလ်တရားတို့သည် ထိုက်သည်အားလျော်

စွာ အဇ္ဈတ္တသန္တာန် ဗဟိဒ္ဓသန္တာန်တို့၌ စေတဘူမကကုသိုလ်တရားတို့ ဖြစ်ပွားရန် ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။ ရာဂအစရှိသော အကုသိုလ် တရားတို့ ဖြစ်ပွားရန်လည်း ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။ သုခ ဒုက္ခအစရှိသော စေတဘူမက အဗျာကတ ဝိပါက်တရားတို့ ဖြစ်ပွားရန်လည်း ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။ ပစ္စည်းပြုပုံအမြွက်ကား သဒ္ဓါ တရားရှိသောသူသည် အဆင့်ဆင့် ထပ်ကာထပ်ကာ သဒ္ဓါတရား ပွားများလေ့ ရှိ၏။ ပညာရှိသောသူသည် အဆင့်ဆင့် ထပ်ကာထပ်ကာ ပညာကို ဆည်းပူး လေ့ရှိ၏။ (ဤကား ကုသိုလ်က ကုသိုလ်အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူး ပြုပုံတည်း။)

ဒါနပြုပြီးလျှင် ထိုဒါနကို သာယာ၏၊ ဒါနအတွက် မာနတက်၏၊ ဒါန စေတနာကို ငါဟု စွဲလမ်း၏။ လှူခါကျလေသော ဈာန်ကုသိုလ်အတွက် အမျက် ရှလေ၏၊ ဤသို့စသည်ဖြစ်သောအခါတို့၌ ကုသိုလ်သည် အကုသိုလ်အား ပကတူပ နိဿယသတ္တိဖြင့် ကျေးဇူးပြု၏။

ကုသိုလ်အတွက်ကြောင့် ပစ္စက္ခဘဝ၌ အများတို့၏ အကြည်ညိုကိုခံ၍ ချမ်းသာသော ကာယိကဝေဒနာနှင့် ပြည့်စုံရ၏။ တမလွန်ဘဝ၌လည်း ထိုထက် ချမ်းသာစွာ ဖြစ်ရ၏။ ဤသို့စသည်ဖြစ်သောအခါတို့၌ ကုသိုလ်သည် ဝိပါက် အဗျာကတတို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြု၏။

(ဤကား ကုသိုလ်တရားတို့က ကုသိုလ်၊ အကုသိုလ်၊ အဗျာကတတို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုပုံတည်း)။

နိဗ္ဗာန်ကြဉ်အပ်သော အလုံးစုံ စေတဘူမက အဗျာကတ တရားစု၌ အကျုံးဝင်ကုန်သော သုခ၊ ဒုက္ခ၊ ပုဂ္ဂလ၊ ဘောဇန၊ ဥတု၊ သေနာသန အစရှိသော အဗျာကတတရားတို့သည် ထိုက်သည်အားလျော်စွာ အဇ္ဈတ္တသန္တာန်၊ ဗဟိဒ္ဓသန္တာန် တို့၌ ကုသိုလ်တရား၊ အကုသိုလ်တရား၊ အဗျာကတတရားတို့အား ပကတူပ နိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်၏။

ပစ္စည်းပြုပုံအမြွက်ကား သူတော်ကောင်းပုဂ္ဂိုလ်ကို မှီဝဲလျှင် ကုသိုလ် တရားဖြစ်ပွား၏။ သူယုတ်မာပုဂ္ဂိုလ်ကို မှီဝဲလျှင် အကုသိုလ်တရားဖြစ်ပွား၏။ ကုသိုလ်၊ အကုသိုလ်ဖြစ်လျှင် အဗျာကတလည်း ဖြစ်သည်သာဖြစ်၏။ ထိုသို့ ဖြစ်သောအခါ ပုဂ္ဂိုလ်သည် ကုသိုလ်၊ အကုသိုလ်၊ အဗျာကတတို့အား ပကတူ နိဿယသတ္တိဖြင့် ကျေးဇူးပြု၏။ ထို့အတူ တစ်စုံတစ်ခုသော အစာဘောဇဉ်ကို မှီဝဲရခြင်းကြောင့်ရင်း၊ အကြောင်းအားလျော်စွာ ကုသိုလ်သော်လည်း ဖြစ်ရာ၏၊

အကုသိုလ်သော်လည်း ဖြစ်ရာ၏၊ အဗျာကတသော်လည်း ဖြစ်ရာ၏၊ ထိုအခါ ဘောဇနေ၊ ဥတု၊ သေနာသနတို့သည် ကုသိုလ်၊ အကုသိုလ်၊ အဗျာကတတို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုကုန်၏။ အကျယ်အားဖြင့် ဝေဖန်၍ သိလေ။ (ဤကား အဗျာကတတရားတို့က ကုသိုလ်၊ အကုသိုလ်၊ အဗျာကတတို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးပြုပုံတည်း။)

**ရုပ်တို့ကို ပကတူပနိဿယပစ္စယုပ္ပန်၌ မသွင်းရပုံ။** နာမ်ရုပ် ပညတ်ဖြစ်သော တရားတို့သည် နာမ်တရားတို့အားသာလျှင် ပကတူပနိဿယသတ္တိဖြင့် ကျေးဇူး ပြုကုန်၏။ ရုပ်တရားတို့အား ပကတူပနိဿယသတ္တိဖြင့် ကျေးဇူးမပြုနိုင်သည်ကို ရည်၍-

"ပကတူတုံ၊ အကြွင်းပုံ၊ လုံးစုံ နာမ်အားသာ"

ဟူ၍ မိန့်ဆိုတော်မူလတ္တံ့။

ဤအရာ၌ စောဒနာဖွယ်ရှိသည်ကား ဤပကတူပနိဿယပစ္စည်း၌ ရုပ်တရားတို့ကို အဘယ့်ကြောင့် ပစ္စယုပ္ပန်၌ သွင်း၍ မယူအပ်ပါကုန်သနည်း။ ဗဟိဒ္ဓသန္တာန် မြက်သစ်ပင်စသည်တို့၌ တည်သော ရုပ်တရားတို့အား ကြီးပွား စည်ပင်ခြင်း သီးပွင့်ခြင်းအကျိုးငှါ ပထဝီရသ အာပေါရသ မိုးရေစသည်တို့သည် အားကြီးသော မှီရာဟု ဆိုအပ်သော ဥပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်သည် မဟုတ်ပါလော။ အဇ္ဈတ္တသန္တာန်၌ အနာကင်းသော အာရောဂျရုပ်၊ ကျင်နာသော ဂေလညရုပ်တို့အား ဆေးမြစ် စသည်တို့သည် အားကြီးသော မှီရာဟု ဆိုအပ်သော ဥပနိဿယသတ္တိဖြင့် ကျေးဇူးပြုကြကုန်သည် မဟုတ်ပါလော။ (ဤကား စောဒနာတည်း)။

**အဖြေကိုဆိုအံ့** အစဉ်ဟုဆိုအပ်သော သန္တာန်သည် ရုပ်သန္တာန်၊ နာမ် သန္တာန်ဟူ၍ နှစ်ပါးအပြားရှိ၏။ ထိုနှစ်ပါးတို့တွင် ရုပ်သန္တာန်သည် တစ်စုံတစ်ခု ကို ပြုလုပ်ဆောင်ရွက် စေ့ဆော်နိုင်သော စေတနာဟူ၍ မဝှိ။ အစေတန သဘောသာ ရှိ၏။ ထိုသို့ စေတနာမရှိလေသောကြောင့် ရုပ်သန္တာန်မှာ ရှေးအခါ ကာလ၌ ကောင်းစွာပြုမှု ကောင်းစွာမှီဝဲမှုဟုဆိုအပ်သော "ပကတိ" သဘောမရှိ။ ထိုသို့ ပကတသဘော မရှိလျှင် ထို "ပကတ"ဟုဆိုအပ်သော ဥပနိဿယသတ္တိ ကြောင့် မိမိဖြစ်ရသည် မဟုတ်ချေ။ ထိုကြောင့် ရုပ်တရားတို့သည် ပကတူ ပနိဿယပစ္စည်း၏ ပစ္စယုပ္ပန်၌ မဝင်ကြရကုန်။

နာမ်အစဉ်သည်မူကား တစ်စုံတစ်ခုကို ပြုလုပ် ဆောင်ရွက် စေ့ဆော် နိုင်သောသဘော ရှိ၏။ သစေတနလည်း မည်၏။ ထိုသို့ သစေတန သဘော

ရှိလေသောကြောင့် ရှေးအခါကာလ၌ ကောင်းစွာပြုမှု ကောင်းစွာမှီဝဲမှု ဆိုအပ်သော 'ပကတ'သဘောကို နာမ်တရားတို့၏ သန္တာန်၌ ရအပ်ပေ၏။ ထိုသို့ 'ပကတ' သဘောကို ရအပ်လေသောကြောင့်ပင်လျှင် 'ပကတ'တည်းဟူသော ဥပနိဿယ သတ္တိကြောင့် မိမိတို့ဖြစ်နိုင်ကြကုန်၏။ ထိုကြောင့် ပကတူပနိဿယပစ္စည်းကို ရ၍ နာမ်တရားတို့သည် ပကတူပနိဿယပစ္စယုပ္ပန်၌ ပါဝင်နိုင်ကြကုန်သည်။ (ဤကား ဖြေဆိုချက်တည်း။) ပဋ္ဌာန်းမူလဋီကာ ၁၈၅ ၌လည်း ဤသို့သော အနက်အဓိပ္ပာယ်ကို ပြဆိုအပ်လေ၏။

**အဘိဓမ္မာနည်းအားဖြင့်သာလျှင်** ရုပ်တရားတို့သည် ပကတူပနိဿယ ပစ္စည်းကို မရအပ်ကုန်ဟု ဆိုရသည်။ "ဤအကြောင်းရှိလျှင် ဤအကျိုးဖြစ်၏။ ဤအကြောင်းမရှိလျှင် ဤအကျိုးမရှိ" ဟူ၍ မှတ်သားပြဆိုအပ်သော **သုတ္တန်ပရိယာယ်အားဖြင့်မူကား** ရုပ်တရားတို့သည်လည်း ပကတူပနိဿယပစ္စည်းကို ရနိုင်ကုန်၏ဟူ၍ ဆိုသင့်လေ၏။ ထိုစကားမှန်၏။ တစ်ဆယ့်နှစ်ရာသီတို့တွင် မိဿရာသီ၌ တည်သော ဥတုသည် ကံ့ကော်ပန်းပွင့်ရန် ကျေးဇူးပြုပေ၏။ ဤသို့ စသည်ဖြင့် ဆိုလေ၊ မိုယ်းရေသည် ညှိုးနွမ်း၍နေသော သစ်ပင်တို့အား စိမ်းလန်း သော ရုပ်သစ်တို့ကို ဖြစ်ပွားစေရန် ကျေးဇူးပြု၏။ ဆောင်းအခါ၌ သီတတေဇော သည် ရေနံစသော အရည်ဝတ္ထုတို့အား အခဲဖြစ်အောင် ကျေးဇူးပြု၏။ ဟိမဝန္တာ စသည်၌ တည်သော သီတတေဇောသည် ရေကိုပင် အစိုင်အခဲ ဖြစ်အောင် ကျေးဇူးပြု၏။ တေဇောသည် ရွှေငွေစသော အစိုင်အခဲဝတ္ထုတွေကို အရေဖြစ် အောင် ကျေးဇူးပြု၏။ ကောင်းမွန်လှစွာသော ဆေးဝါးတို့သည် အဇ္ဈတ္တသန္တာန် ၌ ကျင်နာသော ဂေလညရုပ်တို့ကို အနာကင်းရှင်းသော အာရောဂျရုပ်တွေ ဖြစ်အောင် ကျေးဇူးပြုကုန်၏။ (ဤသို့ စသည်ဖြင့် **သုတ္တန်ပရိယာယ်အားဖြင့် ရုပ်တရားတို့၌ ပကတူပနိဿယပစ္စည်းရပုံအချက်ကို ကြံစည်ရာ၏)**

## ၆။ နာမ်ရုပ် ၂-ပါးသည် နာမ်ရုပ် ၂-ပါးအား ၉-ပစ္စည်း

(အဓိပတိ+ သဟဇာတ+ အညမည+ နိဿယ+ အာဟာရ+ ဣန္ဒြိယ+ ဝိပ္ပယုတ္တ+ အတ္ထိ+ အဝိဂတ = ၉)

လင်္ကာ * နာမ်ရုပ် ၂-ပါး၊ နာမ်ရုပ်အားတွင်၊ သဟ+အင်+ဓိ၊ အဝိ+နိ+ဟာ၊ ဣ+ဝိပ်-လာ၊ အတ်ပါ ကိုးပစ္စည်း။

| | | | |
|---|---|---|---|
| အလေးဂရုပြုအပ်သော ဏ္ဍာရုံသည် (ဒေါ ၂ +မော ၂ + ဒုက္ခကာယ ဝိညာဏ်ကြဉ်) စိတ် ၈၄ +(ဒေါစတု+ဝိစိကြဉ်) စေ ၄၇+ နိပ္ဖန္နရုပ် ၁၈ + နိဗ္ဗာန်တို့သည် | အလေးအမြတ်ပြုတတ်သော လောဘမူ ၈ + မဟာကု ၈ + မဟာကြိဉာဏသမ် ၄ + လောကုတ် ၈။ (ဒေါစတု + ဝိစိ+ အပ္ပမညာ ၂ ကြဉ်) စေ ၄၅ နာမ်တရားတို့အား | အာ ရမ္မ ဏာ ဓိ ပတိ | အ ဓိ ပတိ |
| ဆန္ဒ+စိတ္တ+ဝီရိယ+ ဝီမံသ တစ်ပါးပါး သည် | သာဓိပတိဇော ၅၂ + ဝိစိ ကြဉ်စေ ၅၁ + သာဓိပတိ စိတ္တဇရုပ်တို့အား | သဟ ဇာတာ ဓိပတိ | |

**လင်္ကာ** (ဟိတ်ခြောက်+ခြောက်အာ) ဓိ– နှစ်ဖြာ၊ အာဓိ သဓိခွဲ။
ဏ္ဍာရုပ်နာမ်၊ အာဓိမှန်၊ လေးတန်သရုပ်ခွဲ
ရှစ်လောဘမု+မဟာကု၊ လေးခု ဉာဏ်ကြီယာ၊
လောကုတ် ၈ ခု၊ ဤစိတ်စု၊ ဂရုပြုတတ်စွာ။

အာရမ္မဏာဓိပတိပစ္စည်း။ အလိုရှိအပ်သော ဏ္ဍာရုံအပေါ်တွင် ပြိုင်ဘက်မရှိ ကျေးဇူးပြုတတ်သောတရား။

(အဓိပတိသည် အားကြီးသောတရားဖြစ်၍ အရှိန်ပြင်း၍ အား ကြီးသောဇောတို့၌သာ ဖြစ်နိုင်သည်။ ဇော ၅၅ပါးတွင် မောဟမူဒွေး နှင့် ဟသိတုပ္ပါဒ်သည် အားနည်းသဖြင့် အဓိပတိဇော မတပ်နိုင်။)

မဟာသုတသောမဇာတ်တွင် လူသားစား ပေါရိသာဒမင်းသည် လူ၏ အသားတည်းဟူသော အလေးအမြတ်ပြုအပ်သော ဏ္ဍာဖြစ်သော ဂန္ဓာရုံ၊ ရသာရုံတို့က ပစ္စည်းတရားအနေဖြင့် အလေးအမြတ်ပြုသဖြင့် ပေါရိသာဒမင်း၏ သန္တာန်၌ အလေးအမြတ်ပြုတတ်သော လူ့အသား အပေါ်၌ တပ်နှစ်သက်သော လောဘမူစိတ္တုပ္ပါဒ်ပစ္စယုပ္ပန်တရားများ ပြိုင်ဘက်မရှိ ဖြစ်ပေါ်လာအောင် ကျေးဇူးပြု၏။

ထို လူ့အသား၌ တပ်နှစ်သက်သော လောဘမူစိတ္တုပ္ပါဒ်များ ပြိုင်ဘက်မရှိ ဖြစ်ပေါ်နေသောကြောင့် တိုင်းပြည်နှင့်မင်းစည်းစိမ်ကိုပင်

စွန့်ပစ်ခဲ့သည်။ တိုင်းပြည်အလုံးနှင့် မင်းစည်းစိမ်သည် ပေါရိသာဒမင်း၏ လူ့အသား၌ တပ်မက်မှု လောဘစိတ္တုပ္ပါဒ်ကို မပြိုင်နိုင်။

ကုသိုလ်အရာ၌ မဟာသုတသောမမင်းသည် ပေါရိသာဒ၏ ဖမ်းဆီးခြင်းခံရသောအခါ "တရားနာစရာရှိ၍ ခေတ္တမျှပြန်လွှတ်ပါဦး၊ တရားနာပြီးပါက အသင်ပေါရိသာဒ၏အထံ ပြန်လာ၍ အစားခံပါမည်" ဟု သစ္စာပြုခဲ့၏။ ထိုသစ္စာပြုခဲ့သည်အတိုင်း မဟာသုတသောမမင်းသည် တရားနာပြီးသောအခါ တိုင်းပြည်အလုံးနှင့်မင်းစည်းစိမ်ကို မငဲ့ကွက်ဘဲ၊ သစ္စာတရားကို အလေးအမြတ်ပြု၍ ပေါရိသာဒထံ ပြန်လာခဲ့သည်။

ပေါရိသာဒ၏အထံပြန်လာသော မဟာသုတသောမမင်း၏ သစ္စာမဟာကုသိုလ်စိတ္တုပ္ပါဒ်ကို တိုင်းပြည်အလုံးနှင့်မင်းစည်းမျှားပင် မပြိုင်နိုင်ဘဲ ပြိုင်ဘက်မရှိ ကျေးဇူးပြုလေသည်။

**သဟဇာတာဓိပတိပစ္စည်း**။ အဓိပတိတရားကိုယ် ၄-ပါး(ဆန္ဒ+စိတ္တ+ဝီရိယ+ဝီမံသ တစ်ပါးပါး) ပစ္စည်းတရားသည် စကြဝတေးမင်းကြီးကဲ့သို့ ပြိုင်ဘက်မရှိ မိမိနှင့်ယှဉ်ဘက် သာဓိပတိဓော၊ စိတ်၊စေတသိက်၊ စိတ္တဇရုပ်တို့အား မိမိ၏တိုင်းသူပြည်သားများသဖွယ် လွှမ်းမိုး၍ မိမိ အလိုသို့ လိုက်စေကာ ပြိုင်ဘက်မရှိ ကျေးဇူးပြုလေ၏။

အဓိပတိတရားများကို ဣဒ္ဓိပါဒ်စိတ်(တန်ခိုးရှိသောစိတ်) များဟုခေါ်သည်။ ထို လေးပါးရှိလျှင် မပြီးစီးသောအရာမည်သည်မရှိ လောကတွင် ကြီးကျယ်မြင့်မြတ်လိုသောဆန္ဒ၊ ကြီးကျယ်မြင့်မြတ်လိုသောစိတ်ရှိပြီး၊ ထိုစိတ်ဆန္ဒအတိုင်း ဝီရိယထား အားထုတ်ခြင်း၊ ပညာဖြင့် အရာရာကို နှိုင်းနှိုင်းချိန်ချိန်ပြုနိုင်ခြင်းတို့ကြောင့် ကြီးကျယ်မြင့်မြတ်သောပုဂ္ဂိုလ်များ ပေါ်ထွက်လာရသည်။လူတိုင်း တန်ခိုးရှိလိုလျှင် ဤလေးပါးကို လက်နက်သဖွယ် အသုံးချရမည်။

လင်္ကာ ဆန္ဒကဲမို့၊ငါ့သို့သသူ၊ ပြုမူဆောင်ရာ၊ အဖြာဖြာသည်၊ ဘယ်မှာ မပြီးရှိအံ့နည်း။

စိရိယကဲမို့ ငါသို့သသူ၊ ပြုမှုဆောင်ရာ၊အဖြာဖြာသည်၊ ဘယ်မှာ မပြီးရှိအံ့နည်း။

စိတ္တကဲမို့ ငါသို့သသူ၊ ပြုမှုဆောင်ရာ၊အဖြာဖြာသည်၊ ဘယ်မှာ မပြီးရှိအံ့နည်း။

ပညာကဲမို့ ငါသို့သသူ၊ ပြုမှုဆောင်ရာ၊အဖြာဖြာသည်၊ ဘယ်မှာ မပြီးရှိအံ့နည်း။

* စကြာဘုန်းလူ၊ အုပ်စိုးမှုသို့၊ ပြိုင်တူမရှိ၊ အုပ်စိုးဘိ၊ အဓိပတိ ခေါ်သတည်း။

ဤအာရမ္မဏာဓိပတိပစ္စည်းသည် အာရမ္မဏပစ္စည်းကြီးမှ အသီးထွက်လာသော ပစ္စည်းပေတည်း။ **"မြွေကြီးလျှင် နဂါး၊ ဖွတ်ကြီးလျှင် မိကျောင်း"** ဆိုသောစကားကဲ့သို့ သာမညအာရုံပြုအောင် ကျေးဇူးပြုရုံမျှမက လွန်လွန်ကဲကဲ စည်းကမ်းကလနားကို ကျော်လွန်၍ အာရုံပြုအောင် ကျေးဇူးပြုသောတရားကို အာရမ္မဏာဓိပတိပစ္စည်း ဆိုရသည်။

**အာရမ္မဏာဓိပတိပစ္စည်းမထိုက်သောတရားများ**

အာရမ္မဏာဓိပတိပစ္စည်းတရားသရုပ်တို့တွင် **အနိဋ္ဌရုပ်တို့သည်** ထင်ထင်ရှားရှား စွဲလမ်းလောက်အောင် သဘောရှိသောတရားတို့ မဟုတ်ကြကုန်။ နိဋ္ဌရုပ်ကြီး ဆယ့်ရှစ်ပါးတို့၏ အမှုအရာမျှသာ ဖြစ်ကြကုန်၏၊ ထို့ကြောင့် အာရမ္မဏာဓိပတိပစ္စည်း၌ မပါမဝင်နိုင်ကြကုန်။

ဒေါသမူဒွေ မောဟမူဒွေ ဒုက္ခသဟဂုတ် ကာယဝိညာဏ်စိတ်တို့နှင့် ထိုစိတ်တို့၌ယှဉ်သော ဒေါသ၊ ဣဿာ၊ မစ္ဆရိယ၊ ကုက္ကုစ္စ၊ ဝိစိကိစ္ဆာစေတသိက်တို့သည်လည်း သာယာစွဲလမ်းအပ်သော ဣဋ္ဌတရားတို့ မဟုတ်ကြလေကုန်။ သတ္တဝါတို့၏ သန္တာန်၌ ပူပန်ဆင်းရဲစေတတ်သော အနိဋ္ဌတရားတို့သာတည်း။ ထို့ကြောင့် ထိုနာမ်တရားတို့ကို အာရမ္မဏာဓိပတိအတွင်းသို့ မသွင်းဘဲ ကြဉ်ရလေသည်။

ပညတ်တရားတို့မည်သည်လည်း သဘောတရားကိုယ်အားဖြင့် ထင်ရှားစွာ မရှိကြလေကုန်။ အလေးအမြတ်ပြုတတ်သော တရားတို့အား အလေးအမြတ်ပြုရလေအောင် အာရမ္မဏာဓိပတိကိစ္စဖြင့် ကျေးဇူးမပြုနိုင်ကုန်။ ထို့ကြောင့် အာရမ္မဏာဓိပတိပစ္စည်း၌ မသွင်းဘဲ ကြဉ်ရလေသည်။

**အာရမ္မဏာဓိပတိပစ္စယုပ္ပန်ထိုက်သော တရားများ**

ပစ္စယုပ္ပန်တို့တွင် ပဋ္ဌာန်း ပါဠိတော်ကြီး၌ "ဒါနံဒတွာ သီလံ သမာဒိယိတွာ ဥပေါသထကမ္မံ ကတွာ" အစရှိသည်ဖြင့် ဒါန၊ သီလ၊ ဥပေါသထကမ္မ၊ ပုဗ္ဗေသုစိဏ္ဏ၊ ဂေါတြဘု၊ ဝေါဒါန၊ မဂ္ဂ၊ ဖလ၊ နိဗ္ဗာနတရားတို့ကိုငင်း ရာဂ၊ ဒိဋ္ဌိ၊ စက္ခု၊ သောတစသည်တို့ကိုငင်း ဆင်ခြင်မှုကိစ္စ သာယာမှုကိစ္စအစရှိသည်တို့၏ အစွမ်းအားဖြင့် အာရမ္မဏာဓိပတိ ပစ္စယုပ္ပန်များကို ဟောတော်မူသောကြောင့် ဆင်ခြင်မှု သာယာမှုကိစ္စအစရှိသည်ကို ရွက်ဆောင်နိုင်သော လောဘမူစိတ် ၈ခု၊ မဟာကုသိုလ်တော်စိတ် ၈ခု၊ မဟာကြိယာဉာဏသမ္ပယုတ်စိတ် ၄ခု၊ လောကုတ္တရာစိတ် ၈ခု၊ (ဒေါစတု+ဝိစိ+အပ္ပမညာကြဉ်)စေ ၄၅ နာမ်တရားတို့သာ ပစ္စုယုပ္ပန်ဖြစ်နိုင်ကြကုန်၏။

**မဟဂ္ဂုတ်ဇောစိတ်တို့သည်** ဈာန်စိတ်များ ဖြစ်ကြကုန်သော်လည်း ဆင်ခြင်မှု သာယာမှုကိစ္စများကို မဆောင် ရွက်နိုင်ကြကုန်။ ထို့ကြောင့် ပစ္စယုပ္ပန်တို့၌ ပါဝင်ခွင့် မရကြလေကုန်။

**အပ္ပမညာစေတသိက်နှစ်ခုတို့သည်** ပစ္စယုပ္ပန်ဖြစ်သော မဟာကုသိုလ် စိတ်နှင့်ယှဉ်ကြသော်လည်း အာရုံကွဲလျက်ရှိနေသောကြောင့် ပစ္စယုပ္ပန်၌ မသွင်းဘဲ ကြဉ်ရလေသည်။ အာရုံကွဲပုံကား အပ္ပမညာဒွေသည် ဒုက္ခိတ၊ သုခိတသတ္တဝါ ပညတ်ကို အာရုံပြု၏။ အာရမ္မဏာဓိပတိပစ္စည်း၌ကား ပညတ်မပါ၊ ထို့ကြောင့် မိမိနှင့်မဆိုင်လေသဖြင့် ထိုအပ္ပမညာဒွေကို ကြဉ်ရလေသည်။
အာရမ္မဏာဓိပတိပစ္စနိက်သာဖြစ်သောတရားများ။ ကြွင်းသောလောကီစိတ် ၆၁ ပါးတို့သည် ဘယ်အခါမှ အလေးအမြတ် မပြုတတ်ကြလေကုန်။

**အဓိပတိတရားကိုယ်တစ်ပါးသာ စိုးမိုးလွှမ်းကဲပုံ**

အဓိပတိသဘောသည် စကြဝတေးမင်းကြီးနှင့်တူ၏၊ စကြဝတေးမင်း ကြီး၏ အစိုးရမှုမည်သည် လေးကျွန်းအတွင်း၌ မင်းပြိုင်မင်းဘက် မရှိ။ မိမိတစ်ယောက်တည်းသာ အစိုးရခြင်းကို ပြုနိုင်ပေ၏။ မိမိနှင့်ဂုဏ်တူ ဩဇာ အာဏာတူသောမင်းဟူ၍ မရှိလေ။ ထို့အတူပင် အကြင်စိတ္တုပ္ပါဒ်၌ အဓိပတိ တရားကိုယ်သုံးပါးသော်ငင်း လေးပါးသော်ငင်း ပါရှိသော်လည်း အကယ်၍ အဓိပတိပစ္စည်းတပ်လျှင် တစ်ခုခုသော တရားက သာလျှင် စိုးမိုးလွှမ်းကဲ၍ ပစ္စည်းတပ်၏။ ကြွင်းသော အဓိပတိတရားကိုယ်များနှင့် သမ္ပယုတ်တရားတို့သည်

ပစ္စယပွင့်ဘက်ကသာ နေကြရကုန်၍ အဓိပတိကိစ္စ တပ်သောတရား၏ ကျွန်တော်မျိုး အဖြစ်သို့သာ တိုးလျှိုးဝင်ရောက်ကြရကုန်၏။

(တိဟိတ်ဇော သုံးဆယ့်လေးခုမှာ အဓိပတိတရား လေးပါးစီပါရှိ၏။ ဒွိဟိတ်ဇော တစ်ဆယ့်ရှစ်မှာကား ဝီမံသကြဉ်၍ အဓိပတိတရားကိုယ် သုံးပါးသာ ပါရှိ၏။ ပညာကို "ဝီမံသ" ဆိုသည်။)

**အဓိပတိကိစ္စတပ်သောတရား၏ ဆောင်ရွက်ချက်။** ။ အကြင် စိတ္တုပ္ပါဒ်တစ်ခု၌ တစ်ခုသော အဓိပတိတရားကိုယ်သည် အဓိပတိကိစ္စဖြင့် ပစ္စည်းတပ်လျှင် ကြွင်းသော သမ္ပယုတ်တရားတို့သည်လည်း ထိုအဓိပတိပစ္စည်းတပ်သော တရား၏ အလိုသို့သာလျှင် အစဉ်လိုက်ကြရကုန်၏။ ထိုတရားကို မလွန်ဆန်နိုင်ကြကုန်။ အလွန်တရာ ကြီးလှစွာသော ရေအဟုန်သည် ရှိရှိသမျှသော သစ်ရွက်မြက်မှိုက် ဘောတိုက်တို့ကို မရှောင်မကွင်း အတင်းတိုက်ဇွေ၍ လာဘိသကဲ့သို့ ထိုသစ်ရွက် မြက်မှိုက် ဘောတိုက်ဟူသမျှတို့ကို မိမိအလိုသို့သာလျှင် အတင်းဆောင်ယူလေဘိ သကဲ့သို့ အဓိပတိကိစ္စတပ်သောတရားသည်လည်း မိမိနှင့် သဟဇာတ်ဖြစ်သော နာမ်တရားတို့ကို မရှောင်မကွင်း အတင်းတိုက်ဇွေလျက် မိမိအလိုသို့သာ လိုက်ပါစေ၏။ မိမိကြောင့်ဖြစ်သော စိတ္တဇရုပ်များကိုလည်း မိမိအလိုသို့သာ ပါလေအောင် ရွက်ဆောင်လေ၏။

အဓိပတိ ကိစ္စတပ်သော ဆန္ဒအစရှိသောတရားသည် ကောင်းမှု မကောင်းမှုများကို မပြီးမနေရ ထမြောက်အောင်မြင်စွာ ရွက်ဆောင်ပေ၏။ ဆန္ဒသည် အဓိပတိကိစ္စတပ်၍ ဆန္ဒအစွမ်း ထက်သန်နေလျှင် ထိုဆန္ဒကို အမျိုးပဓာန ပြု၍ ရုပ်ခန္ဓာ၊ နာမ်ခန္ဓာတို့သည် ပြုလိုသောအမှုကို ပြီးစီးအောင်ရွက်ဆောင် ကြကုန်၏။ စိတ်သည် အဓိပတိကိစ္စတပ်၍ စိတ်စွမ်းထက်သန်နေလျှင် ထိုစိတ်ကို အမျိုးပဓာနပြု၍ ရုပ်ခန္ဓာ၊ နာမ်ခန္ဓာတို့သည် တစ်စုံတစ်ခုသောအမှုကို ပြီးစီးအောင် ရွက်ဆောင်ကြကုန်၏။ ဝီရိယသည် အဓိပတိကိစ္စတပ်၍ ဝီရိယစွမ်း ထက်သန်နေလျှင် ထိုဝီရိယကို အမျိုးပဓာနပြု၍ ရုပ်ခန္ဓာ၊ နာမ်ခန္ဓာတို့သည် အားထုတ်ဖွယ်ရာသော အမှုကိစ္စကြီးကို ပြီးစီးထမြောက်အောင် ရွက်ဆောင်ကြကုန်၏။ ပညာသည် အဓိပတိကိစ္စတပ်၍ ပညာစွမ်းထက်သန်နေလျှင် ထိုပညာကို အမျိုး ပဓာနပြု၍ ရုပ်ခန္ဓာ၊ နာမ်ခန္ဓာတို့သည် ပညာရေးဌာန လုပ်ဆောင်ဖွယ်ဟူသမျှ တို့ကို ထမြောက်ပြီးစီးအောင် ရွက်ဆောင်ကြကုန်၏။

သုတ္တန်နည်းအားဖြင့် ဆိုရလျှင် ဆန္ဒအဓိပတိတပ်နေသော သူကို အလွန် ဆန္ဒကြီးသောသူ ဟူ၍ ဆိုကြရကုန်၏။ ထိုအတူ အလွန်စိတ်ကြီးသောသူ၊ အလွန်

စိတ်ထက်သောသူ၊ အလွန် စိတ်စွဲကြီးသောသူ ဟူ၍ ဆိုကြရကုန်၏။ အလွန် လုံ့လကောင်းသောသူ၊ အလွန် ရဲရင့်သောသူ ဟူ၍ ဆိုကြရကုန်၏။ အလွန် ပညာကြီးသောသူ၊ အလွန်ပညာထက်မြက်သောသူ အလွန်ပညာစွဲကြီးသောသူ ဟူ၍ ဆိုကြရကုန်၏။

"ဆန္ဒဝတော ကိံ နာမ ကမ္မံ န သိဇ္ဈတိ" ဟူသည်နှင့်အညီ အဓိပတိ ကိစ္စတပ်သောဆန္ဒနှင့် ပြည့်စုံသောသူသည် ဘယ်အမှုမျိုးကို မပြီးဘဲရှိအံ့နည်းဟု အမြဲကြိမ်းပသော သဘောရှိ၏။ ဘယ်မျှ ကြီးလေးစွာသောအမှုကြီးပင် ဖြစ်စေကာမူ မလောက်မလေး သေးငယ်သော အမှုကလေးဟူ၍ပင် မှတ်ထင်၏။ ထိုအတူ စိတ္တာဓိပတိ၊ ဝီရိယာဓိပတိ၊ ဝီမံသာဓိပတိတပ်သော သူတို့သည်လည်း ကြီးမား ထက်သန်သော အဇ္ဈာသယနှင့် ပြည့်စုံကြကုန်၏။ အမှုအမျိုးမျိုးကိုပင် လေးစား မပြု ဂရုမထား လျှင်လျှားစွာ ဆောင်ရွက်လေ့ရှိကြကုန်၏။ မြင်းမိုရ်တောင်ကြီး ကိုပင် ထမ်းပိုးရွက်ဆောင်တော့မည်လောက် အစွမ်းသတ္တိ ထက်သန်၍ နေ၏။ **ပဘာဝတီနှင့် ကုသမင်းဥပမာ ။** ။ အာရမ္မဏာဓိပတိဖြစ်သော အာရုံကို အာရုံပြု၍ဖြစ်ရသော စိတ္တုပ္ပါဒ်၌ပါရှိသော ဆန္ဒစသည်တို့သည် "သဟဇာတဓိပတိ ကိစ္စ"ကို ဆောင်ရွက်တတ်ကုန်၏။ ပဘာဝတီ၏ ရူပါရုံတည်းဟူသော အာရမ္မဏာ ဓိပတိပစ္စည်းသည် ကုသမင်း၏ လောဘမူစိတ္တုပ္ပါဒ်အား ပစ္စည်းတပ်လျက် ရှိနေ၏။ ကုသမင်း ၏ လောဘမူစိတ္တုပ္ပါဒ်သည်လည်း ပဘာဝတီ၏ ရူပါရုံတည်းဟူသော အဓိပတိ အာရုံကို အာရုံပြုရသဖြင့် လွန်စွာထက်သန် အားရှိ၍နေ၏။ ထိုလောဘမူ၌ ပါရှိသော ဆန္ဒ၊ စိတ္တ၊ ဝီရိယဟု ဆိုအပ်သော အဓိပတိတရားကိုယ် ၃ပါးတို့တွင် တစ်ပါးပါးသည် အလှည့်ကျစီ "သဟဇာတါဓိပတိပစ္စည်း"တပ်၍နေ၏။ ထိုကြောင့် ကုသမင်း၏စိတ်သည် တောင်ပေါ်မှကျဆင်း၍နေသော ရေတံခွန်ကဲ့သို့ ပဘာဝတီ၏ ရူပါရုံ အပေါ်၌သာလျှင် တသွင်သွင် ကျဆင်း၍ နေ၏။ ကုသဝတီ နေပြည်တော် ကြီးကိုပင် ရက်ရက်စက်စက် စွန့်ခွာတော်မူနိုင်လေ၏။ ထိုစိတ်ကြောင့် ဖြစ်သော ရုပ်စုသည် "သာဓိပတိစိတ္တဇရုပ်" မည်၏။ ထို သာဓိပတိစိတ္တဇရုပ်များသည် အကြောင်းအားလျော်စွာ အခြားသော စိတ္တဇရုပ်များထက်- ထက်သန်၍ အားအင် ရှိစွာ ဖြစ်ပေါ်ကြကုန်၏။ သဟဇာတာဓိပတိနာမ်တတ်၏ လှုံ့ဆော်မှုကြောင့် ကုသမင်း၏ ကိုယ်ကာယတည်းဟူသော ရုပ်ကြီးသည် ယူဇနာ တစ်ရာခရီးကိုပင်လျှင် နေ့ချင်းပေါက် ရောက်နိုင်လေ၏။ ထီးရိပ် နန်းရိပ်၌ ဖွားတော်မူ၍ နူးညံ့သိမ်မွေ့ သော ကိုယ်ရှိတော်မူသော ကုသမင်း၏ ရုပ်ခန္ဓာကြီးသည် အဓိပတိနာမ်တတ်၏ လှုံ့ဆော်စေခိုင်းမှုကြောင့် အိုးလုပ်ခြင်း၊ ဖျာယက်ခြင်းစသော အမှုကြမ်းကြီးတွေကိုပင်

ပင်ပန်းသည်ဟု မရေမတွက်၊ ရက်ရက်ရောရော ဆောင်ရွက်ရလေ၏။ ဤသို့ စသည်ဖြင့် သဟဇာတာဓိပတိ နာမ်ဓာတ်နှင့် သာဓိပတိစိတ္တဇ ရုပ်ဓာတ်တို့၏ ဖြစ်ပုံကို အကျယ်ဝေဖန်၍ သိရာ၏။

## ဗုဒ္ဓဘုရား၏ အဆင်းတော်နှင့် ဝက္ကလိဥပမာ

ထိုမှတပါး မြတ်စွာဘုရား၏အဆင်းတော်တည်း ဟူသော အာရမ္မဏာဓိပတိပစ္စည်းသည် ဝက္ကလိမထေရ်၏ မဟာကုသိုလ် စိတ္တုပ္ပါဒ်အား အာရမ္မဏာဓိပတိပစ္စည်းတပ်လျက်နေ၏။ ဝက္ကလိ၏ မဟာကုသိုလ်စိတ္တုပ္ပါဒ်၌ပါရှိသော အဓိပတိတရားကိုယ်လေးပါးတို့တွင် တစ်ပါးပါးသည် သဟဇာတာဓိပတိပစ္စည်းတပ်၍ နေ၏။ ထို့ကြောင့် ဝက္ကလိမထေရ်သည် ကိုယ်ကျိုးကိုယ်စီးပွားအတွက် တောတောင်ထွက်၍ တရားကိုမျှ အားမထုတ်နိုင်ဘဲ မြတ်စွာဘုရား၏ အပါးတော်မှာ အမြဲအစွဲနေ၍ မြတ်စွာဘုရားကိုယ်တော်ကြီးကိုသာ လည်ပင်းတမျှော်မျှော် မော်၍ ကြည့်လျက်သာ နေရ၏။ ဤသို့ စသည်ဖြင့် ကုသိုလ် အများကိုလည်း သိလေဦး။

ဝိစိကိစ္ဆာစေတသိက်သည် ဧကဟိတ်စိတ်၌သာ အမြဲယှဉ်သော တရားဖြစ်၍ တစ်ရံတစ်ခါမျှ အဓိပတိကိစ္စနှင့် ကြုံကြိုက်ခွင့်မရလေ၊ အဓိပတိကျေးဇူးကို မခံစားရလေ။ ထို့ကြောင့် ထိုဝိစိကိစ္ဆာကိုလည်း ပစ္စနိက်၌ သွင်းရပြန်လေသည်။

## ဝိပါက်တို့၌ သဟဇာတာဓိပတိကိစ္စမရပုံအကြောင်း

သဟဇာတာဓိပတိကိစ္စကို အဘယ်ကြောင့် ဝိပါက်တို့၌ မရအပ်ကုန်သနည်းဟူြငားအံ့။ သဟဇာတာဓိပတိကိစ္စသည် အလွန်ကြီးကျယ်သောကိစ္စကြီးဖြစ်ပေ၏။ ထက်မြက်သန်စွမ်းသော စိတ်တို့၏အပေါ်၌သာလျှင် ထို သဟဇာတာဓိပတိကိစ္စကို ရအပ်၏။ ဝိပါက်တို့သည် ရေ၏အပြင်၌တည်နေသော မှော်မြေးတို့ကဲ့သို့ လွန်စွာ အားနည်းကြကုန်၏။ သန်စွမ်းမှု မရှိကြကုန်။ ထို့ကြောင့် အားနည်းချည့်နဲ့လှသော ဝိပါက်စိတ်တို့၌ သဟဇာတဓိပတိကိစ္စကို မရအပ်လေဘဲ ထက်မြက်သန်စွမ်းသော ဇောစိတ်တို့၌သာလျှင် ရအပ်ပေသည်ဟု ဖြေရာ၏။

## ဖိုလ်စိတ်၌ သဟဇာတာဓိပတိကိစ္စရပုံ

ဖိုလ်စိတ်သည် ဝိပါက်စိတ်ဖြစ်ခဲ့၏။ ထိုသို့ဖြစ်ပါလျက် ဝိပါက်တည်းဟူသောဖိုလ်စိတ်မှာ အဘယ်ကြောင့် သဟဇာတာ ဓိပတိကိစ္စကို ရအပ်ပြန်ပါသနည်းဟူြငားအံ့။ ထိုဖိုလ်စိတ်သည်ဝိပါက်ပင်ဖြစ်သော်လည်းဇောကိစ္စနှင့်ဖြစ်ရသောကြောင့် ထက်သန်အားရှိလှ၏။ ထို့ကြောင့် ထိုဝိပါက်တည်းဟူသော ဖိုလ်စိတ်မှာ သဟဇာတာဓိပတိကိစ္စကို ရအပ်ပေသည်ဟု ဖြေရာ၏။

**ဖိုလ်စိတ်မှာ ဇောကိစ္စဖြစ်နိုင်ပုံ**

အခြားသော ဝိပါက်စိတ်များသည် ဇောကိစ္စ မထိုက်မူ၍ ဖိုလ်တည်းဟူသော ဝိပါက်စိတ်သည်သာလျှင် ထူးခြားကွဲလွဲလျက် အဘယ်ကြောင့် ဇောကိစ္စနှင့် ဖြစ်ရပါသနည်း ဟူငြားအံ့။ ထို ဖိုလ်စိတ်သည် အခြားဝိပါက်များနှင့်မတူဘဲ သတ္တိအထူး ရှိလေသောကြောင့် ဇောကိစ္စနှင့် ဖြစ်ရလေသည်ဟု ဖြေရာ၏။ သတ္တိအထူးဆိုသည်ကား အခြားသောဝိပါက်များသည် ကံကြောင့်ဖြစ်ရသော်လည်း အနန္တရပစ္စည်း၊ ပစ္စယုပ္ပန်ဖြစ်၍ အကျိုးပေးသော ဝိပါက်တို့ မဟုတ်ကြလေကုန်။ **ဘဝခြား၍သော်၎င်း ကမ္ဘာခြား၍သော်၎င်း အကျိုးပေးသောတရား ဖြစ်ကြကုန်သောကြောင့် အကြောင်းတည်းဟူသောကံ၌ ရှိရှိသမျှသော သတ္တိအမွေအနှစ်တို့ကို မရလိုက်ရှာကြလေကုန်။ အကြောင်းကံ ဆိုသည်ကား ဇောကိစ္စနှင့် ဖြစ်ရသောစိတ်၌ ပါသောစေတနာပေတည်း။ ထိုဇောစေတနာသည် ကာလကြာမြင့်မှ ဖြစ်ပေါ်သော ဝိပါက်စိတ်တို့အား မိမိဖြစ်ရင်း ဇောကိစ္စတည်းဟူသော အမွေအနှစ်များကို မပေးစွမ်းနိုင်ချေ။ ထိုကြောင့် ဖိုလ်မှတပါးသော ဝိပါက်များသည် ဇောကိစ္စ မတပ်နိုင်ကြလေကုန်။** ဇောကိစ္စ မတပ်နိုင်ကြသဖြင့် လွန်စွာ အားနည်းကြလေကုန်သည်။ ဖိုလ်စိတ်သည်မူကား အကြောင်းဖြစ်သော မဂ်ဇောစေတနာနှင့် ဝီထိ တစ်ခုတည်း အာရုံတစ်ခုတည်း ဖြစ်ရသောတရား ဖြစ်ပေသည်။ အကြောင်းဖြစ်သော မဂ်ဇောစေတနာ၏ အခြားမဲ့၌ အနန္တရပစ္စယုပ္ပန်ဖြစ်၍ အကျိုးပေးရသောတရားတည်း ဖြစ်ရပေသည်။ မဂ်ဇောစေတနာသည် ဖိုလ်စိတ်အား အနန္တရ၊ သမနန္တရ၊ အနန္တရူပနိဿယ၊ နာနာက္ခဏိက ကမ္မာနတ္ထိ၊ ဝိဂတ။ ဤ ခြောက်ပစ္စယသတ္တိတို့ဖြင့် ကျေးဇူးပြုပေ၏။ထို့ကြောင့်-

မဂ်လေးခုမှာ၊ စေတနာ၊ ခြောက်ဖြာပစ္စယ။

ဟူ၍ မိန့်ဆိုတော်မူလတ္တံ့။

**လတ်လတ်လောလော ချုပ်ဆုံး၍သွားလေသော မဂ်ဇောစေတနာသည် မိမိအခြားမဲ့၌ ဖြစ်ရစ်သော မိမိ၏အကျိုးတည်းဟူသော ဖိုလ်စိတ်အား မိမိပိုင်ဆိုင်သော ဇဝနသတ္တိကို ပေးခဲ့နိုင်လေသည်။ မဂ်စိတ်၏ အခြားမဲ့၌ ဖြစ်ရသော ဖိုလ်စိတ်သည်လည်း အကြောင်းဖြစ်သော မဂ်ဇောစေတနာ၏ သတ္တိကို သိမ်းပိုက်ခံယူနိုင်လေသည်။ ထိုသို့ သတ္တိထူးရှိလေသောကြောင့် ဖိုလ်တည်းဟူသော ဝိပါက်စိတ်သည် ဇောကိစ္စနှင့် ဖြစ်ရလေသည်ဟု မှတ်ရ၏။ မဂ်ဇောစေတနာ၏ အခါမလစ် အခြားမဲ့၌ အကျိုးပေးမှုကိုရည်၍**

**တရားတော်၏ ဂုဏ်စုတွင် "အကာလိကော"ဟူသော ဂုဏ်ကြီးကို တသီးတခြား ထုတ်ဖော်ရပေသည်။**

**အဟိတ်ဇော၊ ကေဟိတ်ဇောတို့ အဓိပတိကိစ္စကို မရကြပုံ**

အဟိတ်ဇော၊ ကေဟိတ်ဇောတို့သည် ဇောကိစ္စနှင့်ဖြစ်ကြရပါကုန်လျက် အဘယ်ကြောင့် အဓိပတိ ကိစ္စကို မရကြပါကုန်သနည်း ဟူမူ **အဟိတ်ဇောသည် အမြစ်သဖွယ်ဖြစ်သော ဟိတ်တရားမှ ကင်း၍ အားနည်းလှ၏၊ ကေဟိတ်ဇော၌ ရှိသော မောဟဟိတ်သည် မိမိနှင့်အဖော်အဖက်ဖြစ်သော ဟိတ်တရား တစ်ခု၏ ကျေးဇူးပြုမှုကို မခံရသဖြင့် အားနည်းပြန်၏၊ ထိုသို့ အားနည်းသော ကေဟိတ်နှင့်ယှဉ်သော ကေဟိတ်ဇောသည်လည်း အားနည်းလျက်ပင် ရှိပြန်၏၊ မစွမ်းမသန်ဘဲ အားနည်းသောစိတ်တို့အပေါ်၌ အဓိပတိကိစ္စ၏ ဖြစ်ထွန်းပေါ်ပေါက်ရိုး မရှိလေသောကြောင့်** အဟိတ်ဇော၊ ကေဟိတ်ဇောတို့၌ အဓိပတိကိစ္စကို မရအပ်ဟု ဖြေဆိုရာ၏။

**အဓိပတိတရားကိုယ်လေးပါး။** ။အဓိပတိတရားကိုယ်လေးပါးတို့တွင် ဆန္ဒာဓိပတိ ဆိုသည်ကား သာဓိပတိဇော ၅၂-ပါး၌ ယှဉ်သော ဆန္ဒစေတသိက်တည်း။ ဝီရိယာဓိပတိ ဆိုသည်ကား ထိုဇော ၅၂-ပါး၌ ယှဉ်သော ဝီရိယစေတသိက်တည်း။ ဝီမံသာဓိပတိ ဆိုသည်ကား တိဟိတ်ဇောတို့၌ ယှဉ်သော ပညာစေတသိက်တည်း။ စိတ္တာ ဓိပတိဆိုသည်ကား သာဓိပတိဇောစိတ် ၅၂ ပင်လျှင်တည်း။

**သဟဇာတာဓိပတိပစ္စည်း အမြဲတပ်၊ ရံခါတပ်၊ အမြဲမတပ်တရားများ။**

စိတ်တစ်ခု ယုတ်ကိုးဆယ်တို့တွင် မဟဂ္ဂုတ်ဇော၊ လောကုတ္တရာဇောတို့သည် အမြဲသဟဇာတာဓိပတိပစ္စည်း တပ်ကြကုန်၏။ ဒွိဟိတ်ဇော၊ တိဟိတ်ကာမဇောတို့သည် ရံခါ သဟဇာတာဓိပတိပစ္စည်းတပ်ကုန်၍ ရံခါ ၎င်းပစ္စည်း မတပ်ကြကုန်။ လောကီဝိပါက် ၃၂၊ အာဝဇ္ဇန်းဒွေ၊ အဟိတ်ဇော၊ ကေဟိတ်ဇောတို့သည် အချင်းခပ်သိမ်း သဟဇာတဓိပတိပစ္စည်း မတပ်နိုင်ကြကုန်။

**သဟဇာတပစ္စည်း ကျေးဇူးပြုပုံ ၃မျိုး**

| | | |
|---|---|---|
| အလုံးစုံသော(စိတ်+စေ) ပဝတ္တိပဋိသန္ဓေနာမက္ခန္ဓာ ၄ ပါးသည် | အချင်းချင်းအားရင်း အချင်းချင်းနာမက္ခန္ဓာ စိတ္တဇရုပ်၊ ပဋိသန္ဓေကမ္မဇ ရုပ်အားရင်း | သဟ ဇာတ |
| အလုံးစုံသောမဟာဘုတ် ၄ပါးသည် | အချင်းချင်းအားရင်း ဥပါဒါရုပ်အားရင်း | |
| ပဥ္စဝေါကာရပဋိသန္ဓေ နာမက္ခန္ဓာဟဒယဝတ္ထုသည် | အချင်းချင်းအား | |

လင်္ကာ ✱ စိတ်+စေ+ဘုတ်စု၊ ဝတ္ထုသန္ဓေ၊ ဤသုံးထွေ၊ တပ်လေ သဟဇ။
မိမိနှင့်မူ၊ အတူဖြစ်ရန်၊ ကျေးဇူးသန်၊ အမှန်သဟဇ။

**သဟဇာတပစ္စည်း။** အတူတကွဖြစ်၍ ကျေးဇူးပြုတတ်သောတရား အထက်ပါဇယားနှင့် လင်္ကာအတိုင်း၊ ကျေးဇူးပြုပုံ ၃–မျိုး ရှိသည်။

ဥပမာအားဖြင့် ။ သဟဇာတပစ္စည်းတရားတို့သည် နေ + ဆီမီး တို့နှင့် တူသည်။ နေ+ဆီမီးတို့သည် မိမိ၌လည်း အပူရှိန်နှင့်အလင်း ရောင်ရှိ၏။ မိမိဖြစ်ပေါ်လာသည်နှင့်တစ်ပြိုင်နက်၊ မိမိပတ်ဝန်းကျင်အား လည်း အပူရှိန်နှင့်အလင်းရောင်ကို တစ်ပြိုင်နက်ဖြစ်ပေါ်စေသဖြင့် ကျေးဇူး ပြု၏။

နေ+ဆီမီးတို့ကွယ်ပျောက်သွားသောအခါ၌လည်း အပူရှိန်နှင့် အလင်းရောင်ပါ တပြိုင်နက် ပျောက်ကွယ်သွားသဖြင့် ကျေးဇူးပြု၏။

သဟဇာတပစ္စယုပ္ပန်တရားသည် နေရောင်၊ ဆီမီးရောင်တို့နှင့် တူ၏။

သဟဇာတပစ္စည်းတပ်မှုသည် နာမ်အချင်းချင်းလည်း ပစ္စည်းတပ်၏။ နာမ်သည် ရုပ်အားလည်း ပစ္စည်းတပ်၏။ ရုပ်နှင့်နာမ်သည်လည်း အပြန်အလှန် ပစ္စည်းတပ်၏။ ရုပ်သည် ရုပ်အချင်းချင်းအားလည်း ပစ္စည်းတပ်၏။ ရုပ်သည် ရုပ်အားလည်း ပစ္စည်းတပ်၏။

**ပဋိသန္ဓေအခါ ပဉ္စဝေါကာရဘုံ၌** ပဋိသန္ဓေစိတ်သည် အတူတကွ ဖြစ်သော ဟဒယဝတ္ထုကြဉ်သော ကမ္မဇရုပ်တို့အား သဟဇာတပစ္စည်းသတ္တိဖြင့် ကျေးဇူးပြု၏။ ပဝတ္တိအခါ၌ ပဉ္စဝေါကာရဘုံမှာ နာမ်ခန္ဓာတို့သည် မိမိတို့ကြောင့် ဖြစ်သော စိတ္တဇရုပ်အား သဟဇာတသတ္တိဖြင့် ကျေးဇူးပြု၏။ ဤသို့ နာမ်က ရုပ်အား ပစ္စည်းတပ်ပုံနှစ်မျိုးကို ရည်တော်မူ၍-

**သန္ဓိအခါ၊ ကမ္မဇာ၊ နောက်မှာစိတ္တဇ။**

ဟူ၍ ဆိုတော်မူလတ္တံ့။

ရုပ်နှင့်နာမ်တို့၏ သဟဇာတသတ္တိဖြင့် အပြန်အလှန် ပစ္စည်းတပ်ပုံ ကား ပဋိသန္ဓေအခါ ပဉ္စဝေါကာရပဋိသန္ဓေစိတ်နှင့် ဟဒယဝတ္ထုသည် အပြန်အလှန် ပစ္စည်းတပ်ကြ၏။ ပဉ္စဝေါကာရ ပဋိသန္ဓေကို ပစ္စည်းယူခိုက် ဟဒယဝတ္ထုသည် ပစ္စယုပ္ပန်ဘက်က နေ၏၊ ဟဒယဝတ္ထုကို ပစ္စည်းယူခိုက် ပဉ္စဝေါကာရပဋိသန္ဓေသည် ပစ္စယုပ္ပန်ဘက်က နေ၏။ ဤကား အချင်းချင်း အပြန်အလှန် ပစ္စည်းတပ်ပုံတည်း။ ဤအချက်ကို ရည်တော်မူ၍-

**ဝတ္ထုနှင့်သန်၊ အပြန်ပြန်၊ သုံးတန်သဟ။**

ဟူ၍ ဆိုတော်မူလတ္တံ့။

**ရုပ်သည် ရုပ်အချင်းချင်း ပစ္စည်းတပ်ပုံကား**

ကလာပ်တူသော မဟာဘုတ် လေးပါးသည် အချင်းချင်း ပစ္စည်းတပ် ကြ၏။ "ဧကံ မဟာဘူတံ ပဋိစ္စ တယော မဟာဘူတာ။ တယော မဟာဘူတေ ပဋိစ္စ ဧကော မဟာဘူတော"စသော ပဋ္ဌာန်းပါဠိတော်နှင့်အညီ မဟာဘုတ်တစ်ခုကို ပစ္စည်းယူခိုက် သုံးပါးသော မဟာဘုတ်တို့သည် ပစ္စယုပ္ပန်ဘက်က နေကြကုန်၏။ ကြွင်းသော မဟာဘုတ်သုံးပါးတို့ကို ပစ္စည်းယူခိုက် တစ်ပါးသောမဟာဘုတ်သည် ပစ္စယုပ္ပန်ဘက်က နေ၏။ မဟာဘုတ်နှစ်ပါးကို ပစ္စည်းယူခိုက် ကြွင်းသော မဟာဘုတ်နှစ်ပါးသည် ပစ္စယုပ္ပန်ဘက်ကနေ၏။ ကြွင်းသောမဟာဘုတ်နှစ်ပါးကို ပစ္စည်းယူခိုက် ထို့ပြင် မဟာဘုတ် နှစ်ပါးသည် ပစ္စယုပ္ပန်ဘက်က နေ၏။

ရုပ်သည် ရုပ်အား ပစ္စည်းတပ်ပုံကား မဟာဘုတ်လေးပါးတို့သည် ကလာပ်တူဖြစ်သော ဥပါဒါရုပ်တို့အား ပစ္စည်းတပ်ကြကုန်၏။ ဤသို့ မဟာဘုတ် လေးပါးတို့က ကလာပ်တူဥပါဒါရုပ်တို့အား ပစ္စည်းတပ်မှုကို ရည်တော်မူ၍-

**နှစ်ဆယ့်လေးဖြာ၊ ဥပါဒါ၊ မဟာဘုတ်မှရ။**

ဟူ၍ ဆိုတော်မူလတ္တံ့။

**စိတ္တုပ္ပါဒ်တစ်ခု၌ သဟဇာတပစ္စည်းတပ်ပုံကို ပြဆိုအံ့-** လောဘမူ ပထမစိတ်၌ စေတသိက် ၁၉ ရှိ၏၊ စိတ်ပါထည့်လျှင် နှစ်ဆယ်ဖြစ်၏၊ နာမ်ကလာပ် တစ်ခုပေတည်း။ ထိုနာမ်ကလာပ်ဖြစ်သည်နှင့် တစ်ပြိုင်နက် စိတ္တဇရုပ်ကလာပ်လည်း ဖြစ်ပေါ်၏။ နာမ်ကလာပ်မှာ ခန္ဓာလေးပါးရှိ၏။ ဝေဒနာက္ခန္ဓာကို ပစ္စည်းယူခိုက် ကြွင်းသောခန္ဓာသုံးပါးသည် ပစ္စယုပ္ပန် ဖြစ်၏။ ကြွင်းသောခန္ဓာသုံးပါးကို ပစ္စည်း ယူခိုက် ဝေဒနာက္ခန္ဓာသည် ပစ္စယုပ္ပန် ဖြစ်၏။ ဤသို့စသည်ဖြင့် နာမ်ချင်းချင်း ပြန်လှန်၍ သဟဇာတပစ္စည်း တပ်ကြ၏။ တစ်နည်းအားဖြင့် ယခင် နာမ်ကလာပ် တွင် ဖဿကို ပစ္စည်းယူခိုက် ကြွင်းသော နာမ်တရား ၁၉ သည် ပစ္စယုပ္ပန်ဖြစ်၏။ ကြွင်းသောနာမ်တရား ၁၉ ကို ပစ္စည်းယူခိုက် ဖဿသည် ပစ္စယုပ္ပန်ဖြစ်၏။ ဤသို့ စသည်ဖြင့် နာမ်တရားတစ်ခုကို မူလပစ္စည်းထား၍ အချင်းချင်း လှည့်လည်၍ သဟဇာတ ပစ္စည်းတပ်ပုံကိုလည်း သိရာ၏။ ယခင်နာမ်ကလာပ်သည် ပစ္စည်းဖြစ်၏။ အတူတကွဖြစ်သော စိတ္တဇရုပ်ကလာပ်သည် ပစ္စယုပ္ပန်ဖြစ်၏။

**ပဋိသန္ဓေအခါ၌ သဟဇာတပစ္စည်းတပ်ပုံကား**

လူ့ဘုံ၌ မဟာဝိပါက် ပထမစိတ်ဖြင့် ပဋိသန္ဓေနေသော ဂဗ္ဘသေယျက ပုဂ္ဂိုလ်၏ ပဋိသန္ဓေအခိုက်မှာ မဟာဝိပါက် ပထမစိတ်သည် ပဋိသန္ဓေကိစ္စနှင့် ဖြစ်လာ၏။ ထိုစိတ်နှင့် အတူတကွ စေတသိက် ၃၃-ပါးလည်း ဖြစ်ကြ၏။ စိတ်ပါထည့်လျှင် နာမ်ပေါင်း ၃၄-ပါးဖြစ်၏။ နာမ်ကလာပ် တစ်ခုပေတည်း။ ထိုပဋိသန္ဓေစိတ်နှင့် တစ်ပြိုင်နက် ကာယဒသက၊ ဘာဝဒသက၊ ဝတ္ထုဒသက ဟုဆိုအပ်သော ကမ္မဇကလာပ်သုံးစည်း၊ ရုပ်ပေါင်း ၃၀ တို့လည်း ဖြစ်ကြကုန်၏။ ခန္ဓာတစ်ပါးကို ပစ္စည်းယူခိုက် ကြွင်းသောခန္ဓာသုံးပါးသည် ပစ္စယုပ္ပန် ဖြစ်၏။ ကြွင်းသောခန္ဓာသုံးပါးကို ပစ္စည်းယူခိုက် ယခင်ဆိုအပ်သောခန္ဓာတစ်ပါးသည် ပစ္စယုပ္ပန်ဖြစ်၏။ ဤသို့စသည်ဖြင့် နာမ်အချင်းချင်း သဟဇာတပစ္စည်းတပ်ပုံကို အကျယ်သိရာ၏။ ထို **ပဋိသန္ဓေဝိညာဏ်သည် ဟဒယဝတ္ထုရုပ်ကြဉ်သော ကမ္မဇကလာပ် သုံးစည်းတို့အား သဟဇာတပစ္စယ သတ္တိဖြင့် ကျေးဇူးပြု၏။ ထို ကမ္မဇကလာပ်သုံးစည်းသည် ပစ္စယုပ္ပန်ဖြစ်၏။ ပဋိသန္ဓေစိတ္တုပ္ပါဒ်နှင့် ဟဒယဝတ္ထုရုပ်တို့သည်မူကား အချင်းချင်း အပြန်အလှန် ပစ္စည်းတပ်ကြ ကုန်၏။** ပဋိသန္ဓေစိတ္တုပ္ပါဒ်ကို ပစ္စည်းယူခိုက် ဟဒယဝတ္ထုသည် ပစ္စယုပ္ပန်ဘက်က နေ၏။ ဟဒယဝတ္ထုရုပ်ကို ပစ္စည်းယူခိုက် ပဋိသန္ဓေစိတ္တုပ္ပါဒ်သည် ပစ္စယုပ္ပန်ဘက်က နေ၏။

**တစ်ဘက်သတ်ကျေးဇူးပြုပုံအချက်များ**

စိတ်နှင့်စိတ္တဇရုပ်တို့သည် သဟဇာတ ဖြစ်ကြကုန်သော်လည်း စိတ်ကသာလျှင် စိတ္တဇရုပ်အား ကျေးဇူးပြုနိုင်သည်၊ စိတ္တဇရုပ်ကပြန်၍ စိတ်အား ကျေးဇူးမပြုနိုင်။ ပဋိသန္ဓေစိတ်နှင့် ဟဒယဝတ္ထုကြဉ်သော ကမ္မဇရုပ်တို့သည် သဟဇာတဖြစ်ကြကုန်သော်လည်း ပဋ္စဝေါကာရ ပဋိသန္ဓေစိတ်ကသာလျှင် ဆိုပြီး ကမ္မဇရုပ်တို့အား ကျေးဇူးပြုနိုင်သည်၊ ဆိုပြီးကမ္မဇရုပ်တို့က ပဋ္စဝေါကာရပဋိသန္ဓေ စိတ်အား ပြန်လှန်၍ ကျေးဇူးမပြုနိုင်ကုန်။

ကလာပ်တူဖြစ်သော မဟာဘုတ်နှင့် ဥပါဒါရုပ်တို့သည် သဟဇာတ ဖြစ်ကြကုန်သော်လည်း မဟာဘုတ်တို့ကသာလျှင် ဥပါဒါရုပ်တို့အား ကျေးဇူး ပြုနိုင်ကုန်သည်၊ ဥပါဒါရုပ်တို့က ပြန်လှန်၍ မဟာဘုတ်တို့အား ကျေးဇူးမပြုနိုင် ကြကုန်။ (ဤကား တစ်ဘက်သတ် ကျေးဇူးပြုပုံ အချက်များပေတည်း။)

**အချင်းချင်းကျေးဇူးပြုပုံများ**

သဟဇာတဖြစ်သော စိတ်နှင့် စေတသိက်တို့ သည် အချင်းချင်းပြန်လှန်၍ ကျေးဇူးပြုနိုင်ကြကုန်၏။ သဟဇာတဖြစ်သော ပဋ္စဝေါကာရပဋိသန္ဓေစိတ်နှင့် ဟဒယဝတ္ထုရုပ်တို့သည်လည်း အချင်းချင်းပြန်လှန်၍ ကျေးဇူးပြုနိုင်ကြကုန်၏။ ကလာပ်တူသော မဟာဘုတ်တို့သည်လည်း အချင်းချင်း ပြန်လှန်၍ ကျေးဇူးပြုနိုင် ကြကုန်၏။

**စိတ်က– ဥတုဇ၊ အာဟာရဇတို့အား ပစ္စည်းမပြုပုံ အကြောင်း**

အဇ္ဈတ္တသန္တာန်၌ စိတ်ဖြစ်ပေါ်သည်နှင့် တစ်ပြိုင်နက် ဥတုဇရုပ်၊ အာဟာရဇရုပ်တို့သည်လည်း ဥပါဒ်ပြိုင်၍ ဖြစ်ကြကုန်၏။ ထိုဥတုဇ၊ အာဟာရရုပ်တို့အားလည်း သဟဇာတသတ္တိဖြင့် စိတ်က အဘယ်ကြောင့် ပစ္စည်းမပြုနိုင်သနည်း ဟူငြားအံ့။ ထိုဥတုဇ၊ အာဟာရဇရုပ်တို့သည် စိတ်နှင့်အတူတကွ ဖြစ်ကြကုန်သော် လည်း စိတ်ဖြစ်မှုကြောင့် ဖြစ်ပေါ်ကြသည် မဟုတ်။ မိမိတို့ အကြောင်း အားလျော်စွာသာလျှင် ဖြစ်ပေါ်ကြကုန်၏။ စိတ်နှင့်တစ်စုံတစ်ရာမျှ မသက်မဆိုင် ကြလေကုန်။ ထိုကြောင့် စိတ်သည် မစပ်မဆိုင်သော ဥတုဇရုပ်၊ အာဟာရဇရုပ် တို့အား ကျေးဇူးမပြုနိုင်ခြင်း ဖြစ်သည်ဟု ဖြေဆိုရာ၏။

ပဝတ္တိအခါ၌ ဖြစ်သော ကမ္မဇရုပ်တို့အားလည်း စိတ်တို့က ကျေးဇူး မပြုပုံကို ပြဆိုအပ်ပြီးသောနည်းအတိုင်း သိရာ၏။

## အညမညပစ္စည်း ကျေးဇူးပြုပုံ ၃မျိုး

| | | |
|---|---|---|
| အလုံးစုံသော(စိတ်+စေ)ပဝတ္တိပဋိသန္ဓေ နာမက္ခန္ဓာ ၄-ပါးသည် | အချင်းချင်းအား | အ |
| အလုံးစုံသောမဟာဘုတ် ၄-ပါးသည် | အချင်းချင်းအား | ည |
| ပဋိသန္ဓေဝေါကာရ ပဋိသန္ဓေ နာမက္ခန္ဓာ ဟဒယဝတ္ထုသည် | အချင်းချင်းအား | မ ည |

**လင်္ကာ။ စိတ်+စေ+ဘုတ်စု၊ ဝတ္ထုသန္ဓေ၊ ဤသုံးထွေ၊ တပ်လေအင်မည။ အချင်းချင်းပြန်လှန်၊ တပ်လေပြန်၊ မှတ်ရန်အင်မည။**

**အညမညပစ္စည်း။** လဲ၍မကျအောင် အချင်းချင်းမှီ၍ ထောက်ထားသောဒုတ် ၃-ချောင်းနှင့်တူ၏။ဒုတ် ၃-ချောင်းသည် အချင်းချင်း မှီနေရလျှင် မလဲမပြိုဘဲ တည်နေမည်၊ တစ်ချောင်းချောင်းလဲသွားသော် အားလုံးလဲပြိုသွားရာ၏။ ထို့နည်းတူ စိတ်+စေ+ဘုတ်စု၊ ဝတ္ထုသန္ဓေ ပစ္စည်းတရားတို့သည် အချင်းချင်း အမှီသဟဲပြုကာ တည်တံ့နေအောင် အပြန်ပြန် အလှန်လှန် ကျေးဇူးပြုကြ၏။

## နိဿယပစ္စည်း၊ ကျေးဇူးပြုပုံ ၃-မျိုး

| | | | |
|---|---|---|---|
| အလုံးစုံသော (စိတ်+စေ) ပဝတ္တိပဋိသန္ဓေနာမက္ခန္ဓ ၄-ပါးသည် | အချင်းချင်းအားရင်း အချင်းချင်း နာမက္ခန္ဓာ စိတ္တဇရုပ် + ပဋိသန္ဓေ ကမ္မဇရုပ်တို့အားရင်း | သဟ ဇာတ နိ | နိ |
| အလုံးစုံသောမဟာဘုတ် ၄-ပါး သည် | အချင်းချင်းအားရင်း ဥပါဒါရုပ်အားရင်း | ဿ ယ | ဿ |
| ဝတ္ထုရုပ် ၆-ပါးတို့သည် | ဝိညာဏဓါတ် ၇-ပါး တို့အားရင်း | ပုရေ ဇာတ | ယ |

**လင်္ကာ။ သဟ ၂စု၊ ဆဝတ္ထု၊ သုံးခု နိဿယ**

**နိဿယပစ္စည်း။** မှီရာဖြစ်၍ ကျေးဇူးပြုတတ်သောတရား။

ဥပမာ။ လူ + တိရစ္ဆာန်+ သစ်ပင်+ တော+ တောင်တို့သည် မြေကြီးကို မှီကြသကဲ့သို့လည်းကောင်း၊ လူ+ရဟန်းတို့သည် အိမ်ကျောင်းတို့၌ မှီကြရသကဲ့သို့လည်းကောင်း၊ နိဿယပစ္စည်းတရားသည် မြေကြီး၊ အိမ်ကျောင်းတို့နှင့် တူ၏။ ပစ္စယုပ္ပန်တရားတို့သည် လူ+ တိရစ္ဆာန်+ သစ်ပင်+ တော+ တောင်တို့နှင့် တူ၏။

**သဟဇာတပစ္စည်းတပ်လျှင် သဟဇာတ နိဿယအကျုံးဝင်ခွင့်ရပုံ**

နာမ်သည် အချင်းချင်းအား မှီရာအဖြစ်ဖြင့် ကျေးဇူးပြုသည်။ နာမ်သည် စိတ္တဇရုပ်တို့အား မှီရာအဖြစ်ဖြင့် ကျေးဇူးပြု၏။ ပဋိသန္ဓေ ၁၅နှင့် ဟဒယဝတ္ထုသည် အချင်းချင်း မှီရာအဖြစ်ဖြင့် ကျေးဇူးပြု၏။ ပဋိသန္ဓေစိတ်သည် ဟဒယဝတ္ထုမှတစ်ပါးသော ကမ္မဇရုပ်တို့အား မှီရာအဖြစ်ဖြင့် ကျေးဇူးပြု၏။ ကလာပ်တူမဟာဘုတ်လေးပါး သည် အချင်းချင်း မှီရာအဖြစ်ဖြင့် ကျေးဇူးပြု၏။ ဤသို့ သဟဇာတပစ္စည်းတပ်သော အချက်တိုင်းမှာပင် သဟဇာတနိဿယပစ္စည်း၏ ပါဝင်ခွင့်ရနိုင်သည်များကို ပိုင်းခြား၍ သိရာ၏။

**ပဉ္စဝိညာဏာ အသမ္ဘိန္နဝတ္ထုကာ အသမ္ဘိန္နာရမ္မဏာ**

ပဉ္စဝိညာဏာ= စက္ခုဝိညာဏ်အစရှိသော ပဉ္စဝိညာဏဓာတ်တို့သည် အသမ္ဘိန္နဝတ္ထုကာ = မချုပ်သေးသောဝတ္ထုလျှင် မှီရာဝတ္ထု ရှိကြကုန်၏။ အသမ္ဘိန္နာရမ္မဏာ = မချုပ်သေးသောအာရုံကို အာရုံပြုကြကုန်၏။

ဤသို့ ဉာဏဝိဘင်း၌ ဟောတော်မူသောကြောင့် ပဉ္စဝိညာဏ်တို့သည် ပစ္စုပ္ပန်အနေနှင့် ထင်ရှားရှိသေးသော ပဉ္စဝတ္ထုတို့ကိုသာ မှီကြကုန်၏။ ပဉ္စဝတ္ထုတို့သည် ပဉ္စဝိညာဏ်တို့အား မိမိတို့ ထင်ရှားရှိဆဲ ဟု ဆိုအပ်သော ပစ္စုပ္ပန်အားဖြင့် မှီရာဖြစ်၍ ကျေးဇူးပြုကြကုန်၏။ (အတ္ထိပစ္စည်း၌လည်း ဝတ္ထုပုရေဇာတတ္ထိဟူ၍ ဆိုပေလတ္တံ့။ ထင်ရှားရှိဆဲ ပစ္စုပ္ပန်အနေအားဖြင့် ကျေးဇူးပြုသောပစ္စည်းများကို အတ္ထိပစ္စည်း ဆိုသည်။) ထိုသို့ ပြဆိုအပ်ပြီးသော အဓိပ္ပာယ်တို့ကြောင့် ပစ္စယုပ္ပန်ဖြစ်သော ပဉ္စဝိညာဏဓာတ်တို့၏ ရှေးကဖြစ်နှင့်၍ ပဉ္စဝိညာဏဓာတ်တို့၏ ဖြစ်ခိုက်၌လည်း မချုပ်လေသေးဘဲ မှီရာတည်ရာ မြေကြီး၏ပမာဖြင့် ကျေးဇူးပြုနိုင်သော ပဉ္စဝတ္ထုတို့ကိုသာလျှင် ဝတ္ထုပုရေဇာတနိဿယပစ္စည်း မည်ထိုက်ကြောင်းကို သိအပ်ကုန်၏။ ရှေးက ဖြစ်နှင့်ကြကုန်သော်လည်း ပဉ္စဝိညာဏ်တို့ ဖြစ်ပေါ်သောအခါ

မိမိတို့ ချုပ်လေကြကုန်၍ မှီရာအဖြစ်ဖြင့် ကျေးဇူးမပြုနိုင်သော ပဉ္စဝတ္ထုတို့ကို မူကား ပုရေဇာတနိဿယပစ္စည်းထိုက်သောတရားတို့ဟူ၍ မဆိုထိုက်ကုန်။ ပဉ္စဝိညာဏ်တို့၏ ရှေးက ဖြစ်နှင့်ကြကုန်၍ ပဉ္စဝိညာဏ်တို့ ဖြစ်ပေါ်သောအခါ မိမိတို့သည် ပစ္စုပ္ပန်အနေအားဖြင့် ထင်ရှားရှိနေကြကုန်သော်လည်း ပဉ္စဝိညာဏ်တို့၏ မှီရာနိဿယကိစ္စကို မဆောင်ရွက်နိုင်ကြကုန်ပြန်ပါလျှင် ဝတ္ထုပုရေဇာတနိဿယပစ္စည်းဟူ၍ မဆိုထိုက်လေကုန်။

**ဝတ္ထုပုရေဇာတ နိဿယဝိနိစ္ဆယ** ။ ဤသို့ပါဠိတော်ကြီး၊ အဋ္ဌကထာကြီးတို့၌ ဤမည်သော ပဉ္စဝတ္ထုတို့သည်သာလျှင် ဝတ္ထုပုရေဇာတနိဿယပစ္စည်း တပ်ကြကုန်၏ဟူ၍ သေချာစွာ နေရာချထား၍ မဆိုကြကုန်သော်လည်း **အဘိဓမ္မာဝတာရဋီကာဆရာ၏ လက်ထက်ဆိကမှစ၍ နောက်နောက်ဖြစ်သော ဆရာတို့သည် မန္ဒာယုကဝတ္ထု၊ အမန္ဒာယုကဝတ္ထု၊ မဇ္ဈိမာယုကဝတ္ထုဟူ၍ ဝတ္ထုသုံးမျိုး ခွဲဝေတော်မူကြကုန်ပြီးလျှင် မဇ္ဈိမာယုကဖြစ်သော ပဉ္စဝတ္ထုတို့သည်လျှင် ပဉ္စဝိညာဏ်တို့၏ မှီရာ ဖြစ်ကြကုန်၏၊** အခြားသော ပဉ္စဝတ္ထုတို့သည် ပဉ္စဝိညာဏ်တို့၏ မှီရာ မဖြစ်ကြကုန်။ ထို့ကြောင့် မဇ္ဈိမာယုကဖြစ်သော ပဉ္စဝတ္ထုတို့သည်သာ လျှင် ဝတ္ထုပုရေဇာတနိဿယ ပစ္စည်းတပ်ကြကုန်၏ ဟူ၍ သေချာစွာ မိန့်ဆိုတော်မူကြကုန်၏။

ပဋိသန္ဓေစိတ်နှင့် ဥပါဒ်ပြိုင်သော ဟဒယဝတ္ထုသည် သဟဇာတဖြစ်သော ပဋိသန္ဓေစိတ် ပထမဘဝင်စိတ်တို့၏ မှီရာဖြစ်၏။ ထိုဟဒယဝတ္ထုသည် ပဋိသန္ဓေစိတ်၏ မှီရာဖြစ်သော်လည်း ရှေ့ကဖြစ်နှင့်မှုဟုဆိုအပ်သော ပုရေဇာတလက္ခဏာ မရှိသောကြောင့် ပဋိသန္ဓေစိတ်အား ဝတ္ထုပုရေဇာတနိဿယသတ္တိဖြင့် ကျေးဇူးမပြုနိုင်၊ သဟဇာတနိဿယသတ္တိဖြင့်သာ ကျေးဇူးပြုနိုင်ချေသည်။ မိမိ၏နောက်၌ ဖြစ်သော ပထမဘဝင်စိတ်အားမူကား ဝတ္ထုပုရေဇာတနိဿယသတ္တိဖြင့် ကျေးဇူး ပြုနိုင်ပေ၏။

## ဝတ္ထုပုရေဇာတပစ္စည်းမတပ်သော ဟဒယဝတ္ထုများ

ပဉ္စဒွါရဝီထိ၌ ပဉ္စဒွါရာဝဇ္ဇန်းနှင့် ဥပါဒ်ပြိုင်သော ဟဒယဝတ္ထုသည် ဝတ္ထုပုရေဇာတသတ္တိဖြင့် ကျေးဇူးပြုရန်စိတ်မရှိလေ၊ နိရောဓသမာပတ် ဝင်စား၍ နေစဉ်အခါ၌ ဖြစ်ပေါ်သော ဟဒယဝတ္ထုတို့သည်လည်း ဝတ္ထုပုရေဇာတသတ္တိဖြင့် ကျေးဇူးပြုရန် စိတ်မရှိကြလေကုန်။

## ဟဒယဝတ္ထု၏ ဝတ္ထုပုရေဇာတသတ္တိဖြင့် ကျေးဇူးပြုပုံအမြွက်

ပဋိသန္ဓေစိတ်နှင့် ဥပါဒ်ပြိုင်သော ဟဒယဝတ္ထုရုပ်သည် ပထမဘဝင်၏ ရှေ့၌ဖြစ်သောကြောင့် ပုရေဇာတ လက္ခဏာနှင့် ညီ၏။ ထိုပထမဘဝင်၏ မှီရာ ဖြစ်သောကြောင့်လည်း နိဿယလက္ခဏာနှင့် ညီပြန်၏။ ထိုကြောင့် ပုရေဇာတ လက္ခဏာနှင့် ညီပြန်၏။ ထိုကြောင့် ပဋိသန္ဓေနှင့် ဥပါဒ်ဖြစ်သော ဟဒယဝတ္ထုရုပ် သည် ဝတ္ထုပုရေဇာတနိဿယပစ္စည်း မည်၏။ ပထမဘဝင်စိတ်သည် ထိုပစ္စည်း၏ ပစ္စယုပ္ပန် မည်၏။ ဤသို့စသည်ဖြင့် ဟဒယဝတ္ထု ပုရေဇာတနိဿယပစ္စည်း တပ်ပုံကို ဝေဖန်ရာ၏။

## နာမ်တရားတို့သည် မိမိနှင့်အတူဖြစ်သောဝတ္ထုကို မမှီဘဲ ရှေ့ရှေ့ဝတ္ထုများ ကို မှီရကြောင်း

အဘယ်ကြောင့် နာမ်တရားတို့သည် မိမိနှင့်အတူဖြစ်သော ဝတ္ထုကို မမှီကြကုန်ဘဲ ရှေ့ရှေ့၌ဖြစ်သော ဝတ္ထုများကိုသာ မှီကြလေကုန်သနည်းဟူမူ ရုပ်တရားတို့မည်သည် ဖြစ်ပေါ်ဥပါဒ်ဆဲခဏ၌ လွန်စွာ အားနည်းကြကုန်၏။ ဌီသို့ ရောက်မှသာလျှင် အားစွမ်းနှင့် ပြည့်စုံကြကုန်၏။ ထိုကြောင့် ဥပါဒ်ဆဲ ဖြစ်သော ဝတ္ထုရုပ်တို့သည် နာမ်တရားတို့၏အမှီကို မခံနိုင်ကြကုန်။ ဌီသို့ရောက် ကုန်မှသာလျှင် နာမ်တရားတို့၏အမှီကို ခံနိုင်ကြကုန်သည်။ ဝတ္ထုပုရေဇာတနိဿယ ပစ္စည်းကိစ္စကို ရွက်ဆောင်နိုင်ကြကုန်သည်။ ဤသို့ ပြဆိုအပ်ပြီးသော အဓိပ္ပါယ်စု ကြောင့် နာမ်တရားတို့သည် မိမိနှင့်အတူ ဥပါဒ်သောဝတ္ထုရုပ်တို့ကို မမှီကြကုန်ဘဲ မိမိတို့၏ရှေ့၌ ဖြစ်နှင့်ကြသော ဝတ္ထုရုပ်တို့ကိုသာ မှီကြကုန်သည်ဟူ၍ ဖြေဆို ရာ၏။

## ပဋိသန္ဓေစိတ်သည် သဟဇာတဟဒယဝတ္ထုကို မှီရခြင်းအကြောင်း

ထိုသို့ဖြစ်လျှင် ပဋိသန္ဓေစိတ်သည် အဘယ်ကြောင့် မိမိနှင့်အတူ ဥပါဒ်သော သဟဇာတ ဟဒယဝတ္ထုကို မှီပြန်ပါသနည်းဟူမူ ပဋိသန္ဓေစိတ်သည် မူကား မိမိနှင့် အတူတကွဖြစ်ပေါ်သော သဟဇာတဟဒယဝတ္ထုမှ တစ်ပါးသော ပုရေဇာတဟဒယဝတ္ထုဟူ၍ တစ်စုံတစ်ရာမျှ မရှိချေ။ မိမိသည် အမှီမရှိလျှင် ဖြစ်နိုင်သောတရားလည်း မဟုတ်ပြန်သောကြောင့် အခန့်သင့်ရှိ၍နေသော သဟဇာတဟဒယဝတ္ထုကိုသာ မှီရလေသည်။ အကယ်၍ မိမိ၏ရှေ့၌ဖြစ်နှင့်သော ပုရေဇာတဟဒယဝတ္ထုကို ရှိပါတမူကား မိမိနှင့်အတူ ဥပါဒ်သော သဟဇာတဟဒယ

ဝတ္ထုကို မမှီဘဲ ပုရေဇာတဟဒယဝတ္ထုကိုသာ မုချမှီလိမ့်မည်ဖြစ်၏။ ထိုသို့မူကား မရှိခဲ့လေ။ ထို့ကြောင့်သာလျှင် သဟဇာတဟဒယဝတ္ထုကို မှီရလေသည် ဟူ၍ ဖြေဆိုရာ၏။

## အာဟာရပစ္စည်း ၂မျိုး (ရုပ်အာဟာရ၊ နာမ်အာဟာရ)

| | | | |
|---|---|---|---|
| အလုပ်အလွေ့ ပြုအပ်သော ကဗဠီကာရာဟာရ (စတုသမုဋ္ဌာနိက ဩဇာရုပ်) သည် | ဤရူပကာယအား | ရုပ် အာဟာရ | အာဟာရ |
| ဝိညာဏာဟာရ၊ မနော သဉ္စေတနာဟာရ ဖဿာဟာရဟူသော အာဟာရ ၃-မျိုးသည် | တကွဖြစ်သော နာမ်+ရုပ်တို့အား | နာမ် အာဟာရ | |

**လင်္ကာ * ထောက်ပံ့ခိုင်ဖွယ်၊ ကျေးဇူးကြွယ်၊ လေးသွယ်အာဟာရ။**

**အာဟာရပစ္စည်း**။ ရုပ်ခန္ဓာ+နာမ်ခန္ဓာတို့အား ကြာရှည်တည်တံ့အောင် ထောက်ပံ့ခိုင်စေခြင်း၊ ဆောင်ထားခြင်းအားဖြင့် ကျေးဇူးပြုတတ်သော တရား၊

အလုပ်အလွေ့ပြု၍ စားမျိုးအပ်သောအစာ၊ ကဗဠီကာရာဟာရသည်၊ ရူပကာယရုပ်ခန္ဓာကိုယ်ကြီးအား ကြာရှည်တည်တံ့အောင် ထောက်ပံ့ခိုင်စေခြင်း၊ ဆောင်ထားခြင်းအားဖြင့် ကျေးဇူးပြုပုံမှာ ထင်ရှား၏။

## နာမ်အာဟာရ ၃မျိုး

### (၁) ဝိညာဏာဟာရ

(ဝိညာဏပစ္စယာ နာမရူပံ= ဝိညာဏ်သည် နာမ်ရုပ်ဖြစ်အောင် ထောက်ပံ့ဆောင်ထားတတ်၏)

**(၂) မနောသဉ္စေတနာဟာရ**

(သင်္ခါရပစ္စယာ ဝိညာဏံ= သင်္ခါရသည် ဝိညာဏ်ဖြစ်အောင် ထောက်ပံ့ဆောင်ထားတတ်၏။)

**(၃) ဖဿာဟာရ**

(ဖဿပစ္စယာ ဝေဒနာ= ဖဿသည် ဝေဒနာဖြစ်အောင် ထောက်ပံ့ဆောင်ထားတတ်၏။)

**နာမ်အာဟာရတရားကိုယ် ၃-ပါးတို့ နာမ်ခန္ဓာအစဉ် ဆက်လက်ရှင်သန်အောင် ထောက်ပံ့ဆောင်ထားပုံကို ငှက်တို့၏ ဥပမာဖြင့် ပြဆိုခြင်း**

၁။ ငှက်တို့သည် မျက်စိဖြင့် ဒေရပ်ဒေသတို့ကိုလည်းကောင်း၊ အသီးရှိသော အပင်တို့ကိုလည်းကောင်း ထင်ရှားအောင် ကြည့်ရှုမှတ်သားသကဲ့သို့-
သတ္တဝါတို့ သန္တာန်၌ရှိသော ဝိညာဏာဟာရ ၆-ပါးတို့ဖြင့် အာရုံ ၆-ပါးတို့ကို ဇောအစဉ်၌ ထင်ရှားအောင် ပိုင်းခြားမှတ်သား၏။

၂။ ငှက်တို့သည် မှတ်သားထားသည့်အတိုင်း တစ်ပင်မှတစ်ပင်၊ တစ်တောမှတစ်တောသို့ ပျံသန်းခြင်းအမှုကိုပြုကာ သစ်သီးကို ရအောင် ရှာဖွေအားထုတ်ခြင်းကို ပြုသကဲ့သို့-
သတ္တဝါတို့သန္တာန်၌ရှိသော ၆-ပါးသော မနောသဉ္စေတနာဟာရ (သင်္ခါရ)တို့ဖြင့် အာရုံ ၆-ပါးတည်းဟူသော မှီရာဝတ္ထုကို ရခြင်းငှာ အားထုတ်၏။

၃။ ငှက်တို့သည် အသီးကို ရှာဖွေ၍ရသောခါ၊ ထိုးဆိတ်စားသောက်သကဲ့သို့-
သတ္တဝါတို့ သန္တာန်ရှိသော ၆-ပါးသော ဖဿာဟာရတို့ဖြင့် ရရှိလာ သော အာရုံတို့ကို ဣဋ္ဌရသ (ကောင်းသောအရသာ) အနိဋ္ဌရသ(မကောင်းသောအရသာ)စသည်ဖြင့် ထင်ရှားစွာ သိမြင်ပြီး သုခဝေဒနာ၊ ဒုက္ခဝေဒနာတို့ကို ခံစား၍ နာမ်တရားတို့ကို ဆက်ကာဆက်ကာတည်အောင် အထောက်အပံ့ပြုကာ ဆောင်ထားသည်။

ဤဥပမာအတိုင်း ငှက်တို့သည်အသီးရှိ မရှိကို ကြည့်ရှုမှတ်သား (ဝိညာဏါဟာရ) ပျံသန်းရှာဖွေအားထုတ် (မနောသဉ္စေတနာဟာရ)၊ ရရှိသောအသီးကိုစား (ဖဿာဟာရ)ကာ ဆက်လက် ရှင်သန်နေသကဲ့သို့ သတ္တဝါတို့သန္တာန်၌လည်း ဝိညာဏာဟာရဖြင့် အာရုံ ၆-ပါးကို ကြည့်ရှု မှတ်သား၊ မနောသဉ္စေတနာဟာရဖြင့် အာရုံကိုရအောင် လှုံ့လပြု၊ ဖဿာဟာရဖြင့် အာရုံ၏ကောင်း မကောင်းအရသာကို ခံစားကာ နာမ်တရားတို့ ဆက်လက် တည်တံ့နေအောင် ဤအာဟာရ ၃-ပါး တို့သည် လွန်စွာဆောင်ထားသဖြင့် ကျေးဇူးပြုနေသည်။

**အာဟာရမည်ပုံ**

အာဟရတီတိ အာဟာရော။ အာဟရတိ၊ လွန်စွာဆောင်တတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့်။ အာဟာရော၊ အာဟာရမည်၏။ မိမိဆိုင်ရာ အကျိုး ပစ္စယုပ္ပန်တရားတို့ကို ကြာမြင့်ခိုင်ခံ့စွာ တည်စေခြင်းငှာလည်းကောင်း၊ တည်တံ့နေရုံ မျှတွင် မကဘဲ တိုးတက်စည်ပင် ပြန့်ပွားစေခြင်းငှာလည်းကောင်း လွန်စွာ ဆောင်တတ်၊ လွန်စွာ အားပေးတတ်၊ လွန်စွာ ကျေးဇူးပြုတတ်သောတရားများကို အာဟာရဟု ခေါ်သည်။

**အာဟာရကိစ္စ ၂-မျိုး**

အမှန်အားဖြင့် အာဟာရတရားများသည် (၁) ပစ္စယုပ္ပန်တရားတို့ကို ဖြစ်ပေါ်စေခြင်း ဇနကကိစ္စနှင့် (၂) ထောက်ပံ့ခြင်း ဥပတ္ထမ္ဘကကိစ္စနှစ်မျိုးလုံးကိုပင် ဆောင်ရွက်ကြသည်၊ သို့ပင်ဖြစ်သော်လည်း ဥပတ္ထမ္ဘကကိစ္စသာလျှင် အာဟာရ တို့၏ ပဓာနကိစ္စ ဖြစ်၏။ အာဟာရတရားတိုင်း အမြဲဆောင်ရွက်နိုင်သောကိစ္စ ဖြစ်၏။ ဇနကကိစ္စကိုကား အာဟာရတရားတိုင်း အမြဲဆောင်ရွက်နိုင်ကြသည် မဟုတ်ချေ၊ အာဟာရတရားတို့၏ ပင်ရင်းကိစ္စလည်း မဟုတ်ပေ၊ ရံဖန်ရံခါ အချို့သော အာဟာရတရားများကသာလျှင် ပစ္စယုပ္ပန်တရားတို့ကို ဖြစ်ပေါ်စေခြင်း ဇနကကိစ္စကို ဆောင်ရွက်နိုင်ကုန်၏။ ထို့ကြောင့်-

"**ထောက်ပံ့နိုင်ဖွယ်၊ ကျေးဇူးကြွယ်၊ လေးသွယ် အာဟာရ** "ဟု မိန့်ဆိုတော်မူသည်။ ပဋ္ဌာန်းအဋ္ဌကထာနှင့် မူလဋီကာတို့၌လည်း ထောက်ပံ့ခြင်း ဥပတ္ထမ္ဘကကိစ္စသာလျှင် အာဟာရတို့၏ ပဓာနကိစ္စဖြစ်ကြောင်း ဖွင့်ဆိုတော်မူ ကြပေသည်။

ထိုအာဟာရမည်သော တရားတို့သည်-

**"ကဗဠီ၊ ဖဿော၊ မနောသဉ္စေ၊ ဝိညာဏေ၊ လေးထွေ အာဟာရ"**

ဟူသော သမုစ္စည်းကဗျာနှင့်အညီ လေးပါးအပြားရှိကုန်၏။ ထိုလေးပါးတို့ကား-

(၁) ဩဇရုပ်ဟု ဆိုအပ်သော ကဗဠီကာရ အာဟာရ

(၂) ဖဿစေတသိက်ဟု ဆိုအပ်သော ဖဿာဟာရ

(၃) စေတနာစေတသိက်ဟု ဆိုအပ်သော မနောသဉ္စေတနာဟာရ

(၄) စိတ် ၈၉ ဟု ဆိုအပ်သော ဝိညာဏာဟာရ တို့ဖြစ်သည်။

**ရုပ်နာမ်အာဟာရ ၂-မျိုး**

ထိုလေးပါးတို့တွင် ကဗဠီကာရ အာဟာရကို ရုပ်အာဟာရဟုခေါ်၍ ကျန်သုံးပါးကို နာမ်အာဟာရဟု ခေါ်သည်။ ထိုရုပ်အာဟာရ၊ နာမ်အာဟာရ နှစ်မျိုးလုံးပင် မိမိတို့ဆိုင်ရာ ပစ္စယုပ္ပန်တရားတို့အား ဇနက၊ ဥပတ္ထမ္ဘကသတ္တိမျိုးတို့ဖြင့် ထိုက်သည့်အားလျော်စွာ ကျေးဇူးပြုကြသည်။

## ဣန္ဒြိယပစ္စည်း ကျေးဇူးပြုပုံ ၃-မျိုး

| | | | |
|---|---|---|---|
| နာမ်ဣန္ဒြေတရားကိုယ် ၈-ပါးသည် (စိတ်+နာမ်ဇီဝိတ+ဝေဒနာ ဝိရိယ + သဒ္ဓါ+ သတိ+ ဧကဂ္ဂတာ + ပညာ) | တကွဖြစ်သော စိတ်+စေတသိက်၊ ရုပ်တို့အား | သဟဇာတိန္ဒြိယ | ဣန္ဒြိယ |
| ရုပ်ဣန္ဒြေတရားကိုယ် ၅-ပါးသည် (ပသာဒရုပ် ၅-ပါး) (သို့)ဝတ္ထု ၅-ပါးတို့သည် | ဒွေပဉ္စဝိညာဏ် ၁၀ + သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇-ပါး တို့အား | ပုရေဇာတိန္ဒြိယ | |
| ရုပ်ဇီဝိတိန္ဒြေသည် | ရုပ်ဇီဝိတိန္ဒြေ ကြဉ်သော ကမ္မဇရုပ်တို့အား | ရူပဇီဝိတိန္ဒြိယ | |

လင်္ကာ

*** သဟ+ပုရေ၊ ဇီဝိတ်၊ သုံးတန်ဣန္ဒြိယ။**

*** စိတ်+ဇီ+ဝေ+ဝိ၊ သဒ်+သ+ဧိ၊ ပညီနာမ်ရှစ်သ။**

*** ဝတ္ထုငါးလီ၊ ဝတ်ပုရိ၊ ရုပ်ဇီ+ဇီဝိတ။**

**ဣန္ဒြိယပစ္စည်း**

ဆိုင်ရာကိစ္စတို့၌သာ အစိုးရသည်ဖြစ်၍ ကျေးဇူးပြုတတ်သော တရား-

တိုင်းပြည်တစ်ပြည်အတွင်းရှိသော နယ်စား၊ ပယ်စားမင်းများသည် အခြားသောနယ်စား၊ ပယ်စားမင်းတို့၏အစိုးရမှုကို ဝင်ရောက်မစွက်ဖက်ပဲ၊ မိမိနှင့်ဆိုင်ရာ နယ်၊ ပယ်ကို အစိုးတရအုပ်ချုပ်သကဲ့သို့ ဣန္ဒြိယပစ္စည်းတရားတို့သည် မိမိတို့ဆိုင်ရာကိစ္စတို့၌သာ အစိုးရကြသည်။

စိတ်(မနိန္ဒြေသည်) အာရုံကိုယူခြင်း၊ အာရုံကိုသိခြင်း၊ လက္ခဏာ၌ယှဉ်ဘက်စိတ်+စေတသိက်(သမ္ပယုတ်တရား)တို့အား အစိုးရသည်ဖြစ်၍ ကျေးဇူးပြု၏။

နာမ်ဇီဝိတိန္ဒြေပစ္စည်းတရားသည် မိမိနှင့်ယှဉ်ဘက်စိတ်+စေတသိက်(သမ္ပယုတ်)တရားတို့၏ ဥပါဒ်+ဌီ+ဘင်၊ ကာလဆုံးတိုင်၊ မြဲခိုင်မပျက်၊ အသက်ရှင်မှု၌သာ အစိုးရ၏။

(အသက်ရှင်မှု၌ အစိုးရခြင်းဟူသည် အသက်ရှည်မှု+အသက်ပွါးမှု၌ သန္တတိဌီ၏(အစဉ်မပြတ် တည်ခြင်း၏) ကြာမြင့်စွာသောကာလပတ်လုံးဖြစ်ခြင်း အစိုးတရစောင့်ရှောင်ခြင်း ဖြစ်သည်။

ပညိန္ဒြေသည် ထိုးထွင်း၍ သိခြင်း၌ အစိုးရ၏။

စက္ခုန္ဒြေ (စက္ခုပသာဒ)သည် မြင်မှု၌သာ အစိုးရ၏။

ဤသို့ အသီးသီး ဆိုင်ရာကိစ္စတို့၌သာ အစိုးရပုံကို သိပါလေ။

**ဟဒယဝတ္ထုသည် ဣန္ဒြေမထိုက်**

ဤ၌ ဝတ္ထုရုပ် ခြောက်ပါးရှိသည့်အနက် ပဉ္စဝတ္ထုတို့သာလျှင် ပုရေဇာတိန္ဒြိယပစ္စည်းတပ်၍ ဟဒယဝတ္ထုကား ပစ္စည်းမတပ်ကြောင်း တွေ့ရှိရသည်၊ အဘယ့်ကြောင့် ဟဒယဝတ္ထုသည် ပုရေဇာတိန္ဒြိယပစ္စည်းမတပ်ကြောင်းကို စိစစ်ရန် လိုပေသည်။

အမှန်အားဖြင့် မိမိ၏အခြားမဲ့ ရှေး၌ ဖြစ်သောစိတ်နှင့်အတူ ဥပါဒ်သော ဟဒယဝတ္ထုကို အမှီပြု၍ နောက်နောက်သော စိတ်တို့သည် ဖြစ်ပေါ်ရကုန်၏။ ထို့ကြောင့် ဟဒယဝတ္ထုသည် နောက်နောက်သောစိတ်တို့အား ပုရေဇာတသတ္တိ၊ နိဿယသတ္တိတို့ဖြင့် ကျေးဇူးပြု၏။

သို့သော်လည်း ပဉ္စဝတ္ထုတို့သည် မြင်ခြင်းစသောကိစ္စ၌ ဆိုင်ရာ ဝိညာဏ်တို့အား အစိုးရသကဲ့သို့ ဟဒယသည် မိမိကိုမှီသော ဝိညာဏ်တို့အား အစိုးမရ။ ထိုဝိညာဏ်တို့၏ နှံ့ခြင်း ထက်ခြင်းကို မပြုနိုင်၊ ထို့ပြင် ဟဒယဝတ္ထုရုပ်ကို မှီ၍ စိတ်အမျိုးမျိုး ဖြစ်ပေါ်ကြသည်ကို ထောက်လျှင်လည်း ဟဒယဝတ္ထု၏ အစိုးမရပုံမှာ ထင်ရှားလေသည်။ စက္ခုဝတ္ထုသည် မြင်မှုကိစ္စကို ဆောင်ရွက်နိုင်ခြင်းသတ္တိဖြင့် စက္ခုဝိညာဏ်ကို အစိုးရသည်၊ ထိုနည်းတူ ကျန်သည့် ပသာဒဝတ္ထုတို့ကလည်း သက်ဆိုင်ရာစိတ်တို့ကို အသီးအသီး အစိုးရကြသည်။ သို့ရာတွင် ဟဒယဝတ္ထုကို မှီ၍ ဖြစ်ပေါ်သော စိတ်များသည် ဘဝင်ကိစ္စ၊ အာဝဇ္ဇန်းကိစ္စ၊ သမ္ပဋိစ္ဆိုင်းကိစ္စ၊ သန္တီရဏကိစ္စ၊ ဝုဋ္ဌောကိစ္စ၊ ဇောကိစ္စ၊ တဒါရုံကိစ္စ စသည်ဖြင့် မိမိတို့နှင့်ဆိုင်ရာ ကိစ္စများကို ဆောင်ရွက်ကြသည်၊ ဟဒယဝတ္ထု၏ ညွှန်ကြားအုပ်စိုးမှုအရ ဆောင်ရွက်ကြသည် မဟုတ်ချေ၊ ထိုစိတ်တို့၏ သဘာဝသတ္တိအရသာလျှင် ဆောင်ရွက်ကြခြင်း ဖြစ်သည်၊ ထို့ကြောင့် ဟဒယဝတ္ထုသည် ပုရေဇာတိန္ဒြိယပစ္စည်းမတပ်ဟု မှတ်ယူသင့်သည်။

စတုဝေါကာရဘုံ၌ ဟဒယဝတ္ထုနှင့် ကင်းလျက်ပင် မနောဝိညာဏ် စိတ်များ ဖြစ်ပေါ်နိုင်ခြင်းကို ထောက်၍လည်း ဟဒယဝတ္ထု၏ ဣန္ဒြိယသတ္တိမရှိပုံကို သိနိုင်ပေသည်။

ပဉ္စဝိညာဏ်တို့သည်ကား ပဉ္စဝတ္ထုတို့နှင့်ကင်း၍ လုံးဝမဖြစ်ပေါ်နိုင်ကုန်။

## ရူပဇီဝိတိန္ဒြိယ သီးခြားပြရပုံ

ရူပဇီဝိတသည် မိမိနှင့်အတူ ဖြစ်ဘက် ကမ္မဇရုပ်တို့အား ကျေးဇူးပြုသောကြောင့် သဟဇာတိန္ဒြိယတွင် ပါဝင်သင့်သည် မဟုတ်ပါလော။ အဘယ်ကြောင့် ရူပဇီဝိတိန္ဒြိယ ပစ္စည်းဟု သီးခြားခွဲ၍ ဆိုပါသနည်းဟု မေးမြန်းဖွယ်ရှိ၏။ အဖြေကား ဇီဝိတသည် တကွဖြစ်ဖက် ကလာပ်တူကမ္မဇရုပ်တို့အား ကျေးဇူးပြုသည် မှန်သော်လည်း သဟဇာတထိုက်သောနာမ်ဣန္ဒြေများကဲ့သို့ ဥပါဒ်အခိုက်၌ အထင်အရှား ကျေးဇူးမပြုနိုင်။ ဌီအခိုက်ကျမှသာ စောင့်ရှောက်ထောက်ပံ့သောအားဖြင့် ကျေးဇူးပြု၏။ ထို့ကြောင့် သဟဇာတ လက္ခဏာမရှိသဖြင့် သဟဇာတိန္ဒြိယတွင် မပါဝင်နိုင်ရကား ဤရူပဇီဝိတိန္ဒြိယပစ္စည်းကို သီးခြားပြဆိုရလေသည်။

## ဘာဝရုပ် ၂-ပါး ဣန္ဒြိယပစ္စည်းမထိုက်ပုံ

သမုစ္စည်းပိုင်းလာ ဣန္ဒြေ ၂၂-ပါး၌ ဣတ္ထိန္ဒြေ၊ ပုရိသိန္ဒြေဟူသော အမည်ဖြင့် ပါဝင်ခဲ့သည်။ ဤပဋ္ဌာန်းနည်း၌ကား ထိုဘာဝရုပ် ၂-ပါးတို့သည် ဣန္ဒြိယ ပစ္စည်းသုံးမျိုးလုံး၌ပင် ပါဝင်ခြင်းမရှိသည်ကို တွေ့ရသည်။ သို့ဖြစ်၍ ဘာဝရုပ် ၂-ပါးတို့သည် ဣန္ဒြိယဟူသောအမည်ကို ခံယူထားလျက်နှင့်ပင် ပဋ္ဌာန်း နည်းအားဖြင့် ဣန္ဒြိယပစ္စည်းမတပ်သည်ကို ထူးဆန်းအံ့သြဖွယ်ရာ တွေ့ရပေသည်။ သို့အတွက် ဘာဝရုပ် ၂-ပါးသည် အဘယ်ကြောင့် ဣန္ဒြိယပစ္စည်း မထိုက် ကြောင်း စိစစ်ရန်လိုပေသည်။

## ပစ္စည်းခေါ် ထိုက်သောတရား

ပဋ္ဌာန်းနည်းအားဖြင့် ပစ္စည်းဟူ၍ ခေါ်ဆိုရန် အကြောင်း ၃-ပါးရှိ၏။ ၎င်းတို့ကား **(၁)ဇနကသတ္တိဖြင့် ဖြစ်စေခြင်း။ (၂)ဥပတ္ထမ္ဘကသတ္တိဖြင့် ထောက်ပံ့ ခြင်း၊ (၃) အနုပါလနသတ္တိဖြင့် စောင့်ရှောက်ခြင်းတို့** ဖြစ်၏။ ဤသုံးပါးတို့တွင် အနည်းဆုံး တစ်ပါးပါးသောသတ္တိဖြင့် ကျေးဇူးပြုနိုင်သော တရားကိုသာ ပစ္စည်းဟု ခေါ်၏။ ဘာဝရုပ်နှစ်ခုတို့သည်ကား ယင်းသတ္တိ ၃-ပါးတို့တွင် တစ်ပါးမျှ မရှိချေ။ မှန်၏၊ **အမသတ္တဝါတို့၏သန္တာန်၌ ဣတ္ထိလိင်၊ ဣတ္ထိနိမိတ္တစသည်တို့ ဖြစ်ပေါ် လာခြင်းသည် ဣတ္ထိဘာဝရုပ်က ဖြစ်ပေါ်စေသောကြောင့် မဟုတ်ပေ၊ ရှေးကံကြောင့်သာ ဖြစ်ပေါ်လာခြင်း ဖြစ်၏။** ထို့ကြောင့် ဘာဝရုပ် ၂-ပါးတို့ သည် ဣတ္ထိလိင်၊ ပုရိသလိင် စသည်တို့အား ဇနကသတ္တိဖြင့် ကျေးဇူးပြုသည်ဟု မဆိုနိုင်ချေ။

ထို့ပြင် ဣတ္ထိလိင် (=မိန်းမတို့၏ အသွင်အပြင်) ဣတ္ထိနိမိတ္တ (=မိန်းမ တို့၏ ဟန်အမူအရာ) စသည်တို့သည် အစစ်အမှန်အားဖြင့် ပရမတ္ထတရားများ မဟုတ်၊ ပရမတ္ထတရားတို့ကို အမှီပြု၍ သိမှတ်အပ်သော အခြင်းအရာ (=အာကာရ ပညတ်)မျှသာ ဖြစ်၏။ **ပဋ္ဌာန်းနည်း၌ ပညတ်ကို ပစ္စယုပ္ပန်အဖြစ်ဖြင့် မည်သည့် ပစ္စည်း၌မျှ ဟောကြားခြင်း မပြု၊** ထို့ကြောင့် ဘာဝရုပ်တို့က ပညတ်မျှသာ ဖြစ်သော လိင်စသည်တို့အား ဥပတ္ထမ္ဘကသတ္တိ၊ အနုပါလနသတ္တိတို့ဖြင့်လည်း ကျေးဇူးပြုသည်ဟု မဆိုနိုင်ချေ။ ဤသို့လျှင် ဘာဝရုပ် ၂-ပါးတို့သည် ဣတ္ထိလိင် စသည်တို့အား ပစ္စယသတ္တိသုံးမျိုးတို့ဖြင့် လုံးဝကျေးဇူးမပြုနိုင်သောကြောင့် ဣန္ဒြိယ ပစ္စည်းမတပ်ဟု မှတ်ယူအပ်ပေသည်။

ထိုမှတစ်ပါး ဇီဝိတရုပ်သည် မိမိနှင့် ကလာပ်တူ ကမ္မဇရုပ်တို့အား အနုပါလနသတ္တိဖြင့် ကျေးဇူးပြု၏၊ အာဟာရရုပ်သည် ကလာပ်ပြားရုပ်တို့အား

ဥပတ္ထမ္ဘကသတ္တိဖြင့် ကျေးဇူးပြု၏။ ဘာဝရုပ်တို့သည်ကား ဤကဲ့သို့ ကလာပ်တူ ကလာပ်ပြားရုပ်တို့အား ဣန္ဒြိယသတ္တိဖြင့် ကျေးဇူးမပြုနိုင်။ အကြောင်းကား အစိုးရခြင်း မရှိသောကြောင့်တည်း။

**ဤသို့လျှင် ဘာဝရုပ် ၂-ပါးတို့သည် ပဋ္ဌာန်းနည်းအားဖြင့် ဣန္ဒြိယ ပစ္စည်း မတပ်သော်လည်း ဣန္ဒြိယဟူသော အမည်ကိုကား ခံယူထိုက်၏၊ အဘယ်ကြောင့်ဆိုသော်** ၎င်းတို့သည် ဣတ္ထိလိင်္ဂစသည်တို့အား **ပကတူပနိဿယ သတ္တိဖြင့်** ကျေးဇူးပြု၏။ **အတိတ်ကံအားလျော်စွာ အမဖြစ်မည့် သတ္တဝါများ၏ သန္တာန်၌ ပဋိသန္ဓေခဏမှစ၍ ဣတ္ထိဘာဝရုပ်သည် ဖြစ်ပေါ်၏၊ ထိုဣတ္ထိဘာဝ ရုပ်၏ အရှိန်အဝါကြောင့်ပင် မိန်းမအသွင်အပြင် အမူအရာ စသည်တို့သည် နောက်အခါ၌ ထင်ရှားလာရကုန်၏၊** အထီးသတ္တဝါများ၏ သန္တာန်၌လည်း ထို့အတူပင် ပုမ္ဘာဝရုပ် ၏ အရှိန်အဝါကြောင့် ယောကျ်ားအသွင်အပြင်စသည်တို့ ထင်ရှားလာရကုန်၏။ ထိုသို့ ရှေးကံအလျောက် **အထီးအမ ဖြစ်လာရသူတို့၏ သန္တာန်၌ လိင်္ဂ၊ နိမိတ္တစသည်တို့ ထင်ရှားပေါ်လာရန် စီမံဘိသကဲ့သို့ ဘာဝရုပ် ၂-ပါးတို့က ကြီးစိုးလွှမ်းမိုး နေသောကြောင့်** ၎င်းရုပ် ၂-ပါးကို ဣန္ဒြေဟု အမည်တပ်ရခြင်း ဖြစ်ပေသည်။

## ဝိပ္ပယုတ္တပစ္စည်း

အချင်းချင်း မရောနှောသည်ဖြစ်၍ ကျေးဇူးပြုတတ်သောတရား

ချို+ချဉ်+ဖန်+ခါး+စပ် အရသာတို့ မရောနှောဘဲ သီးသန့်စီ ရှိသကဲ့သို့ ဝိပ္ပယုတ္တပစ္စည်းတရားနှင့် ဝိပ္ပယုတ္တပစ္စယုပ္ပန်တရားတို့ ရုပ်နှင့် နာမ်အဖြစ် မရောနှောဘဲ ကျေးဇူးပြုသည်။

**ဝိပ္ပယုတ္တ ၃-မျိုးလက်ာ -သဟ+ပစ္ဆေ ဝတ်ပုရေ၊ သုံးထွေဝိပ္ပယုတ်။**

### ဝိပ္ပယုတ္တပစ္စည်းဖြင့် ကျေးဇူးပြုပုံ ၃မျိုး

| | | | |
|---|---|---|---|
| ပဋိသန္ဓေခဏ၌ ဟဒယ ဝတ္ထုသည် | ပဋိသန္ဓေဝိပါက်နာမက္ခန္ဓာတို့အား | သဟဇာတ ဝိပ္ပယုတ် | ဝိ ပ္ပ ယုတ္တ |
| ပဝတ္တိအခါ စိတ်+စေ နာမက္ခန္ဓာ ၄ပါးတို့သည် | တကွဖြစ်ဘက်၊စိတ္တဇရုပ်တို့အား | | |

| | | | |
|---|---|---|---|
| (အရူပဝိပါက်၄ပါးကြဉ်) နောက်နောက်သောစိတ် +စေ၊ နာမက္ခန္ဓာတို့သည် | ပဋိသန္ဓေအစရှိသော ရှေးရှေးဇောနှင့်အတူ ဥပါဒ်၍ရုပ်၏ဌီသို့ ရောက်သော ကေ ဇကာယ+ဒွိ+တိ+စတု ဇကာယအား (ဤ ရူပကာယအား) | ပစ္ဆာ ဇာတ ဝိပ္ပ ယုတ် | ဝိပ္ပ ယု တ္တ |
| ဝတ္ထုရုပ် ၆ပါး တို့သည် | ပဝတ္တိအခါ ဝိညာဏ ဓာတ် ၇ပါးတို့အား | ပုရေဇာ တဝိပ္ပယုတ် | |

**ဝိပ္ပယုတ္တပစ္စည်း**

**ဝိပ္ပယုတ္တ၏အနက် ၂-မျိုး**

ဝိပ္ပယုတ္တဟူသောသဒ္ဒါသည် **မရှိခြင်း** 'အဘာဝအနက်နှင့် **မရောနှောခြင်း** 'ဝိသံသဋ္ဌ' ဟူသော အနက်နှစ်မျိုး၌ ဖြစ်သည်။

ထိုနှစ်မျိုးတို့တွင် "ဒိဋ္ဌိဂတဝိပ္ပယုတ္တံ" စသည့် စကားအသုံးအနှုန်းတို့၌ ပါရှိသော ဝိပ္ပယုတ္တသဒ္ဒါသည် အဘာဝအနက်ကို ဖော်ပြသည်။ ထို့ကြောင့် ဒိဋ္ဌိ မရှိသော ဒိဋ္ဌိမပါဝင်သော စိတ်ကို ဒိဋ္ဌိဂတဝိပ္ပယုတ်စိတ်ဟု ခေါ်ရသည်။ **ဤပဋ္ဌာန်း ပစ္စည်း၌ ပါဝင်သော ဝိပ္ပယုတ္တကား မရောနှောခြင်း 'အသံသဋ္ဌ' အနက်ကို ဖော်ပြ၏၊** သို့ဖြစ်၍ တစ်ခုတည်း တစ်စပ်တည်းသော သဏ္ဌာန်၌ တစ်ချိန်တည်း တွင် ပေါင်းဆုံ တွေ့ဆိုင်မိကြသော်လည်း **သမ္ပယောဂလက္ခဏာ လေးပါးအားဖြင့် အချင်းချင်း ရောနှောခြင်း မရှိမူ၍ ကျေးဇူးပြုတတ်သော တရားများကို ဝိပ္ပယုတ္တပစ္စည်းဟု ခေါ်သည်။**

ဥပမာအားဖြင့် ချို၊ ချဉ်၊ စပ်၊ ဖန်၊ ငန်၊ ခါး ဟူသော အရသာခြောက်မျိုး ကို ပေါင်းစပ်၍ စားသောအခါ စားသူ၏လျှာ၌ "ဤကား အချိုတည်း၊ ဤကား အချဉ်တည်း" စသည်ဖြင့် ခွဲခြား၍ သိနိုင်သကဲ့သို့ တစ်ပေါင်းတည်း တစ်စပ်တည်း ဖြစ်ပေါ်နေသော ရုပ်တရား နာမ်တရားတို့ကို ပရမတ္ထမျက်စိဖြင့် ကြည့်ရှုသော အခါဝယ် ထိုတရားတို့သည် အချင်းချင်း မရောနှောဘဲ မိမိတို့ဆိုင်ရာ အသီးသီး လက္ခဏာအားဖြင့် ကွဲပြားခြားနားလျက် တည်ရှိနေကြသည်ကို တွေ့ရ၏၊ ယင်းသို့ မရောမယှက် အသီးအခြား ကွဲပြားခြားနားစွာ ယှဉ်တွဲတည်နေခြင်း အားဖြင့်ပင် ထိုတရားတို့သည် အချင်းချင်း ကျေးဇူးပြုလျက် ရှိနေကြပြန်သည်၊ ဤသို့

မရောယှက်မူ၍ ယှဉ်တွဲနေနိုင်ခြင်းသည်ပင်လျှင် ဝိပ္ပယုတ္တပစ္စည်း၏ သတ္တိ ဖြစ်ပေသည်။

## သမ္ပယုတ္တနှင့် ဝိပ္ပယုတ္တ

ဤဝိပ္ပယုတ္တပစ္စည်းသည် သမ္ပယုတ္တပစ္စည်း၏ ဆန့်ကျင်ဘက်ဖြစ်သည်၊ ထို့ကြောင့် ထိုပစ္စည်းနှစ်ပါး၏ သဘောကို နှိုင်းယှဉ်လေ့လာပါက ရုပ်တရား နာမ်တရားတို့၏ ပေါင်းဆုံယှဉ်တွဲနေပုံမှာ-

(၁) အချင်းချင်း ရောနှောလျက် ယှဉ်တွဲနေခြင်း (= သမ္ပယုတ္တ)

(၂) အချင်းချင်း မရောနှောမူ၍ ယှဉ်တွဲနေခြင်း (= ဝိပ္ပယုတ္တ) ဟူ၍ နှစ်မျိုးရှိကြောင်း တွေ့ရသည်။

## ဝတ္ထုနှင့် ဝိညာဏ် ဝိပ္ပယုတ်ဖြစ်ပုံ

ဤနေရာ၌ အထူးမှတ်သားဖွယ်ကား စက္ခုဝိညာဏ်စိတ်သည် စက္ခုဝတ္ထု တည်းဟူသော ရုပ်ကို မှီလျက် ရူပါရုံတည်းဟူသော ရုပ်ကိုပင် အာရုံပြုကာ ဖြစ်ပေါ်လာသည်၊ ထိုသို့ဖြစ်ပေါ်လာရာ၌ ဝတ္ထုနှင့်ဝိညာဏ်သည် နိဿယ နိဿိတ အဖြစ်ဖြင့် တစ်တွဲတည်း တစ်စပ်တည်းကဲ့သို့ ဖြစ်၏၊ စက္ခုဝတ္ထုအတွင်းမှပင် စက္ခုဝိညာဏ်သည် ပေါ်လာသကဲ့သို့ ထင်ရ၏။ ယင်းသို့ ထင်ရသော်လည်း အမှန်အားဖြင့် ဝတ္ထုနှင့်ဝိညာဏ်တို့သည် ရုပ်နှင့်နာမ်ဖြစ်၍ တစ်သီးတစ်ခြားစီသာ လျှင် တည်နေကုန်၏၊ သမ္ပယောဂလက္ခဏာအားဖြင့် ညီညွတ်စွာ ရောနှော ပေါင်းစပ်ခြင်း မရှိချေ၊ တစ်နည်းအားဖြင့်ဆိုလျှင် သမ္ပယုတ်မဟုတ်၊ ဝိပ္ပယုတ် သာဖြစ်ကြ၏၊ ထို့ကြောင့် စက္ခုဝတ္ထုသည် စက္ခုဝိညာဏ်အား ဝိပ္ပယုတ္တပစ္စည်း တပ်ကြောင်းကို ဟောကြားတော်မူခြင်း ဖြစ်သည်။

ရူပါရုံသည်ကား ပြင်ပမှလည်း ဖြစ်နိုင်သဖြင့် စက္ခုဝိညာဏ်နှင့် တစ်စပ် တည်း တစ်ဆက်တည်း မဟုတ်သောကြောင့် သမ္ပယုတ်ဟုရင်း၊ ဝိပ္ပယုတ်ဟုရင်း ဆိုရန် အကြောင်းလုံးဝ မရှိချေ၊ ထို့ကြောင့် ရူပါရုံကို ဝိပ္ပယုတ္တပစ္စည်းအဖြစ်ဖြင့် ဟောကြားတော်မမူခြင်း ဖြစ်သည်၊ အချုပ်အားဖြင့် ဝတ္ထုနှင့်ဝိညာဏ်တို့ကိုသာလျှင် ဝိပ္ပယုတ္တဟု ဆိုရသည်၊ အာရုံနှင့် ဝိညာဏ်တို့ကား ပင်ကိုယ်အားဖြင့်ပင် တစ်သီး တစ်ခြားစီဖြစ်၍ ဝိပ္ပယုတ္တဟု ဟောရန်မလိုဟု ဆိုလိုပေသည်။

ဤပစ္ဆာဇာတဝိပ္ပယုတ္တပစ္စည်းသည် ပစ္ဆာဇာတပစ္စည်းနှင့် လုံးဝတူညီ၏၊ သဘောသရုပ် ကျေညက်စေရန်သာ ပစ္စည်း၊ ပစ္စယုပ္ပန်၊ ပစ္စနိက်တို့ကို ထပ်၍

ပြခြင်းဖြစ်သည်၊ ပစ္စည်းတပ်ပုံနှင့် ရှင်းလင်းချက်များကို ပဋ္ဌာနတွင် ပြခဲ့သည့်နည်း အတိုင်းပင် သိရာ၏၊

## အတ္ထိပစ္စည်း မည်ပုံ

မိမိကိုယ်တိုင်လည်း ဥပါဒ်၊ ဌီ၊ ဘင်ဟု ဆိုအပ်သော ပစ္စုပ္ပန်သဘော အားဖြင့် ထင်ရှားရှိဆဲဖြစ်၍ ထိုကဲ့သို့ ထင်ရှားရှိဆဲဖြစ်သော ပစ္စယုပ္ပန်တရား တို့အားသာလျှင် ထောက်ပံ့သမှု ကျေးဇူးပြုတတ်သော တရားများကို အတ္ထိပစ္စည်း ဟုခေါ်သည်။

## အတ္ထိ ၃-မျိုး

ထင်ရှားရှိခြင်း "အတ္ထိဘာဝ"သည် အမျိုးမျိုးရှိ၏၊ "ငါ့မှာ ပြုခဲ့မိသော မကောင်းမှုသည် ရှိ၏ (= အတ္ထိ မေ ပါကမ္မံ ကတံ)" ဟု ဆိုရာ၌ စင်စစ် ထို မကောင်းမှုသည် ခဏပစ္စုပ္ပန်သဘောအားဖြင့် ထင်ရှားရှိနေသည် မဟုတ်၊ အကျိုး မပေးရသေးသည်ဖြစ်၍ အကျိုးပေးနိုင်သော အစွမ်းသတ္တိ လိုက်ပါနေခြင်းကိုပင် "ထင်ရှားရှိခြင်း(= အတ္ထိ)"ဟု ဆိုပေသည်၊ "မိမိ၏ အစီးအပွားအလို့ငှါ ကျင့်သော ပုဂ္ဂိုလ်သည် ရှိ၏ (= အတ္ထိ ပုဂ္ဂလော အတ္တဟိတာယ ပဋိပန္နော)" စသည်တို့၌ လာသော အတ္ထိဘာဝကား ပုဂ္ဂိုလ်ဟူသော ဝေါဟာရကို လောကပညတ်သဘော အားဖြင့် ရကောင်းသောကြောင့်လည်းကောင်း၊ ထိုပညတ်တည်ရာ ခန္ဓာအစဉ်၏ မပြတ်စဲသေးသောကြောင့်လည်းကောင်း "ထင်ရှားရှိခြင်း (= အတ္ထိ)"ဟု ဆိုခြင်း ဖြစ်သည်၊ စင်စစ် ထိုဝေါဟာရပညတ်သည် ခဏတ္တယအားဖြင့် ရကောင်းသော ပရမတ္ထသဘောမျိုး မဟုတ်ပေ၊ **ဤအတ္ထိပစ္စည်းအရာ၌မူကား အထက်ပါ အတ္ထိ ၂-မျိုးကို မယူရချေ၊ ခဏ ပစ္စုပ္ပန်သဘောအားဖြင့် အမှန်တကယ် ထင်ရှားရှိဆဲဖြစ်သော အတ္ထိမျိုးကိုသာ ယူရသည်။**

ထို့ကြောင့် အတ္ထိပစ္စည်းဟူသည် ဥပါဒ်၊ ဌီ၊ ဘင် ဟုဆိုအပ်သော ခဏတ္တယသို့ ရောက်ဆဲဖြစ်သော ရုပ်နာမ်တရားတို့က ထိုကဲ့သို့သော အခြား ရုပ်နာမ်တရားတို့ အားပင်လျှင် ထင်ရှားရှိဆဲ အဖြစ်ဖြင့် ထောက်ပံ့သမှု ကျေးဇူး ပြုခြင်းကို ဆိုပေသည်။ **စင်စစ်အားဖြင့် ထောက်ပံ့သမှု ကျေးဇူးပြုသော တရားနှင့် ကျေးဇူးအပြုခံရသော တရားတို့သည် ကျေးဇူးပြုပြုဆဲကာလ၌ ၂-ပါးစလုံး ထင်ရှား ရှိနေကြသည်။ ဤသို့ ပစ္စည်းနှင့်ပစ္စယုပ္ပန်တို့ အတူတကွ ထင်ရှားရှိနေဆဲတွင် ကျေးဇူးပြုမှုကို အတ္ထိပစ္စည်းဟု ခေါ်သည်။**

အတ္ထိပစ္စည်း သတ္တိ ၂-မျိုး

ခဏတ္တယအားဖြင့် ထင်ရှားရှိခြင်းကို အတ္ထိဟုဆိုသော်လည်း စင်စစ် အားဖြင့် ဌီခဏ၌ အတ္ထိပစ္စည်း၏ သတ္တိသည် သာလွန်ထင်ရှား၏၊ ဥပါဒ် အခိုက် ဘင်အခိုက်တို့၌မူကား ထင်ရှားရှိသည်ဟု ဆိုရသော်လည်း ဖြစ်ခိုက် ပျက်ခိုက်ဖြစ်၍ တည်ရှိနေကြောင်း မထင်ရှားလှချေ၊ သို့ဖြစ်၍ ဤအတ္ထိ ပစ္စည်း၌ ဇနကသတ္တိ ဥပတ္ထမ္ဘကသတ္တိ ၂-မျိုးလုံး ထိုက်သင့်သလို ရှိသော် လည်း ဥပတ္ထမ္ဘက သတ္တိသာလျှင် ပြဋ္ဌာန်းပေသည်၊ မှန်၏၊ ပစ္စည်းတရား တို့မည်သည် ဥပါဒ်အခိုက်၌ ဇနကသတ္တိ ထင်ရှား၍ ဌီအခိုက်၌ ဥပတ္ထမ္ဘက သတ္တိ ထင်ရှားကုန်၏။

## မြေကြီး မြင်းမိုရ်တောင် ဥပမာ

ဤအတ္ထိပစ္စည်းသည် မြက် သစ်ပင်တို့အား ထောက်ပံ့သော မြေကြီး မြင်းမိုရ်တောင်တို့နှင့်တူ၏ ဟု ရှေးဆရာများ ဥပမာပြုကြသည်၊ မြေကြီး မြင်းမိုရ် တောင်တို့သည် မိမိတို့ထင်ရှားရှိခိုက်၌ မိမိတို့အပေါ်၌ ဆိုင်ရာမျိုးစေ့ကြောင့် ပေါက်နေသော (ထင်ရှားရှိနေသော) မြက်သစ်ပင်တို့အား စိမ်းရှင်အောင် ထောက်ပံ့ သကဲ့သို့ ဤအတ္ထိပစ္စည်းတပ်သော တရားများသည်လည်း မိမိတို့ ထင်ရှားရှိခိုက် ဝယ် မိမိတို့ကဲ့သို့ ထင်ရှားရှိနေသော တရားတို့အား ထောက်ပံ့သောအားဖြင့် ကျေးဇူးပြုသည်ဟု ဆိုလိုပေသည်။

## နိဗ္ဗာန်သည် အတ္ထိပစ္စည်းမတပ်ပုံ

အတ္ထိပစ္စည်းငါးမျိုး၌ ပါဝင်သော တရားအားလုံးကို တရားကိုယ် ကောက်လျှင် စိတ်စေတသိက်ရုပ်ဟူသော ပရမတ္ထတရားသုံးပါးသာလျှင် ပါဝင် သည်၊ နိဗ္ဗာန်နှင့်ပညတ်တို့သည် အတ္ထိပစ္စည်း၌ မပါဝင်ကြချေ၊ ထိုတွင် ပညတ် သည် ပရမတ္ထအားဖြင့် လက်ဆုပ်လက်ကိုင် ရကောင်းသောတရားမဟုတ်၍ အတ္ထိပစ္စည်း၌ မပါသည်ကို စိစစ်ဖွယ် မရှိချေ။

နိဗ္ဗာန်သည်ကား စိတ်စေတသိက်ရုပ်ကဲ့သို့ပင် ထင်ရှားရှိသော ပရမတ္ထ တရားတစ်ခု ဖြစ်ပါလျက် အဘယ်ကြောင့် အတ္ထိပစ္စည်း မတပ်သနည်းဟု မေးမြန်း ဖွယ် ရှိပေသည်။

အဖြေကား **ဤပဋ္ဌာန်းနည်း၌ ပစ္စုပ္ပန်သဘောအားဖြင့် ထင်ရှား ရှိခိုက်၌သာ ကျေးဇူးပြုနိုင်၍ ယင်းသို့ ထင်ရှားရှိခိုက် ကျေးဇူးပြုနိုင်သော**

**တရားတို့ကိုသာ အတ္ထိပစ္စည်းဟု ဟောတော်မူသည်၊ နိဗ္ဗာန်သည်ကား ထင်ရှားရှိသောအခိုက်၊ ထင်ရှားမရှိသောအခိုက်ဟု နှစ်မျိုး မကွဲချေ။ အမြဲ ထင်ရှားရှိနေသော တရားဖြစ်၏၊ ဆိုင်ရာ အာရမ္မဏိကစိတ်တို့အား အချိန် အခါမရွေး ပစ္စည်းတပ်နိုင်သည်သာ ဖြစ်၏၊ ထို့ကြောင့် နိဗ္ဗာန်သည် အတ္ထိ ပစ္စည်း၌ မပါဝင်ခြင်း ဖြစ်ပေသည်။**

ရှင်းလင်းပါဦးအံ့- ပစ္စည်းတစ်ခု၏ သတ္တိသည် အခြားသော ဆန့်ကျင် ဘက်ပစ္စည်း၏ သတ္တိကိုထောက်စာလျှင် ပို၍ထင်ရှားသည်၊ အတ္ထိသတ္တိသည် နတ္ထိပစ္စည်း၏သတ္တိနှင့် ဆန့်ကျင်ဘက်ဖြစ်သည်၊ နတ္ထိပစ္စည်း၏သဘောကား ဥပါဒ် ၌ ဘင်အားဖြင့် ထင်ရှားရှိပြီးနောက် ချုပ်ပျောက်သွား၍ မရှိတော့ခြင်းသဘော ဖြစ်သည်။

**အတ္ထိ၏သဘောမှာ အကြောင်းစုံ၍သာ ဖြစ်ပေါ်လာသည့်သဘော ဖြစ်သည်။**ထိုအကြောင်းချုပ်ပျောက်လျှင် အတ္ထိသဘောလည်း ချုပ်ပျောက်လေတော့ သည်။ အတ္ထိနှင့် နတ္ထိတို့သည် ရှေ့နှင့်နောက်တစ်ဆက်တည်း မကွဲမကွာ ဖြစ်ပေါ် သည့် သဘာဝများ ဖြစ်သည်။ တစ်နည်းအားဖြင့် အတ္ထိနှင့်နတ္ထိတို့သည် တွဲဖက် ဖြစ်သည်၊ အတ္ထိရှိမှ နတ္ထိရှိသည်၊ နတ္ထိရှိလျှင် အတ္ထိရှိပြီးဟု သိအပ်သည်၊ အတ္ထိနှင့် နတ္ထိတို့ကား ဆန့်ကျင်ဘက်သဘောအဖြစ်ဖြင့် မကင်းကောင်းသည့်သဘော ၂-ခုဖြစ်သည်၊ **အသင်္ခတဓာတ်ဖြစ်သော နိဗ္ဗာန်မှာမူကား အကြောင်းတို့ ဖန်တီးမှုကြောင့် ဖြစ်ပေါ်လာအပ်သောတရား မဟုတ်ချေ၊ ထို့ကြောင့် နိဗ္ဗာန်မှာ အတ္ထိသဘော မရှိ၊ အတ္ထိ သဘောမရှိသဖြင့် အတ္ထိ၏တွဲဖက် နတ္ထိသဘောလည်း မရှိချေ၊ ထို့ကြောင့် နိဗ္ဗာန်သည် အတ္ထိပစ္စည်းတို့၌ အကျုံးမဝင်ရတော့ချေ။**

## နတ္ထိပစ္စည်း

ဤနတ္ထိပစ္စည်းသည် အတ္ထိပစ္စည်း၏ ဆန့်ကျင်ဖက်ဖြစ်သည်၊ ထို့ကြောင့် **'နဂိုအစကပင် ဘာမျှမရှိခြင်း' တည်းဟူသော 'အဘာဝပညတ်'ကို နတ္ထိ ပစ္စည်းဟု ဆိုခြင်း မဟုတ်ချေ၊ ပစ္စုပ္ပန်သဘောအားဖြင့် ထင်ရှားရှိသော နာမ်တရားတို့သည် နာမ်သက်စေ့၍ ချုပ်ငြိမ်းသွားသဖြင့် (နဂိုအစကရှိသော တရားတို့၏ မရှိတော့ခြင်းကိုသာ ဆိုလိုခြင်းဖြစ်သည်။)** ထင်ရှားစေဦးအံ့၊ နာမ်တရားတို့မည်သည် တစ်ခုသောသန္တာန်၌ စိတ်နှစ်ပါး၊ သုံးပါး၊ ဖဿနှစ်ပါး သုံးပါးစသည်ဖြင့် တစ်ချိန်ထဲ၌ ပြိုင်၍ မဖြစ်နိုင်ကြကုန်၊ တစ်ပါးပြီးမှသာ

တစ်ပါးဖြစ်နိုင်၏၊ သို့ဖြစ်၍ စက္ခုဝိညာဏ ဝီထိ၌ စက္ခုဝိညာဏ်စိတ်ချုပ်သွား၍ မရှိတော့ခြင်းသည် သမ္ပဋိစ္ဆိုင်းစိတ် ဖြစ်ပေါ်ရန် ကျေးဇူးပြုပေးခြင်း ဖြစ်၏၊ ထို့အတူ သမ္ပဋိစ္ဆိုင်းစိတ် ချုပ်သွားခြင်းသည်လည်း သန္တီရဏစိတ် ဖြစ်ပေါ်ရန် ကျေးဇူးပြုခြင်းပင် ဖြစ်သည်၊ ဤသို့လျှင် ချုပ်လေပြီးသော ရှေးရှေးစိတ်များက နောက်နောက် စိတ်တို့အား ဖြစ်ပေါ်ရန် အခွင့်ပေးသောအားဖြင့် ကျေးဇူးပြုမှုသည် နတ္ထိပစ္စည်း၏ သတ္တိဖြစ်ပေသည်။

## နတ္ထိနှင့်အနန္တရ

နတ္ထိပစ္စည်းသည် အနန္တရပစ္စည်းကဲ့သို့ပင် ရှေးရှေးစိတ်က နောက်နောက် စိတ်အား ကျေးဇူးပြုသောပစ္စည်းဖြစ်သည်၊ ထို့ကြောင့် ပစ္စည်း၊ ပစ္စယုပ္ပန်၊ ပစ္စနိက်အားဖြင့် အနန္တရပစ္စည်းနှင့် လုံးဝတူညီသည်။

ပစ္စယလက္ခဏာအားဖြင့် မိမိ၏အခြားမဲ့၌ စိတ္တနိယာမ အားလျော်စွာ နောက်စိတ်များ ဖြစ်ပေါ်စေရန် ကျေးဇူးပြုမှုသည် အနန္တရပစ္စည်း၏ သတ္တိဖြစ်၏၊ ထိုသို့ နောက်စိတ်များဖြစ်ပေါ်ခွင့် ရစေရန်အတွက် ရှေ့စိတ်တို့၏ ချုပ်ပျောက်သွားခြင်းသည် နတ္ထိပစ္စည်း၏သတ္တိဖြစ်သည်၊ ထို့ကြောင့် ညဥ့်၏ကင်းခြင်းသည် နေ့ဖြစ်ရန် ကျေးဇူးပြုသကဲ့သို့လည်းကောင်း၊ ဆီမီး၏ငြိမ်းခြင်းသည် အမှောင်ဖြစ်ရန် ကျေးဇူးပြုသကဲ့သို့လည်းကောင်း မရှိခြင်းသဘောအားဖြင့် ကျေးဇူးပြုမှုသည် နတ္ထိပစ္စည်းမည်၏ ဟူ၍ ရှေးဆရာတို့ ဥပမာပြ၍ မိန့်ဆိုကြကုန်သည်။

**နတ္ထိပစ္စည်းပြီး၏။**

---

## ဝိဂတပစ္စည်း

### ဝိဂတပစ္စည်းမည်ပုံ

"ဝိနာသံ ဂတောတိ ဝိဂတော" ။ဝိနာသံ၊ ကင်းပျောက်ခြင်းသို့။ ဂတော၊ ရောက်လေပြီ။ဣတိ၊ ထို့ကြောင့်။ ဝိဂတော၊ ဝိဂတမည်၏" "ဝိဂတော ဟုတွာ ပစ္စယော ဝိဂတပစ္စယော"။ ဝိဂတော၊ ကင်းပျောက်ခြင်းသို့ ရောက်ပြီးသည်။ ဟုတွာ၊ ဖြစ်၍။ ပစ္စယော၊ ကျေးဇူးပြုတတ်သောတရားသည်။ ဝိဂတပစ္စယော။ ဝိဂတပစ္စည်းမည်၏။ ရှေးရှေးသောတရားတို့၏ သဘောသတ္တိများ ကင်းပျောက်သွားခြင်းသည် နောက်နောက်တရားတို့ ဖြစ်ပေါ်ရန် ကျေးဇူးပြုသောကြောင့် ဝိဂတပစ္စည်း မည်ပေသည်။

**နတ္ထိနှင့်ဝိဂတအထူး**

နတ္ထိ= မရှိခြင်းနှင့် ဝိဂတ= ကင်းပျောက်သွားခြင်းတို့သည် အဓိပ္ပာယ် အားဖြင့် မကွဲပြားလှချေ၊ သို့သော်လည်း ချုပ်ငြိမ်းလေပြီးသော ဆီမီးသည် အမိုက် မှောင်ဖြစ်ပေါ်ရန် အခွင့်ပေးသကဲ့သို့ မိမိ၏မရှိခြင်းမျှဖြင့် နောက်တရားများအား ဖြစ်ပေါ်ရန် ကျေးဇူးပြုခြင်းသည် နတ္ထိပစ္စည်းမည်၏၊ နေရောင်၏ ကင်းပျောက်ခြင်း သည် လရောင်လင်းရန် ကျေးဇူးပြုသကဲ့သို့ မိမိ၏ သဘောသတ္တိမကင်းပျောက် သေး၍ ဖြစ်ခွင့် မရသေးသော နောက်တရားတို့အား မိမိ၏သဘောသတ္တိ ကင်းပျောက်ခြင်းအားဖြင့် ဖြစ်ခွင့်ရရန် ကျေးဇူးပြုမှုသည် ဝိဂတပစ္စည်းမည်၏၊ တစ်နည်းအားဖြင့် ချုပ်ပြီးနောက် ဘာမျှမရှိတော့ခြင်းသည် နတ္ထိသဘောဖြစ်သည်၊ ချုပ်ကင်းသွားခြင်းကား ဝိဂတသဘောဖြစ်သည်။ ဤသို့လျှင် ဤနတ္ထိနှင့်ဝိဂတ ပစ္စည်းနှစ်ပါး၏ ထူးခြားပုံကို မူလဋီကာ၌ ဖွင့်ပြထားပေသည်။

ရှင်းပါဦးအံ့၊ မြတ်ဗုဒ္ဓရှင်တော်ဘုရားသည် တရားသဘောတစ်ခုတည်း၏ အဓိပ္ပာယ်ကိုပင် တရားနာပုဂ္ဂိုလ်၏ နားလည်နိုင်မှု အခြေခံစိတ်ဓာတ်နှင့်လျော်စွာ (ဝေနေယျဇ္ဈာသယအတိုင်း) ဟောတော်မူသည်၊ လိုရင်းသဘောအဓိပ္ပာယ်တူကြ ငြားသော်လည်း နတ္ထိနှင့်ဝိဂတတို့ကို ခွဲခြား၍ ဟောရာ၌ တရားနာပုဂ္ဂိုလ် အသီးသီးတို့၏ လိုအင်ဆန္ဒအလိုက် ဟောတော်မူခြင်းဖြစ်သည်။

မရှိခြင်း နတ္ထိနှင့်ကင်းပျောက်ခြင်း ဝိဂတတို့မှာ သဒ္ဒါ(စကားလုံး) ထူး ကြငြားသော်လည်း လိုရင်းအနက်အဓိပ္ပာယ်မှာ တူညီကြသည်၊ အထက်၌ ဖော်ပြ ခဲ့သော ပြယုဂ်၌ ငြိမ်းလေပြီးသော ဆီမီးမရှိပုံမှာ မီးတောက်နှင့်တကွ မီးရောင် ပါမရှိခြင်းကို နတ္ထိ ဟုဟောတော်မူခဲ့သည်၊ နေရောင်ကင်းပျောက်သွားပုံမှာမူ နေရောင်ပင် ကင်းပျောက် သွားငြားသော်လည်း နေမှာ ပျောက်ပျက်မသွားချေ၊ ဤကဲ့သို့ ကင်းပျောက်၍ မရှိပုံကို ဝိဂတသဒ္ဒါဖြင့် ဟောခဲ့ခြင်းဖြစ်သည်၊ မရှိခြင်း ဖြင့် ဘယ်လို ကျေးဇူးပြုသလဲ၊ ဘယ်လို မရှိခြင်းမျိုးလဲဟု အမျိုးမျိုးတွေးတော တတ်သည့် လူ့စရိုက်ကို ကြိုတင်တားဆီးကာ ဖြေကြား၍ ဟောတော်မူခြင်း ဖြစ်သည်၊ ထို့ကြောင့်ပင် မြတ်စွာဘုရား၏ ဗုဒ္ဓဂုဏ်တော်သည် အစဉ်အမြဲ ထွန်းဝင်း တောက်ပခဲ့ပေသည်။

အဘာဝမတ္တေန ဥပကာရကတာ ဩကာသဒါနံ နတ္ထိပစ္စယတာ၊ သဘာဝ ဝိဂမေန အပ္ပဝတ္တမာနာနံ သဘာဝဝိဂမေန ဥပကာရကတာ ဝိဂတပစ္စယတာ၊ နတ္ထိတာ စ နိရောဓာနန္တရသုညတာ၊ ဝိဂတတာ နိရောဓပ္ပတ္တတာ၊ အယမေတေသံ ဝိသေသော။

**အတ္တိ ၅ မျိုး/ အဝိဂတ ၅ မျိုး**

၁။ သဟဇာတမျိုး - အတ္ထိ/အဝိဂတ
၂။ ပုရေဇာတမျိုး - အတ္ထိ/အဝိဂတ
၃။ ပစ္ဆာဇာတမျိုး - အတ္ထိ/အဝိဂတ
၄။ အာဟာရမျိုး - အတ္ထိ/အဝိဂတ
၅။ ဣန္ဒြိယမျိုး - အတ္ထိ/အဝိဂတ

(မှတ်ချက်) ဆိုင်ရာပစ္စည်းမျိုးတို့၌ ဆိုခဲ့ပြီးသောပစ္စည်း၊ ပစ္စယုပ္ပန် တို့နှင့် အလုံးစုံတူ၏။

**လင်္ကာ။ သ+ပု+ပစ္ဆာ၊ အာ+ဣန်-လာ၊ ငါးဖြာအတ္တိထုတ်။**

## ၄-ပစ္စည်းဖြင့် ပစ္စည်းအားလုံး သိမ်းကျုံးနိုင်

**လင်္ကာ အာ+ဥ+ကံ+အတ်၊ လေးရပ်ဤတွင်၊ အကုန်ဝင်၊ ကုန်စဉ်ခွဲစိတ်ဖြာ။**

ပစ္စည်းအားလုံးတို့သည် အာရမ္မဏ+ဥပနိဿယ+ကမ္မ+အတ္တိ၊ ၄-ပစ္စည်းတို့၌ ထိုက်သည်အားလျော်စွာ ပေါင်းစုဝင်ကြကုန်၏။

သဂြိုဟ်ဆရာ အထူးမှာထားချက်။ သဟဇာတမျိုး အားလုံးတို့၌ အသုံးပြုသော **သဟဇာတရုပ်** (အတူတကွဖြစ်ဖက်ရုပ်) ဟူသည်မှာ-

(က) ပဝတ္တိအခါ စိတ်ကြောင့်ဖြစ်သောရုပ် (စိတ္တဇရုပ်)ကိုခေါ်၍

(ခ) ပဋိသန္ဓေအခါ ကံကြောင့်ဖြစ်သော ကဋတ္တာရုပ်(ကမ္မဇရုပ်) ကို ခေါ်ခြင်းပင်ဖြစ်သည်။

## ၂၄-ပစ္စည်းကို ကာလအားဖြင့် ခွဲဖန်ပုံ

**လင်္ကာ** ပစ္စုပ်+ဆယ့်ငါး၊ တိတ်ကား+ငါးလီ၊ ယင်းကိုမှီ+တလီပစ္စယ။ ကာလသုံးပါး၊ ဝိမုတ်ထား၊ သုံးပါးပစ္စယ။

(က) တိတ်ကား ငါးလီ(အတိတ်ကာလ ၅-ပစ္စည်း) (ကေကာလိက)

အနန္တရ၊ သမနန္တရ၊ အာသေဝန၊ နတ္ထိ၊ ဝိဂတ = ၅

(ခ) ယင်းကိုမှီ၊ တလီပစ္စယ (ပစ္စုပ္ပန်+အတိတ် ၂-ပါး ၁ ပစ္စည်း၊) (ဒွိကာလိက)

ကမ္မပစ္စည်း(ထိုကမ္မပစ္စည်း၌ သဟဇာတကမ္မပစ္စည်းသည် ပစ္စုပ္ပန်၊ နာနာက္ခဏိက ကမ္မပစ္စည်းသည် အတိတ်၊ ထို့ကြောင့် ကာလ ၂-ပါးကို မှီသော ဒွိကာလိကပစ္စည်းဟုခေါ်သည်။)

(ဂ) ကာလ ၃-ပါး၌လည်းဖြစ်/ကာလ ၃-ပါးမှလည်း လွတ်သော ပစ္စည်း ၃-ပါး တေကာလိက/ကာလဝိမုတ္တ

အာရမ္မဏ၊ အဓိပတိ၊ ဥပနိဿယ = ၃

(ဃ) ပစ္စုပ် ဆယ့်ငါး (ဧကကာလိက)

အထက် က၊ ခ၊ ဂ တို့မှ ကြွင်းသော ၁၅ ပစ္စည်း

ဟေတု+သဟဇာတ+အညမည+နိဿယ+ပုရေဇာတ+ ပစ္ဆာဇာတ +ဝိပါက+အာဟာရ+ဣန္ဒြိယ+ဈာန+မဂ္ဂ+သမ္ပယုတ္တ+အတ္ထိ+အဝိဂတ

## ၂၄-ပစ္စည်းကို သင်္ခတ+အသင်္ခတဖြင့် ခွဲခြားခြင်း

(က) အာရမ္မဏ+အဓိပတိ+ဥပနိဿယ ၃-ပစ္စည်း သင်္ခတ+အသင်္ခတ ၂-မျိုးရ

(ခ) ကြွင်း ၂၁ ပစ္စည်းသည် သင်္ခတ သာရ၏။

သင်္ခတ=ကံ+စိတ်+ဥတု+အာဟာရ ဟူသောအကြောင်းတရား ၄ပါးတို့ ပြုပြင်ခံရသောတရား

အသင်္ခတ= ကံ+စိတ်+ဥတု+အာဟာရ ဟူသောအကြောင်းတရား ၄ပါး တို့ ပြုပြင် မခံရသောတရား

## ၂၄-ပစ္စည်းကို အဇ္ဈတ္တ+ဗဟိဒ္ဓ ၂-ပါးဖြင့် ခေဖန်ခြင်း

(က) အာရမ္မဏ + အဓိပတိ + သဟဇာတ + အညမည + နိဿယ+ ဥပနိဿယ+ပုရေဇာတ+အာဟာရ+အတ္ထိ+အဝိဂတ= ၁၀ ပစ္စည်း သည် အဇ္ဈတ္တ+ဗဟိဒ္ဓ ၂-မျိုးရသည်။

(ခ) ကြွင်း ၁၄-ပစ္စည်းသည် အဇ္ဈတ္တသာ ရ၏။
ဆောင်- အာ+မိ+သဟ၊ အင်+ဥပ၊ ပုရ+နိ+ဟာ+အတ်၊ အဝိဂတာ၊ ဤဆယ်ဖြာ၊ အဇ္ဈာ+ဗဟိဒ္ဓတ်။

## စိတ်+စေတသိက်+ရုပ်+နိဗ္ဗာန်+ပညတ်တို့ကို ဒေုကာလိက စသည်ဖြင့် ခွဲပြပုံ

(က) **တေကာလိက** (ကာလသုံးပါး၌ ဖြစ်သောတရား) = စိတ် စေတသိက်+ရုပ်

(ခ) **ကာလဝိမုတ္တ** (ကာလသုံးပါးမှ လွတ်သောတရား) = နိဗ္ဗာန်၊ ပညတ်

(က) **အဇ္ဈတ္တ** (အတွင်းသန္တာန်၌ ဖြစ်သောတရား) = စိတ်+ စေတသိက်+ ရုပ်

(ခ) **ဗဟိဒ္ဓ** (အပြင်ပ၌ဖြစ်သောတရား) = စိတ်+ စေတသိက်+ ရုပ်+နိဗ္ဗာန်

(က) **သခံတတရား** = စိတ်+ စေတသိက်+ရုပ်

(ခ) **အသခံတတရား** = နိဗ္ဗာန်

မှတ်ချက်= ပညတ်+နာမ်+ရုပ် တို့သည် ပဋ္ဌာန်းအရာ၌ ၂၄-ပါး ပြားကုန်၏။

## စိတ်+စေတသိက်+ရုပ်+နိဗ္ဗာန်တို့ကို (ရုပ်+နာမ် ၂-မျိုး) အားဖြင့် ခွဲပြခြင်း

(က) ရုပ် ၂၈-ပါးကို ရူပက္ခန္ဓာ (ရုပ်တရားအစု) ဟုခေါ်သည်။

(ခ) စိတ်+စေတသိက်ဟုဆိုအပ်သော နာမ်ခန္ဓာ ၄-ပါး+ **နိဗ္ဗာန်**= ပေါင်း ၅-ပါးကို (အရူပ) **နာမ်တရားစု** ဟုခေါ်သည်။

(မှတ်ချက်) နိဗ္ဗာန်သည် နာမ်တရားထဲ၌ ပါဝင်သည်ကို သတိပြုပါ။
(ရုပ်+နာမ် ၂-ပါးမှ အလွတ်ဟု ထင်တတ်သည်။)

(က) **ဧနကပစ္စည်း**= (ဖြစ်စေရုံသာ ဖြစ်စေတတ်သောပစ္စည်း= ၅)
(ခ) **ဥပတ္ထမ္ဘကပစ္စည်း** = (ထောက်ပံ့ရုံသာ ထောက်ပံ့စေတတ်သည့် ပစ္စည်း = ၁ (ပစ္ဆာဇာတ)
(ဂ) **ဧနကောပတ္ထမ္ဘကပစ္စည်း**= (ဖြစ်လည်းဖြစ်စေ၊ ထောက်လည်း ထောက်ပံ့စေတတ်သည့်ပစ္စည်း-၁၈)

လင်္ကာ ဖြစ်စေ+ငါးကောက်၊ ပံ့ထောက်ကေ၊ ဌာရသ၊ ဧနကောပထမ်

(က) **ဖြစ်စေ+ငါးကောက်** = အနန္တရ+သမနန္တရ+အာသေဝန
(ဧနကပစ္စည်း-၅) + နတ္ထိ + ဝိဂတ = ၅
(ခ) **ပံ့ထောက်ကေ** = ပစ္ဆာဇာတ
(ဥပတ္ထမ္ဘက ၁-ပစ္စည်း)
(ဂ) ဌာရသ၊ **ဧနကောပထမ်**= ကြွင်း ၁၈-ပစ္စည်း
(၂-မျိုးရ ၁၈-ပစ္စည်း)

ပဋ္ဌာန်းနည်းပြီး၏။

*****

## ပညတ်ခန်း

ပရမတ္ထသစ္စာမျိုးမဟုတ်ဘဲ **လောကသမုတိသစ္စာ၊** (လောကကြီး၌ သမုတ်ထား မှည့်ထားသော အမှန်တရားကို) ပညတ်ဟု ခေါ်သည်။

**ပညတ်အပြား ၂-မျိုး**

၁။ အကောင်အထည် (ဒြပ်) အနက်သဘောသည်ခေါ်အပ်+သိစေအပ်သော အနက်သဘောကြောင့် (အတ္ထပညတ်) မည်၏၊

၂။ အမည်နာမအသံသဘောသည်၊ ခေါ်ကြောင်း+သိကြောင်းသဒ္ဒါသဘောဖြစ်သောကြောင့် (နာမပညတ်)(သဒ္ဒပညတ်)မည်၏။

**အတ္ထပညတ်အပြား**

| | |
|---|---|
| **သဏ္ဌာနပညတ်** | မဟာဘုတ်တို့၏ အထူးထူးအဖုံဖုံ ဖြစ်တည်ပုံ၊ အခြင်းအရာကို စွဲ၍ ခေါ်ဝေါ်အပ်သောမြေ (ပထဝီ)/ဘူမိ၊ တောင်(ပဗ္ဗတ) စသော သဏ္ဌာနပညတ် |
| **သမူဟပညတ်** | သစ်သားစသည်တို့၏ ပေါင်းစုတည်ရှိနေပုံ အခြင်းအရာကို စွဲခေါ်အပ်သော လှည်း (သကဋ)၊ အိမ် (ဂေဟ)၊ ရထား (ရထ) စသော သမူဟ ပညတ် |
| **သတ္တ(ဇာတိ) ပညတ်** | ခန္ဓာငါးပါးကို စွဲခေါ်သော ယောကျ်ား-မိန်းမ (ပုရိသ/ဣတ္ထိ)စသည် |
| **ဒိသာကာလ ပညတ်** | လနေတို့၏ လှည့်ပတ်သွားလာမှုကို အစွဲပြု၍ ခေါ်သော အရှေ့/အနောက် နံက်/ည စသော ဒိသာကာလပညတ် |
| **အာကာသပညတ်** | မဟာဘုတ်တို့၏မထိစပ်သည်ကို စွဲ၍ခေါ်သော တွင်း(ကူပ)၊ လှိုဏ် (ဂုဟာ)စသော ဟင်းလင်းအရပ်၊ အာကာသကောင်းကင် ပညတ် |

**နိမိတ္တပညတ်** ထိုထိုမဟာဘုတ်အာရုံကို စွဲမှီခေါ်ဝေါ်အပ်သော ပထဝီကသိုဏ်းစသော နိမိတ်သည်လည်းကောင်း၊ ပရိကမ္မနိမိတ်၊ ဥဂ္ဂဟနိမိတ်၊ ပဋိဘာဂနိမိတ်စသည် ဘာဝနာအစဉ်အထူးကို စွဲခေါ်သော နိမိတ်ကိုလည်းကောင်း နိမိတ္တပညတ်ဟု ခေါ်သည်။

**အတ္ထပညတ်ဟု ခေါ်လာရပုံ**

၁။ ဤသို့အစရှိသော ပညတ်များကို ပရမတ်အားဖြင့် အထင်အရှားမရှိသော်လည်း မဟာဘုတ်စသော ပရမတ္ထတရားတို့၏ အရိပ်အရောင်အနေဖြင့် စိတ်စေတသိက်တို့၏ အာရုံဖြစ်သောကြောင့်လည်းကောင်း။

၂။ ထိုထိုအရာဝတ္ထုကို စိတ်ဖြင့် စွဲယူထောက်ဆ၍ ပညတ်ခြင်း၏အကြောင်းကို ပြုသဖြင့်လည်းကောင်း။

၃။ ထိုထို အပြားအားဖြင့် ကြံဆ၍ ယူအပ်သည်၏အဖြစ်ကြောင့်လည်းကောင်း၊ ထိုအကြောင်းများကြောင့် လောကသမုတိသစ္စာအနေဖြင့် ညီတူညီမျှ အသိအမှတ်ပြုအများကလဲ ခေါ်ဝေါ်အပ်၊ အပြားအားဖြင့် သိစေအပ် (အသိခံရသည့်အတွက်) အတ္ထပညတ်ဟု ခေါ်ပေသည်။

**နာမပညတ် (သို့) သဒ္ဒပညတ် ၆ ပါး**

၁။ **ဝိဇ္ဇမာနပညတ်** = (ပရမတ္ထအားဖြင့် ထင်ရှားရှိသည့်အနက်ကို သိစေတတ်သောပညတ်)
(ရုပ်တရား၊ နာမ်တရားများ၏အမည်၊ **ဖဿ+ ဝေဒနာ၊ ပထဝီ + အာပေါ** စသည်)

၂။ **အဝိဇ္ဇမာနပညတ်**= (ပရမတ္ထအားဖြင့် ထင်ရှားမရှိသည့်အနက်ကို သိစေတတ်သောပညတ်)
= (ပုရိသ/ဣတ္ထိ စသည်)

၃။ **ဝိဇ္ဇမာနေနအဝိဇ္ဇမာနပညတ်** = (ဝိဇ္ဇမာနအနက်ဖြင့် အဝိဇ္ဇမာန အနက်ကို သိစေသောပညတ်)
(**ပညဝါပုရိသော**= ပညာရှိသော ယောက်ျား
ပညဝါ= ဝိဇ္ဇမာန၊ ပုရိသော= အဝိဇ္ဇမာန

၄။ **အဝိဇ္ဇမာနေနဝိဇ္ဇမာနပညတ်**= (ဣတ္ထိသဒ္ဒ= မိန်းမအသံ)
(ဣတ္ထိ=အဝိဇ္ဇမာန၊
သဒ္ဒ=ဝိဇ္ဇမာန)

၅။ **ဝိဇ္ဇမာနေန ဝိဇ္ဇမာနပညတ်** =(**စက္ခုဝိညာဏံ**=မျက်စိ၌ မှီသော အသိစိတ်
စက္ခု = ဝိဇ္ဇမာန၊ ဝိညာဏ = ဝိဇ္ဇမာန)

၆။ **အဝိဇ္ဇမာနေန အဝိဇ္ဇမာနပညတ်**=(**ရာဇပုတ္တော**=မင်းသား
ရာဇ= အဝိဇ္ဇမာန၊ ပုတ္တ= အဝိဇ္ဇမာန)

## ပညတ် ၂–မျိုး သိရပုံကို
## သောတဒွါရဘဒနုဝတ္တကမနောဒွါရဝီထိဖြင့် ပြဆိုခြင်း

နွား ဟူသော အသံကို ကြားရာ၌။

၁။ ထိုနွား ဟူသောအသံကို အာရုံပြု၍ သောတဒွါရဝီထိဖြစ်၏။

၂။ ထို့နောက် ချုပ်လေပြီးသော နွားဟူသော အသံသဒ္ဒါရုံကိုပင် အာရုံပြု၍ ဂဒနုဝတ္တကမနောဒွါရဝီထိ ဖြစ်၏။

၃။ ထို့နောက် နွား ဟူသော နာမည်ကို ယူသော (နာမဂ္ဂဟဏဝီထိ) အမည်(နာမပညတ်)အဖြစ် သိရသောဝီထိဖြစ်၏။

၄။ ထို့နောက်မှ နွားသဏ္ဌာန်ဒြပ်၊ အကောင်အထည်ကြီး စိတ်မျက်စိ ထဲ၌ ပေါ်လာသော အသွင်သဏ္ဌာန်ဒြပ်ကိုယူသော(အတ္ထဂ္ဂဟဏ ဝီထိ) အတ္ထပညတ်အဖြစ်ကို သိရသော ဝီထိဖြစ်၏–(ဤသို့ လျှင် ၄–ဝီထိ ဖြစ်ပေါ်သည်)

ထို ၄-ဝိထိ ဖြစ်ရာတွင် ပထမဝိထိဖြင့် အသံကြားရုံ ဝိထိ၊ ဒုတိယဝိထိဖြင့် ကြားရသောအသံကို ထပ်၍ အာရုံပြုသော ဝိထိ၊ (နာမပညတ်၊ အတ္ထပညတ်တို့ကို မသိရသေး) တတိယဝိထိဖြင့် သဒ္ဒပညတ်(နာမပညတ်ကို သိရသော ဝိထိဖြစ်ပြီး၊ စတုတ္ထဝိထိဖြင့် အတ္ထပညတ်ကို သိရသောဝိထိတို့ဖြစ်သည်။ **(တတိယ၊ စတုတ္ထဝိထိစိတ်တို့ဖြင့် ပညတ် ၂-မျိုးကို သိရသည်ဟု မှတ်ပါ။)**

## သဒ္ဒပညတ်(နာမပညတ်) ပေါ်ပေါက်လာပုံ

ကမ္ဘာဦးစတုံးက အတ္ထပညတ်(ဒြပ်၊ သဏ္ဌာန်၊ အကောင်အထည်) တို့သာ ရှိသေးသည်၊ နာမည်မမှည့်ရသေး၊ နောက်ပိုင်းကြမှ၊ ပညာရှိဆိုသူတို့က မြေအစိုင်အခဲဒြပ်ကြီးကို မာကျောသည့်သဘောရှိသောကြောင့် ပါဠိလို ပထဝီဟုလည်းကောင်း၊ ဘူမိဟုလည်းကောင်း၊ မြန်မာလိုမြေဟုလည်းကောင်း၊ အင်္ဂလိပ်လို အာ့သ်ဟုလည်းကောင်း ဆိုင်ရာလူမျိုးပညာရှိတို့ သတ်မှတ်သည့်အတိုင်း အများကလိုက်၍ ခေါ်ဝေါ်ကြသဖြင့် သဒ္ဒပညတ်(နာမပညတ်) ပေါ်လာရသည်၊ မရေမတွက်နိုင်သော အမည်များ ဤနည်းအတိုင်း ဖြစ်လာကြပေသည်။

**ပစ္စည်းဝိုင်းပြီး၏**

*****

# ကမ္မဋ္ဌာန်းပိုင်း

***ကမ္မဋ္ဌာန(ကမ္မဋ္ဌာန်း)ဟူသည် သမထ + ဝိပဿနာလုပ်ငန်း၏ တည်ရာ ဌာန (အာရုံ)ကို ခေါ်သည်။***

(ကမ္မမေဝ + ဌာနံ = ကမ္မဋ္ဌာနံ၊ ကမ္မမေဝ = သမထ + ဝိပဿနာ လုပ်ငန်း၏သာလျှင်၊ ဌာနံ = တည်ရာဌာနအာရုံတည်း၊ ကမ္မာဋ္ဌာနံ= သမထ+ ဝိပဿနာလုပ်ငန်း၏ တည်ရာဌာနအာရုံ)

## ကမ္မဋ္ဌာန်း ၂–မျိုး

၁။ **သမထကမ္မဋ္ဌာန်း** = (သမာဓိ + စျာန်တရားရဘို့) နီဝရဏ ငြိမ်းအောင် အားထုတ်သော လုပ်ငန်း၏အာရုံ *(ကမ္မဋ္ဌာန်း–၄၀ ကို အရကောက်ပါ)*

၂။ **ဝိပဿနာကမ္မဋ္ဌာန်း** = (မဂ် + ဖိုလ်ရဘို့) အနိစ္စ + ဒုက္ခ + အနတ္တ စသည်ဖြင့်အထူးရှုမှတ်ပွါးများသော လုပ်ငန်း၏ အာရုံ *(အနိစ္စ + ဒုက္ခ + အနတ္တ လက္ခဏာယာဉ် ၃–ပါးကို အရကောက်ပါ)*

(သမေတီတိသမထော၊ သမေတိ = ကာမစ္ဆန္ဒစသော နီဝရဏ တရားတို့ကို ငြိမ်းစေတတ်၏၊ ဣတိ = ထို့ကြောင့်၊ သမထော = သမထမည်၏။

ဝိဝိဓေန အနိစ္စာဒိအာကာရေန ပဿတီတိ ဝိပဿနာ။ ဝိဝိဓေန= အထူး အားဖြင့်။ အနိစ္စာဒိအာကာရေန = အနိစ္စအစရှိသော အခြင်းအရာအားဖြင့်။ ပဿတိ = ရှုပွားတတ်၏၊ ဣတိ = ထို့ကြောင့်၊ ဝိပဿနာ= ဝိပဿနာမည်၏။)

**ဘာဝနာ– ၂မျိုး (ကမ္မဋ္ဌာန်း– ၂မျိုး ရှုပွါးခြင်းကို ဘာဝနာဟု ခေါ်သည်။)**

၁။ **သမထဘာဝနာ** = သမထကမ္မဋ္ဌာန်းကို ပွါးများမှု။

၂။ **ဝိပဿနာဘာဝနာ** = ဝိပဿနာကမ္မဋ္ဌာန်းကို ပွါးများမှု။

(ဘာဝေတဗ္ဗာတိ ဘာဝနာ။ ဘာဝေတဗ္ဗာ = သမထ + ဝိပဿနာကို အထပ်ထပ် ပွါးများအားထုတ်အပ်၏၊ ဣတိ = ထို့ ကြောင့်၊ ဘာဝနာ = ဘာဝနာမည်၏။)

**လက်ာ = အကျိုးတရား၊ အလွန်များသဖြင့်၊ ဖြစ်ပွါးစေအပ်၊ တရားမြတ်၊ မှတ်လေဘာဝနာ။**

**သမထကမ္မဋ္ဌာန်း (သမထဘာဝနာ)-၄၀**

၁။ ကသိုဏ်း - ၁၀ ပါး
၂။ အသုဘ - ၁၀ ပါး
၃။ အနုဿတိ - ၁၀ ပါး
၄။ အပ္ပမညာ - ၄ ပါး
၅။ သညာ - ၁ ပါး
၆။ ဝဝတ္ထာန် - ၁ ပါး
၇။ အာရုပ္ပ - ၄ ပါး
ပေါင်း - ၄၀ ပါး

**ကသိုဏ်း- ၁၀ ပါး၊** ကသိဏ = အလုံးစုံ။ (အလုံးစုံ + အကုန်အစင်+ ထင်မြင်အောင် ရှုအပ်သောအာရုံကို ကသိုဏ်းအာရုံဟု ခေါ်သည်။)

| | | |
|---|---|---|
| ၁။ | ပထဝီကသိုဏ်း | မြေကသိုဏ်း၊ မြေဝန်းအာရုံ၊ |
| ၂။ | အာပေါကသိုဏ်း | ရေကသိုဏ်း၊ ရေဝန်းအာရုံ၊ |
| ၃။ | တေဇောကသိုဏ်း | မီးကသိုဏ်း၊ မီးဝန်းအာရုံ၊ |
| ၄။ | ဝါယောကသိုဏ်း | လေကသိုဏ်း၊ လေအာရုံ၊ |
| ၅။ | နီလကသိုဏ်း | အညိုရောင်ကသိုဏ်း၊ အညိုရောင်အဆင်း အာရုံ၊ |
| ၆။ | ပီတကသိုဏ်း | ရွှေဝါရောင်ကသိုဏ်း၊ရွှေဝါရောင်အဆင်းအာရုံ၊ |
| ၇။ | လောဟိတကသိုဏ်း | အနီရောင်ကသိုဏ်း၊ အနီရောင်အဆင်း အာရုံ၊ |
| ၈။ | ဩဒါတကသိုဏ်း | အဖြူရောင်ကသိုဏ်း၊ အဖြူရောင်အဆင်း အာရုံ၊ |
| ၉။ | အာကာသကသိုဏ်း | လဟာပြင်ကသိုဏ်း၊ အပေါက်အခေါင်း၊ ဟင်းလင်းပြင်အာရုံ၊ |
| ၁၀။ | အာလောကကသိုဏ်း | အလင်းကသိုဏ်း၊ အလင်းရောင်အာရုံ၊ |

လက်ာ = မြေ + ရေ + မီး + လေ၊ ညို + ရွှေ + နီ + ဖြူ၊ ပေါက် + လင်း–ဟူ၊ ဆယ်ဆူကသိဏ။

အသုဘာ–၁၀ပါး (မတင့်တယ်သော သူသေကောင် အသုဘာကမ္မဋ္ဌာန်း– ၁၀မျိုး)

| | | |
|---|---|---|
| ၁။ | ဥဒ္ဓုမာတက | ဖူးဖူး **(ရောင်)**ပွသော သူသေကောင် |
| ၂။ | ဝိနီလက | အ**(ညို)**ရောင်ပေါက်လာသော သူသေကောင် |
| ၃။ | ဝိပုဗ္ဗက | **(ပြည်)** တစိုစိုယိုလာသော သူသေကောင် |
| ၄။ | ဝိစ္ဆိဒ္ဒက | လက်၊ ခြေ ခေါင်း**(ပြတ်)**သော သူသေကောင် |
| ၅။ | ဝိက္ခာယိတက | တောခွေးတို့ **(ခဲစား)**ထားအပ်သောသူသေကောင် |
| ၆။ | ဝိက္ခိတ္တက | လက်၊ ခြေ ခေါင်း၊ တစ်ခြားစီ**(ပစ်ထား)**သော သူသေကောင် |
| ၇။ | ဟတဝိက္ခိတ္တက | **(ဓါးဖြင့်)** အပိုင်းပိုင်းဖြတ်ပစ်ထားသော သူသေကောင် |
| ၈။ | လောဟိတက | **(သွေး)**ပုတ်များယိုစီးကျနေသော သူသေကောင် |
| ၉။ | ပုဠုဝက | **(ပိုး)**လောက်တို့ တဖွားဖွားကျနေသော သူသေကောင် |
| ၁၀။ | အဋ္ဌိက | **(အရိုးစု)**မျှသာ ကျန်ရှိသော သူသေကောင် |

လက်ာ – ရောင် + ညို + ပြည် + ပြတ်၊ ခဲအပ် + ပစ်ထား။ ဓါးဖြတ်, ပစ်ရေး။ သွေးယို + ပိုးစု၊ အရိုးစု။ ဆယ်ခု အသုဘ။

အနုဿ တိ– ၁၀ပါး (အဖန်ဖန် အောက်မေ့အပ်သော ကမ္မဋ္ဌာန်း– ၁၀မျိုး)

| | | |
|---|---|---|
| ၁။ | ဗုဒ္ဓါနုဿတိ | ဘုရားဂုဏ်ကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၂။ | ဓမ္မာနုဿတိ | တရားဂုဏ်ကို အဖန်ဖန် အောက်မေ့ခြင်း။ |

| | | |
|---|---|---|
| ၃။ | သံဃာနုဿတိ | သံဃာဂုဏ်ကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၄။ | သီလာနုဿတိ | မိမိ စောင့်ထိန်းအပ်သော သီလ၏ မကျိုး မပေါက် မကြားမပြောက်မှုကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၅။ | စာဂါနုဿတိ | မိမိ ပေးကမ်းလှူဒါန်းမှုကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၆။ | ဒေဝတာနုဿတိ | နတ်တို့ကို သက်သေပြု၍ မိမိကုသိုလ်ကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၇။ | ဥပသမာနုဿတိ | နိဗ္ဗာန်၏ ဂုဏ်ကျေးဇူးကို အဖန်ဖန် အောက်မေ့ ခြင်း။ |
| ၈။ | မရဏာနုဿတိ | မိမိ မချွတ်ကေန် သေရမည်ကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၉။ | ကာယဂတာသတိ | ၃၂-ကောဋ္ဌာသကို အဖန်ဖန် အောက်မေ့ခြင်း။ |
| ၁၀။ | အာနာပါနဿတိ | ထွက်လေဝင်လေကို နည်းလမ်းတကျ အောက်မေ့ခြင်း။ |

**လင်္ကာ - ဗုဒ် + ဓမ် + သံ + သီ၊ စာဂီ + ဒေဝတာ၊ သမာဥပ၊ မရဏနှင့်၊ ကာယဂတာ အာနာပါ၊ ဆယ်ဖြာ နုဿတိ။**

အပ္ပမညာ—၄ ပါး = ဤမျှ ဤမျှဟု အတိုင်းအရှည် ပမာဏမထား မခွဲခြားဘဲ သတ္တဝါတို့အပေါ်၌ ဖြစ်သောတရား

(ဤလေးပါးကိုပင်-ဗြဟ္မာတို့၏ နေခြင်းနှင့်တူသောကြောင့် ဗြဟ္မ ဝိဟာရ တရားဟုလည်းကောင်း၊ မွန်မြတ်သူတို့၏ အကျင့်မျိုး ဖြစ်သော ကြောင့် ဗြဟ္မစိုရ် တရားဟုလည်းကောင်း ခေါ်၏။)

| | | |
|---|---|---|
| ၁။ | မေတ္တာ | သတ္တဝါတို့ကို ချစ်ခင်မြတ်နိုးခြင်း ကောင်းကျိုးလိုလားခြင်း (ချစ်အပ်သောသတ္တဝါတို့ကို အာရုံပြု၍) |
| ၂။ | ကရုဏာ | အတိုင်းမသိသော ဒုက္ခိတသတ္တဝါပညတ်ကို အာရုံပြု၍ သနားခြင်း |
| ၃။ | မုဒိတာ | အတိုင်းမသိသော သုခိတသတ္တဝါပညတ်ကို အာရုံပြု၍ ဝမ်းမြောက်ခြင်း |
| ၄။ | ဥပေက္ခာ | သတ္တဝါပညတ်ကိုသာ အာရုံပြု၍ လျစ်လျူရှုခြင်း |

**လင်္ကာ – မေ + က + မု + ဥ၊ ပွား များ မှု၊ လေးခုပမညာ။**

**အာဟာရေပဋိကူလသညာကမ္မဋ္ဌာန်း (၁) ပါး**

**(အာဟာရတွင်၊ ရွံ့ဖွယ်လျှင်၊ မှတ်ထင်ကေ်သညာ)**

= အစာအာဟာရ၊ စားဖွယ်သောက်ဖွယ်တို့၌ ရွံ့ရှာဖွယ်ဟူ၍ မှတ် ထင်ပွါးများခြင်းသည် အာဟာရေပဋိကူလသညာမည်၏။

**စတုဓါတုဝဝတ္ထာန်ကမ္မဋ္ဌာန်း (၁) ပါး**

(ဓါတ်ကြီးလေးခု၊ ပိုင်းခြားမှု၊ စတုဝဝတ္ထာန်။)

= ခန္ဓာကိုယ်၌–ပထဝီ–အာပေါ–တေဇော–ဝါယော–ဟု ဓါတ်ကြီး လေးပါးကို ဉာဏ်ဖြင့်ပိုင်းခြားဆင်ခြင်ခြင်းသည် စတုဓါတုဝဝတ္ထာန် မည်၏။

**အာရုပ္ပကမ္မဋ္ဌာန်း (၄) ပါး (အရူပဈာန် ရစေနိုင်သော ကမ္မဋ္ဌာန်း– ၄ ပါး)**

(၁) **အာကာသာနဉ္စာယတန** – (ကသိုဏ်းကိုခွါ၍ ရအပ်သော)အဆုံး မရှိသော ကောင်းကင်ပညတ်အာရုံ။

(၂) **ဝိညာနဉ္စာယတန** – အဆုံးမရှိသော ပထမအရူပဝိညာဏ်အာရုံ။

(၃) **အာကိဉ္စညာယတန** –ပထမအရူပဝိညာဏ်၏ တစုံတစ် မရှိခြင်း နတ္ထိဘောပညတ်အာရုံ

(၄) နေဝသညာနာသညာယတန – (ရုန့်ရင်းသော သညာကားမရှိ၊ သိမ်မွေ့သော သညာမရှိသည်လည်း မဟုတ်–ရှိသည်သာဖြစ်သော) တတိယအရူပဝိညာဏ်အာရုံ။

**လက်ာ – အာ + ဝိဉ် + အာ + နေ၊ ဤလေးထွေ၊ မှတ်လေအရူပ၊**

**လက်ာ = ကောင်းကင်ခေါ်မှတ်၊ ပညတ်တစ်ဖြာ၊ ပဌမာရုပ္ပ + ဝိညာဏနှင့် ဘာဝနတ္ထိ၊ တတိယာရုပ္ပ + ဝိညာဏ်၊ လေးတန်အာရုံစဉ်တိုင်းတည်း။**

**ကမ္မဋ္ဌာန်း (၄၀) ပြီး၏။**

---

## သပ္ပါယဘေဒ

## (စရိုက်နှင့် လျော်မည့်ကမ္မဋ္ဌာန်းကို တွဲစပ်ပြခြင်း)

**စရိုက်– ၆ ပါး**

ယခုဘဝ၌ အဖြစ်များသော သဘောကို **စရိုက်(စရိတ)**ဟု ခေါ်သည်။

(ရှေးရှေးဘဝ အဆက်ဆက်က လိုက်ပါလာသော အထုံဓါတ် သဘောတစ်မျိုးကို **ဝါသနာ** ဟု ခေါ်သည်။)

(၁) **ရာဂစရိုက်** = တဏှာရာဂ အဖြစ်များခြင်း၊

(၂) **ဒေါသစရိုက်** = ဒေါသအဖြစ်များခြင်း၊ စိတ်ဆိုးလွယ်ခြင်း၊ ကြောက်တတ်ခြင်း၊

(၃) **မောဟစရိုက်** = တွေဝေမှု မှိုင်တွေမှု များခြင်း၊

(၄) **ဝိတက်စရိုက်** = ဝိတက်ကြံစည်မှု များခြင်း (အကြံအစည်များ၍ ပျံ့လွင့်တတ်၏)

(၅) **သဒ္ဓါစရိုက်** = ယုံကြည်မှုများခြင်း (ယုံကြည်လွယ်ခြင်း၊ ယုံမိလျှင် စွဲမြဲခြင်းတို့ ဖြစ်တတ်၏)

(၆) ဗုဒ္ဓိစရိုက် = ဉာဏ်ပညာ အသုံးချမှုများခြင်း စစ်ကြော ဝေဘန်မှုများခြင်း။

လင်္ကာ = ရာ + ဒေါ + မော + ဝိ၊ သဒ် + ဗုဒ္ဓိ၊ စရိ- ုက်ခြောက်ဖြာ။

## စရိုက်နှင့် ကမ္မဋ္ဌာန်းတွဲပေးပုံ

| | | |
|---|---|---|
| ၁ | **ရာဂ**စရိုက်များသူ အတွက် | အသုဘ- ၁၀ + ကာယဂတာ-၁=ပေါင်း ၁၁-ပါးကို ပွါးရမည်။ |
| ၂ | **ဒေါသ**စရိုက်များသူ အတွက် | နီလ + ပီတ + လောဟိတ + ဩဒါတ- ကသိုဏ်း ၄-ပါး အပ္ပမညာ ၄-ပါး= ပေါင်း ၈-ပါးကို ပွါးရမည်။ |
| ၃/၄ | **မောဟ/ဝိတက်** စရိုက်များသူအတွက် | အာနာပါနကမ္မဋ္ဌာန်းကို ပွါးရမည်။ |
| ၅ | ဗုဒ္ဓိစရိုက်များ သူအတွက် | မရဏာနုဿတိ + ဥပသမာနုဿတိ +အာဟာ ရေ ပဋိကူလသညာ စတုဓါတုဝဝတ္ထာန်-၄ ပါးကို ပွါးရမည်။ |
| ၆ | **သဒ္ဓါ**စရိုက်များ သူအတွက် | ဗုဒ္ဓ + ဓမ္မ + သံဃာ + သီလ + စာဂ + ဒေဝတာနုဿတိ- ၆ ပါးကို ပွါးရမည်။ |
| ၇ | **စရိုက်- ၆ ပါး** လုံးအတွက် | ကြွင်းသော- ပထဝီ + တေဇော + အာပေါ+ ဝါယော + အာကာသ + အာလောက + အာရုပ္ပ-၄=၁၀ သင့်လျော်၏။ |

လင်္ကာ - ၁။ အသု + ကာယ၊ ဆယ့်တစ်ဝ၊ ရာဂလျော်လှစွာ။
၂။ အဆင်း + မညာ၊ ရှစ်ဌာန၊ ဒေါသလျော်လှစွာ။
၃/၄။ အာနာပါန၊ အလျော်ကျ၊ မောဟ/ဝိတက်သာ။
၅။ မရဏနှင့်၊ ဥပသမာ၊ သညာတစ်တန်၊ ဝဝတ္ထာန်၊ လေးတန်ဗုဒ္ဓိသာ။
၆။ နုဿတိ + ဆ၊ သဒ္ဓါကျ။
၇။ သေသ + အားလုံးသာ။

**(မှတ်ချက်)**

လက်ာ = ကသိုဏ်းကြီးမှု၊ မောဟယှု၊ ယ်မှု + ဝိတက်သာ။

ကသိုဏ်းဝန်းပြုလုပ်ရာ၌–မောဟစရိုက်ပြောသူ(များသူ)ဖြစ်က– ကောက်ပဲနယ်လောက်သော တလင်းပြင်ခန့်ကြီးကြီးပြုလုပ်၍၊ ဝိတက် စရိုက်ပြောသူ (များသူ) ဖြစ်က တစ်ထွာနှင့်လက်လေးသစ်ခန့်ကသိုဏ်းဝန်းကို ယ်ယ်ပြုလုပ်ရမည်။

(မောဟများသူအတွက်–ကသိုဏ်းဝန်းငယ်လျှင် အာရုံမထင်ပဲပို၍ တွေဝေစေနိုင်သည်၊ ဝိတက်များသူအတွက် သမာဓိစူးစိုက်ရန်ငယ်ငယ်ပြုရသည်။ ကြီးလျှင်ပို၍ အာရုံပြန့်သွားနိုင်သည်။)

## ဂေါ်စရဘေဒ (အာရုံနိမိတ်အပြား)

### ကမ္မဋ္ဌာန်းအာရုံနိမိတ်–အဆင့်– ၃ မျိုး

**၁။ ပရိကမ္မနိမိတ်(အာရုံ)** = (ကမ္မဋ္ဌာန်းအာရုံကို စတင်၍ယူခြင်း/ပွါးများခြင်း)

ပထဝီကသိုဏ်းကို စတင်၍ ပွါးများသည်ဆိုပါစို့ –

ကမ္မဋ္ဌာန်းတရားကို စ၍အားထုတ်သော ပုဂ္ဂိုလ်အဖို့ရာ–ရှေးဦးစွာ ပထဝီကသိုဏ်းဝန်းကို (ပန်းကန်ပြား၊ ဗန်း၊ စကော စသည်ဖြင့် အညီအညွတ် ကောင်းစွာထည့်၍ ပြုလုပ်ထားသော မြေကြီးနိမိတ်ကို) မိမိမျက်စိရှေ့ တည့်တည့်ထား၍ ထိုပထဝီကသိုဏ်းဝန်းကို စူးစူးစိုက်စိုက်ကြည့်လျက် **မြေ–မြေ–မြေ**–ဟု မရပ်မနား ရှုမှတ်ပွါးများရမည်၊ ထိုသို့ပွါးများစဉ် မျက်စိဖြင့်မြင်နေရသော ပထဝီကသိုဏ်းဝန်းအာရုံသည် ပရိကမ္မနိမိတ်အာရုံမည်၏။

**၂။ ဥဂ္ဂဟနိမိတ်အာရုံ** = ထိုသို့ ပွါးများဖန်များလတ်သော် မျက်စိမှိတ်ထားသော်လည်း မျက်စိဖြင့်မြင်ရသကဲ့သို့ မနောဒွါရ၌ (စိတ်မျက်စိထဲ၌) စွဲမြဲထင်ရှားစွာ ယူထားအပ်သော ပထဝီကသိုဏ်းဝန်းအာရုံသည် ဥဂ္ဂဟနိမိတ်အာရုံမည်၏။

၃။ **ပဋိဘာဂနိမိတ်အာရုံ**- ထိုဥဂ္ဂဟနိမိတ်အာရုံကိုပင် စိတ်မျက်စိထဲမှာ ပျောက် မသွားရအောင် မြေ-မြေ-မြေ-ဟု အထပ်ထပ်ဆက်လက် ပွား များလတ်သော် အထပ်ထပ်ပွားများမှု ဘာဝနာတန်ခိုးကြောင့် စိတ်မျက်စိထဲ တွင် ဥဂ္ဂဟနိမိတ်ထက် ပို၍သန့်ရှင်းစင်ကြယ်သော (တိမ်စင်သောမိုးပြာ ကောင်းကင်၌ ပျံသန်းနေသည့် ဖျိုင်းငှက်သည် အလွန်ထင်ရှားသကဲ့သို့) ကသိုဏ်း၏အပြစ်များမရှိတော့ဘဲ အလွန်သန့်ရှင်း ထင်ရှားလာသော ပထဝီ ကသိုဏ်းဝန်းအာရုံကို ပဋိဘာဂနိမိတ်အာရုံဟုခေါ်သည်။

(ရိုးရိုး မျက်စိနဲ့မြင်ရတဲ့ အာရုံမဟုတ်တော့ဘူး၊ ဘာဝနာတန်ခိုးကြောင့် တိုး၍မြင်ရတဲ့အာရုံ၊ ပညတ်အာရုံသာဖြစ်တယ်၊ ပရမတ်အာရုံမဟုတ်။)

### နိမိတ်–၃ ပါး နှင့် ကမ္မဋ္ဌာန်း– ၄၀ တွဲစပ်ပုံ

| | | |
|---|---|---|
| ၁။<br>၂။ | ပရိကမ္မနိမိတ်အာရုံ<br>ဥဂ္ဂဟနိမိတ်အာရုံ | ကမ္မဋ္ဌာန်း– ၄၀လုံး၌ ထိုက်သည့်အား လျော်စွာ ပရိယာယ်အားဖြင့် ရအပ်၏။ (မုချရခြင်းမဟုတ်) |
| ၃။ | ပဋိဘာဂနိမိတ်အာရုံ | ကသိုဏ်း–၁၀ ပါး + အသုဘ–၁၀ပါး + ကာယဂတာသတိ + အာနာပါန သတိ=ပေါင်း–၂၂–ပါး၌ ရအပ်၏။ |

**ဆောင် →လေးဆယ်လုံးမှာ၊ ရှေ့နှစ်ဖြာ၊ လျော်စွာရသတည်း။**
**= ကသိုဏ်း + သုဘာ၊ ကာ + အာနာ၊ ပဋိဘာဂတည်း။**

ဘာဝနာ– ၃ မျိုး (ကမ္မဋ္ဌာန်းပွားများမှုဘာဝနာ– ၃မျိုး)

၁။ **ပရိကမ္မဘာဝနာ၊**
၂။ **ဥပစာရဘာဝနာ၊**
၃။ **အပ္ပနာဘာဝနာ၊**

**ဆောင် = ပရိ + ဥပစာ၊ အပ္ပနာ၊ သုံးတန်ဘာဝနာ။**

၁။ **ပရိကမ္မဘာဝနာ** = ပရိကမ္မနိမိတ် + ဥဂ္ဂဟနိမိတ် အာရုံထင်လာအောင် ပွါးများမှုဘာဝနာကိုပင် ပရိကမ္မဘာဝနာဟု ခေါ်သည်။

(ကာမာဝစရ သမာဓိဘာဝနာ အဆင့်ပင် ရှိသေးသည်။)

၂။ **ဥပစာရဘာဝနာ** = ပဋိဘာဂနိမိတ် အာရုံထင်လာအောင် ပွါးများမှုဘာဝနာကိုပင် ဥပစာရဘာဝနာဟု ခေါ်သည်။

(ကာမာဝစရ ဥပစာရသမာဓိဘာဝနာအဆင့်ပင် ရှိသေးသည်။)

၃။ **အပ္ပနာဘာဝနာ** = ထိုပဋိဘာဂနိမိတ်အာရုံကိုပင် အထပ်ထပ်ပွါးများ သည်ရှိသော် ပွါးများသူ ယောဂီသန္တာန်၌၊ အထပ်ထပ် ပွါးများမှု ဘာဝနာတန်ခိုးကြောင့် (အပ္ပနာစျာန်) ရူပါဝစရ ပထမစျာန် အစဆုံးဖြစ်လာ၏။ ထိုသို့ ရူပါဝစရပထမစျာန်စသော (အပ္ပနာစျာန်)ရအောင် အားထုတ်မှုကိုပင် အပ္ပနာဘာဝနာဟု ခေါ်သည်။

ပထမစျာန်ဝီထိပုံစံ မန္ဒ →ဘဝင်၊ ဘဝင်- -န၊ ဒ၊ မ-ပ +ဥ+နု+ဂေါ +စျာန်၊ ဘဝင်- ဘဝင်

တိက္ခ →ဘဝင်၊ ဘဝင်- -န၊ ဒ၊ မ- +ဥ+နု+ဂေါ +စျာန်၊ ဘဝင်- ဘဝင်

**ဆောင် → ပဋိဘာဂ၊ ထင်လာက၊ နီဝရဏကွာ။**

**နီဝရဏ၊ ကွာတုံက၊ ဥပစာရလာ။**

**ထို့နောက်တစ်ဖန်၊ ပွါးတုံပြန်၊ ပ စျာန်အပ္ပနာ။ ။**

ဥပစာရဘာဝနာဖြင့် ပဋိဘာဂနိမိတ် ထင်လာအောင် ပွါးများသောအခါ သမာဓိအားကောင်းပြီး ပထဝီကသိုဏ်းဝန်းအာရုံများ အလွန်ထင်ရှားနေ၍ ကာမစ္ဆန္ဒ(ကာမဂုဏ်အာရုံကိုလိုချင်မှု)စသော နီဝရဏတရားများမဝင်နိုင်သည်ကို နီဝရဏတရားများ ကွာနေသည်ဟုဆိုသည်။ ထိုသို့

နီဝရဏတရားများ ကွာ၍ မဝင်နိုင်သောအခါ စိတ်သည် အလွန်သန့်ရှင်းစင်ကြယ်သဖြင့် ဥပစာရသမာဓိဇော (ဈာန်ရလုရခင်အချိန်၌–ကာမာဝစရဉာဏ် သမ္ပယုတ်ဇော ၈–ပါးတွင် တစ်ပါးပါး)တို့ ဖြစ်လာသည်။ ထို့နောက် ပထဝီကသိုဏ်းကိုပင် **မြေ–မြေ–မြေ–**ဟု အထပ်ထပ် ဆက်လက်ပွားများသောအခါ ထိုသို့ ပွားများမှု ဘာဝနာတန်ခိုးကြောင့် ရူပါဝစရပထမဈာန် အပ္ပနာသမာဓိဇောသို့ ရောက်လေသည်။

## နိမိတ်– ၃ ပါးနှင့် ဘာဝနာ– ၃ ပါး တွဲစပ်ပုံ

၁။ ပရိကမ္မနိမိတ်
၂။ ဥဂ္ဂဟနိမိတ် (နှစ်ပါးလုံး) → ၁။ ပရိကမ္မဘာဝနာ၊

၃။ ပဋိဘာဂနိမိတ် (တစ်ပါးတည်း) → ၂။ ဥပစာရဘာဝနာ၊
၃။ အပ္ပနာဘာဝနာ၊

**ဆောင် → ပရိ + ဥဂ်မူ–၊ ပရိယူ၊ ဘာ–မူ–ဥ+အပ်သာ။**
**–ပရိအစ၊ ဥဂ္ဂဟအလယ်၊ နှစ်သွယ်ရှုဘိ၊ သမာဓိ၊ ပရိကမ္မသာ။**

## ကမ္မဋ္ဌာန်း– ၄၀ ကို ဘာဝနာ–၃ ပါးနှင့် တွဲစပ်ပုံ

| | | |
|---|---|---|
| ၁။<br>၂။ | ပရိကမ္မဘာဝနာ<br>ဥပစာရဘာဝနာ | ရှေ့ပိုင်း–အနုဿတိ–၈ ပါး + အာဟာရေပဋိကူလသညာ + စတုဓါတုဝဝတ္ထာန် ၁= ပေါင်း– ၁၀ ပါး၊ |
| ၁။<br>၂။<br>၃။ | ပရိကမ္မဘာဝနာ<br>ဥပစာရဘာဝနာ<br>အပ္ပနာဘာဝနာ | ကသိုဏ်း–၁၀ + အသုဘ–၁၀+ကာယဂတာ+အာနာပါ+အပ္ပမညာ–၄ + အရူပ–၄ = ပေါင်း– ၃၀ |

**ဆောင် → နုဿတိရှစ်၊ သညာ–ကေ်၊ တလစ်ဝဝတ္ထာန်၊**
**ပရိ–ဥပ၊ နှစ်ခုမျှ၊ ရထိုက်ဘာဝနာ။**
**– အကြွင်းသုံးဆယ်၊ အာရုံဝယ်၊ သုံးသွယ်ဘာဝနာ။**

အထက်- ၁၀ ပါးသည် ပရိကမ္မဘာဝနာ၊ ဥပစာရဘာဝနာ-၂ပါးကိုသာ ရသဖြင့် အပ္ပနာစျာန်သို့ မပေါက်ရောက်နိုင် အကြောင်း-၃၀ သည်သာ ဘာဝနာသုံးပါးလုံး ရသဖြင့် အပ္ပနာစျာန်သို့ ပေါက်ရောက်နိုင်သည်။

**ဆောင်။ က+သု+ကာ+အာ၊ ပမညာ၊ ရူပါသုံးဆယ်အပ်။**

## အပ္ပနာစျာန်သို့ ပေါက်ရောက်နိုင်သော ကမ္မဋ္ဌာန်း—၃၀ ကို စျာန်အားဖြင့် ဝေဖန်ပုံ

| | |
|---|---|
| ကသိုဏ်း ၁၀+ အာနာပါန=၁၁ | စျာန်-၅ မျိုးလုံးရနိုင်သည်။ |
| အသုဘ- ၁၀+ ကာယဂတာသတိ- ၁ = ၁၁ | ပထမစျာန် တစ်ခုကိုသာရနိုင်သည်။ |
| မေတ္တာ+ကရုဏာ+မုဒိတာ=၃ | ပ+ဒု+တ+စ-၄ ပါးသာရနိုင်သည်။ |
| ဥပေက္ခာ = ၁ | ပဥ္စမစျာန် တစ်ခုသာရနိုင်သည်။ |
| အာရုပ္ပ-၄ ပါးသည် | ဆိုင်ရာ အရူပစျာန် ၄ပါးသို့ရောက်နိုင်သည်။ |

နိမိတ်+ဘာဝနာအမျိုးမျိုးနှင့် + ထိုနိမိတ်+ ဘာဝနာတို့ဖြင့် ပထဝီကသိုဏ်းကို အခြေခံကာ အစဆုံး ရူပါဝစရပထမစျာန်(အပ္ပနာစျာန်မျိုး)သို့ ရောက်အောင် ပွါးများအားထုတ်ရပုံကို ပြဆိုပြီး၍ ယခုအခါ၌ ရပြီးသော စျာန်များ မပျောက်ပျက်ရအောင် အလေ့အကျင့်ပြုလုပ်ရပုံ၊ အထက်အထက် စျာန်များရရှိအောင် ဆက်လက်အားထုတ်ရပုံကို ပြဆိုဦးအံ့။

ဝသီဘော်— ၅ ချိုး (ရပြီးစျာန်များ၊ စွမ်းရည်ထက်မြက်အောင် လေ့ကျင့်မှု ၅-မျိုး)

ပထမစျာန်ကို ရပြီးသောပုဂ္ဂိုလ်သည် ရရှိထားသောစျာန်ကို စွမ်းရည်ထက်မြက်အောင် **(ကျက်၍ရ ပြီးသောစာကို မမေ့အောင်၊ အမြန်**

**ဆိုနိုင် ရွတ်နိုင်အောင်၊ အမြန်ရေးနိုင်အောင် အမျိုးမျိုး ပြန်လှန် လေ့ကျင့်ခဏ်းများ လုပ်ရသကဲ့သို့)** ရပြီးဈာန်ကို၊ အစိတ်စိတ်အားဖြင့်လည်းကောင်း၊ အပေါင်းအားဖြင့်လည်းကောင်း၊ အထပ်ထပ် ဝင်စားရ၏။ ထိုသို့ အထပ်ထပ်လေ့ကျင့်ထားမှသာ လိုအပ်သလို ဈာန်ကို ချက်ချင်း ဝင်စားနိုင်၏။ လိုအပ်သည့် အချိန်အတိုင်းအတာအထိ ဈာန်စိတ်ဖြစ်နေအောင် ထားနိုင်၏။ လိုအပ်သလို ဈာန်မှထနိုင်၏။ (ဈာန်ကို ရုပ်သိမ်းနိုင်၏) ထိုသို့ လိုအပ်သလို ရနိုင်အောင် ဝသီဘော် ၅-မျိုးဖြင့် လေ့ကျင့်ထားရ၏။

*(ဝသိနော+ဘာဝေါ=ဝသီဘာဝေါ။ ဝသိနော=စွမ်းရည်သတ္တိရှိသော ပုဂ္ဂိုလ်၏၊ ဘာဝေါ=ဖြစ်ကြောင်းတည်း။ ဝသီဘာဝေါ=စွမ်းရည် ရှိသူဖြစ်ကြောင်း)*

၁။ **အာဝဇ္ဇနဝသီဘော်** = ပထမဈာန်ကို ရပြီးသောပုဂ္ဂိုလ်သည် ပထမ ဈာန်တွင်ပါဝင်သော ဝိတက်စသော ဈာန်အင်္ဂါ တစ်ခုချင်းကို ဆင်ခြင်သော ပစ္စဝေက္ခဏာဝီထိများ (တစ်ဝီထိနှင့် တစ်ဝီထိအကြား-ဘဝင်မခြားဘဲ (ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ မနောဒွါရာဝဇ္ဇန်း လောက်သာဖြစ်ပြီး:) ပစ္စဝေက္ခဏာဇောဝီထိများ အဆက်မပြတ် ဆက်ကာဆက်ကာ ဖြစ်နေအောင် ဆင်ခြင်နိုင်သော အစွမ်းသတ္တိဖြစ်သည်။ ဝီထိပုံစံ-၊ +န+ဒ+X+မ-ပစ္စဝေက္ခဏာဇော၊ ~~ဘဝင်~~ +န+ဒ+X+မ ပစ္စဝေက္ခဏာဇော+ မနောဒွါရာဝဇ္ဇန်း-ပြီးသည်နှင့် ပစ္စဝေက္ခဏာဇောဆက်ဖြစ်သောကြောင့် အာဝဇ္ဇန်းသည် ပစ္စဝေက္ခဏာဇောဖြစ်စေပြီး သီးသန့်ဘဝင်မခြားစေဘဲ၊ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒလောက်သာဖြစ်စေပြီး ပစ္စဝေက္ခဏာဇောများကို ဆက်ကာဆက်ကာ ဖြစ်စေနိုင်သောကြောင့် မနောဒွါရာဝဇ္ဇန်း၏ အစွမ်းကြောင့် ဖြစ်ရသည်ဟု ဆိုသည်။

၂။ **သမာပဇ္ဇနဝသီဘော်** = ဈာန်အင်္ဂါအပေါင်းကို နိုင်နင်းအောင် မမေ့အောင်(နဂိုအတိုင်း)ပြန်၍ အလေ့အလာ ပြုခြင်း၊ ထိုသို့ အလေ့အလာပြုသဖြင့် ဈာနသမာပဇ္ဇနဝီထိများ၊ မိမိသန္တာန်၌ တစ်ကြိမ်ထက်တစ်ကြိမ် လျှင်သည်ထက် လျှင်မြန်စွာ

ဖြစ်ပေါ်လာအောင် ဘဝင်မခြားဘဲ ထပ်ကာထပ်ကာ ဝင်စားနိုင်နင်းသော စွမ်းရည်သတ္တိဖြစ်သည်။ ဝိထိပုံစံမှာ နဂိုအတိုင်းပြန်၍ ဝင်စား လေ့ကျင့်ခြင်း ဖြစ်၍ အစဆုံး ပထမဈာန်ရစဉ်က ဝိထိပုံစံအတိုင်းပင် ဖြစ်သည်။

**ဝိထိပုံစံ။** န+ဒ+မ–ပ+ဥ–နု+ဂေါ–ပထမဈာန်များ ~~အဇင်~~ န+ဒ+မ–ပ+ ဥ+နု+ဂေါ ပထမဈာန်များ

၃။ **အဓိဋ္ဌာနဝသီဘော်** = ဈာန်စိတ်ကို မိမိထားလိုသမျှ အချိန်နာရီအထိ ကြာအောင် (ထားနိုင်အောင်) အလေ့အလာ ပြုခြင်း။

၄။ **ဝုဋ္ဌာနဝသီဘော်** = ဈာန်အင်္ဂါတစ်ခုချင်း မိမိ ထချင်သည့်အချိန် ထနိုင်အောင် (မိမိရုပ်သိမ်းချင်သည့် အချိန်မှာ ရုပ်သိမ်းနိုင်အောင်) အလေ့အကျင့်ပြုခြင်း။

၅။ **ပစ္စဝေက္ခဏာဝသီဘော်=** ဈာန်အင်္ဂါတစ်ခုချင်း ဘဝင်မခြားဘဲ ဆင်ခြင်နိုင်သော ပစ္စဝေက္ခဏာဇော၏ အစွမ်းသတ္တိ ဖြစ်သည်။ အာဝဇ္ဇနဝသီဘော်နှင့် တူ၏။ (အထူးမှာ–အာဝဇ္ဇနဝသီဘော်၌ ဘဝင်မခြားအောင် ပြုသည်မှာ မနောဒွါရာဝဇ္ဇန်း၏ အစွမ်းသတ္တိ ဖြစ်ပြီး၊ ပစ္စဝေက္ခဏာဝသီဘော်၌ ဘဝင်မခြားအောင်ပြုသည်မှာ ပစ္စဝေက္ခဏာ ဇော၏ သတ္တိ ဖြစ်သည်။)

ဤသို့လျှင် (ပထဝီကသိုဏ်းကို) နိမိတ်သုံးမျိုး၊ ဘာဝနာသုံးမျိုး တို့ဖြင့် အဆင့်ဆင့် ပွါးများ၍–ပထမဈာန်ကို ရပြီးသော ပုဂ္ဂိုလ်သည်၊ ဆက်လက်၍ ဝသီဘော်– ၅ မျိုးတို့ဖြင့် အလေ့အကျင့်ရအောင် များများ လုပ်ထားလျှင် နိုင်နင်းအောင်ပြုထားလျှင် ပထမဈာန်နှင့် ပတ်သက်သမျှ အစွမ်းကုန် နိုင်နင်းလေတော့သည်။

**ဝသီဘော်– ၅ ပါးလင်္ကာ**

၁။ ဈာန်အင်္ဂါစု၊ ဆင်ခြင်မှု၌၊ တစ်ခုဝိထိ၊ တစ်ခု၏ကြား၊ ဘွင်မခြားပဲ၊ ဆက်သွားဆင်ခြင်၊ စွမ်းနိုင်လျှင်သော်၊ ဝသီဘော်၊ မိန့်ခေါ်အာဝဇ္ဇန။

၂။ ဝင်စားလိုလျှင်၊ အပိုဘဝင်တို့၊ မဝင်မခြား၊ အလျှင်အားဖြင့်၊ ဝင်စားနိုင်သော် ဝသီဘော်၊ မိန့်ခေါ်သမာပဇ္ဇန။

၃။ ရှည်ရှည်တိုတို၊ တန့်ထားလိုလျှင်၊ ဘဝင်လွှမ်းဖို့၊ မကျတည့်အောင်၊ ဈာန်၏ အစဉ်၊ ထားနိုင်လျှင်သော်၊ ဝသီဘော်၊ မိန့်ခေါ် ဓိဋ္ဌာန။

၄။ ချိန်ခါတိုရှည်၊ ရည်ရွယ်မှန်းဆ၊ ထိုခဏ၌၊ ဈာန်မှထခြင်း၊ စွမ်းနိုင်လျှင်းသော်၊ ဝသီဘော်၊ မိန့်ခေါ် ဝုဋ္ဌာန။

၅။ ပစ္စဝေက္ခဏာ၊ ဇောစောကာဖြင့်၊ ဈာန်အင်္ဂါစု၊ ဆင်ခြင်မှုစစ်၊ နည်းဟူဖြစ်၍၊ အာဝဇ္ဇနာ၊ ဝသီတာမြောက်၊ အစွမ်းရောက်က၊ ပစ္စဝေက်ခေါ် ဝသီဘော်ယည်း၊ တစ်ပါးတည်း၊ အပြီးရောက်နေကျ။

## ဒု+တ+စ+ပဥ္စမဈာန်တို့သို့ အဆင့်ဆင့်တက်ရပုံ

**ဆောင် ရှေးရှေးဈာနင်၊ ပယ်စွန့်လျှင်၊ အစဉ်နောက်ဈာန်ရ**

**ပထမဈာန်ရပြီး၍** ဝသီဘော်- ၅ မျိုးတို့ဖြင့် နိုင်နင်းပြီးသော ယောဂီပုဂ္ဂိုလ်သည် ဒုတိယဈာန်စသည်ကို ရလိုလတ်သော် မိမိရရှိပြီးသော ပထမဈာန်ကို-

- ငါရပြီးသော ပထမဈာန်၌ ဝိတက်ဈာန်အင်္ဂါသည် တောင်ကြီးမြောက်ကြီး ကြံစည်တတ်သဖြင့် ရန့်ရင်းကြမ်းတမ်း၏။ ထိုသို့ တောင်ကြံ၊ မြောက်ကြံ ကြံစည်နေသဖြင့် ကာမဂုဏ်အာရုံများကို ကြံမိနိုင်သည်။ ထို့ကြောင့် ကာမဂုဏ်အာရုံကို လိုချင်ခြင်းအစရှိသော ကာမစ္ဆန္ဒနီဝရဏ စသည့် ရန်သူတို့နှင့် နီးကပ်နေ၏။ ရပြီးသောဈာန်မှ ပြန်လျှောကျနိုင်၏။ ဝိတက်ဈာန်အင်္ဂါမပါသော ဒုတိယဈာန်ကို ရမှု ကောင်းလေစွဟု-

ပထမဈာန်ကို အပြစ်မြင် ဒုတိယဈာန်ကို လိုချင်စိတ်ဖြင့် မျက်စိမှိတ်ထားသော်လည်း စိတ်မျက်စိထဲတွင် စွဲထင်နေသော ပထဝီကသိုဏ်း ပဋိဘာဂနိမိတ်ကိုပင် **မြေ-မြေ-မြေ**-ဟု ကာမာဝစရ ဥပစာရသမာဓိ ဇောစိတ်ဖြင့် အဖန်ဖန် ပွါးများလတ်သော် ထိုပွါးများမှု ဘာဝနာတန်ခိုး ကြောင့် ဒုတိယဈာန် အပ္ပနာသမာဓိဇောများဖြစ်ပြီး ဒုတိယဈာန်ကို အစဆုံးရရှိမှု ဖြစ်တော့သည်။

ထိုဒုတိယဈာန်ကိုလည်း ဝသီဘော်- ငါးမျိုးတို့ဖြင့် နိုင်နင်းအောင် လေ့ကျင့်မှု ပြုရပြန်သည်။

ဒုတိယစျာန်ဝိထိပုံ–ဘ ွင်–ဘ ွင်–ဘ ွင်–န+ဒ+မ–ပ+ဥ+နု+ဂေါ+ဒုတိယစျာန် ဘ ွင်ဘ ွင်

**ဒုတိယစျာန်ကိုရပြီးသော** ပုဂ္ဂိုလ်သည် ငါရပြီးသော ဒုတိယစျာန်၌ ဝိစာရစျာန်အင်္ဂါသည် ဟိုဟို–ဒီဒီ သုံးသပ်မှုများသဖြင့် ရန့်ရင်းကြမ်းတမ်းမှု ရှိနေသေး၏။ သုံးသပ်မှုများပြီး ကြံစည်ခြင်းဝိတက်သို့ ပြန်ရောက်၍ တဖြည်းဖြည်း စျာန်လျှောသွားနိုင်၏။ ဝိတက်ရန်သူနှင့် နီးနေ၏။ ဝိစာရ–မပါသော တတိယစျာန်ကိုရမှု ကောင်းလေစွ–ဟု–

ဒုတိယစျာန်ကို အပြစ်မြင် တတိယစျာန်ကို လိုချင်သောစိတ်ဖြင့် ပထဝီကသိုဏ်း ပဋိဘာဂနိမိတ်ကိုပင် အထက်ပါအတိုင်း ရှုမှတ်ပွါးများသောအခါ တတိယစျာန်ကို ရလေသည်။

ထိုတတိယစျာန်ကိုလည်း ဝသီဘော်– ၅မျိုးတို့ဖြင့် နိုင်နင်းအောင် လေ့ကျင့်ရပြန်သည်။

**တတိယစျာန်ရပြီး၍**– စတုတ္ထစျာန်သို့ တက်လိုသောပုဂ္ဂိုလ်သည်–

ငါရပြီးသော တတိယစျာန်၌ ပီတိစျာန်အင်္ဂါသည် နှစ်သက်မှုသဘောရှိသဖြင့် ရန့်ရင်းကြမ်းတမ်းနေသေး၏။ နှစ်သက်မှုပီတိကြောင့် သုံးသပ်မှုဝိစာရပြန်ဖြစ်နိုင်သဖြင့် ဝိစာရရန်သူနှင့် နီးကပ်နေပြန်၏။ မတည်ငြိမ်သေး၊ တဖြည်းဖြည်း စျာန်ပြန်လျှောကျနိုင်၏။ ပီတိမပါသော စတုတ္ထစျာန်ကို ရလျှင် ကောင်းလေစွ–ဟု

တတိယစျာန်ကို အပြစ်မြင် စတုတ္ထစျာန်ကို လိုချင်သောစိတ်ဖြင့် ပထဝီကသိုဏ်း ပဋိဘာဂနိမိတ်ကိုပင် အထက်ပါအတိုင်း ပွါးများလျှင် စတုတ္ထစျာန်ကို ရလေသည်။

ထိုစတုတ္ထစျာန်ကိုလည်း ဝသီဘော်–၅ မျိုးတို့ဖြင့် နိုင်နင်းအောင် လေ့ကျင့်ရပြန်၏။

**စတုတ္ထစျာန်ရပြီး၍** ပဉ္စမစျာန်သို့ တက်ရောက်လိုသော ပုဂ္ဂိုလ်သည်–

ငါရပြီးသော စတုတ္ထစျာန်၌ သုခစျာန်အင်္ဂါသည် ချမ်းသာကို ခံစားမှုသဘောရှိသဖြင့် ခံစားရင်း နှစ်သက်မှုပီတိသို့ ပြန်ရောက်ပြီး

41
B

တဖြည်းဖြည်း ဈာန်ပြန်လျှောကျနိုင်၏။ ပီတိရန်သူနှင့် နီးကပ်နေ၏။ သုခမပါသော ပဉ္စမဈာန်ကိုရမှု ကောင်းလေစွ-ဟု

စတုတ္ထဈာန်ကို အပြစ်မြင် ပဉ္စမဈာန်ကို လိုချင်သောစိတ်ဖြင့် ပထဝီကသိုဏ်း ပဋိဘာဂနိမိတ်ကိုပင် အထက်ပါအတိုင်း ပွါးဖန်များလတ်သော် ပဉ္စမဈာန်ကို ရလေသည်။ ထိုပဉ္စမဈာန်ကိုလည်း ဝသီဘော်- ၅ မျိုးတို့ဖြင့် လေ့ကျင့်ရပြန်၏။

**ဝီထိပုံ-ဘွင်-ဘွင်-ဘွင်-န+ဒ+မ-ပ+ဉ+နု+ဂေါ+ပဉ္စမဈာန်-ဘွင်-ဘွင်**

**ရူပဈာန်- ၅မျိုး အဆင့်ဆင့်ရပုံပြီး၏။**

## အရူပဈာန်လေးပါးတို့ အဆင့်ဆင့် ရရှိပုံ

**ဆောင် - အာရုံပြောင်းကာ၊ ပွါးတုံပါ၊ လေးဖြာအရူပ။**

ရူပါဝစရဈာန်ရပြီး-အရူပါဝစရဈာန်သို့ တက်ရောက်လိုသော ပုဂ္ဂိုလ်သည် ရူပဈာန်ရအောင် ပွါးများအားထုတ်ခဲ့သော ပထဝီကသိုဏ်းနိမိတ်ကို ဆက်လက်ပွါးများ၍ မရတော့ပေ၊ ၎င်းပထဝီကသိုဏ်းနိမိတ်ကို စိတ်အာရုံထဲမှ ခွါလှန်၍ (ထုတ်ပယ်)ပစ်ရမည်၊ ထိုသို့ ခွါလှန်ထုတ်ပယ်ပြီးမှ အာကာသကသိုဏ်း (လဟာပြင်၊ အပေါက်၊ ဟင်းလင်းပြင်အာရုံ)ကို ဆက်လက်ရှုမှတ် ပွါးများရမည်။

ပထဝီစသော ကသိုဏ်းနိမိတ်မှ ခွါပုံမှာ- ထိုပထဝီကသိုဏ်းနိမိတ် အာရုံကို အာရုံမပြုတော့ပဲ နေရမည်၊ ထိုသို့ အာရုံမပြုဖန် များသောအခါ ဟင်းလင်းပြင်(အာကာသ) ကောင်းကင်ကြီးသာ ထင်လာတော့သည်၊ ထိုသို့ ပေါ်လာသော အာကာသဟင်းလင်းပြင်အာရုံကို **(ကသိဏုဂ္ဃာတိမာကာသ** = ရူပဈာန်ရအောင် အားထုတ်ခဲ့သော ကသိုဏ်းအာရုံကိုခွါ၍ ရအပ်သော ကောင်းကင်အာရုံ)ဟု ခေါ်သည်။

(ကသိဏ = ရူပဈာန်ရအောင် အားထုတ်ခဲ့သော ကသိုဏ်း အာရုံကို
ဥဂ္ဃာတိ = ခွါ၍၊ ထုတ်ပယ်၍၊ ဖျောက်၍ရအပ်သော။
အာကာသ = ကောင်းကင်ဟင်းလင်းပြင်အာရုံ။)

(က) ထိုကောင်းကင်ဟင်းလင်းပြင်ကို–**အာကာသော–အနန္တော၊ အာကာသော–အနန္တော–(ကောင်းကင်ဟင်းလင်းပြင်ကြီးသည် အဆုံးမရှိ၊ ကောင်းကင်ဟင်းလင်းပြင်ကြီးသည် အဆုံးမရှိ)**ဟု အဖန်ဖန် ဆက်လက်ပွါးများသော် ပွါးများမှု ဘာဝနာတန်ခိုးကြောင့် –ပထမအရူပ– အာကာသနဉ္စာယတနစျာန်စိတ် ဖြစ်ပေါ်၍လာ၏။

ဝီထိပုံစံ– ဘွင်–ဘွင်–ဘွင် န+ဒ+မ–ပ+ဉ+နု+ဂေါ–ပထမအရူပစျာန်–ဘွင်–ဘွင်

ပထမအရူပစျာန်စိတ်ကိုလည်း ဝသီဘော်– ၅ မျိုးတို့ဖြင့် လေ့လာရပြန်၏။

(ခ) ထိုအာကာသာနဉ္စာယတန ပထမအရူပကုသိုလ်(သို့) ကြိယာစိတ်ဝိညာဏ်ကိုပင် **ဝိညာဏံ အနန္တံ၊ ဝိညာဏံ အနန္တံ၊ (ဝိညာဏံ=အာကာသာ နဉ္စာယတန စိတ်ဝိညာဏ်သည်၊ အနန္တံ=အဆုံးမရှိ)**ဟု အဖန်ဖန်ပွါးများလတ်သော် နှစ်ခုမြောက် ဝိညာနဉ္စာယတနအရူပစျာန်စိတ် ဖြစ်ပေါ်လာ၏။ (ဝသီဘော် ၅ မျိုးဖြင့် လေ့လာရပြန်၏)

(ဂ) ထိုအာကာသာနဉ္စာယတနစိတ်ဝိညာဏ်၏ တစိုးတစိမျှ မရှိတော့ခြင်းတည်းဟူသော နတ္ထိဘောပညတ်ကို အာရုံပြု၍၊ **နတ္ထိ ကိဉ္စိ၊ နတ္ထိ ကိဉ္စိ၊ (ကိဉ္စိ=စိုးစဉ်းမျှ, နည်းနည်းလေးမျှ၊ နတ္ထိ=ပထမအရူပစိတ်ဝိညာဏ် မရှိတော့ချေ)**ဟု အဖန်ဖန် ဆက်ပွါးများသော် သုံးခုမြောက် အာကိဉ္စညာယတနအရူပစျာန်စိတ်ဖြစ်လာ၏။ **(ဝသီဘော်–**
၅ မျိုးဖြင့် နိုင်နင်းအောင် လေ့လာရပြန်၏။)

(ဃ) ထိုအာကိဉ္စညာယတနကုသိုလ်(သို့) ကြိယာ စိတ်ဝိညာဏ်ကိုပင် အာရုံပြု၍ **သန္တမေတံ၊ ပဏီတမေတံ (တေံ=ဤငါရပြီးသော** အာကိဉ္စ ညာယတနအရူပစိတ်ဝိညာဏ်သည်၊ သန္တံ=ငြိမ်သက်၏ နူးညံ့၏၊ **တေံ= ––သည်၊ ပဏီတံ=မွန်မြတ်၏၊ သိမ်မွေ့၏)**ဟု အဖန်အဖန် ဆက်ပွါးလတ်သော် လေးခုမြောက် နေဝသညာနာ

သညာယတနအရူပစျာန် စိတ်ဖြစ်လာ၏။ (ဝသီဘော်- ၅ မျိုးဖြင့် နိုင်နင်းအောင် လေ့လာ ရပြန်၏။)

**အရူပစျာန် ၄-မျိုး အဆင့်ဆင့်တက်ရောက် ရရှိပုံ ပြီး၏။**

## အဘိညာဏ်

## (အဘိ = ထူးကဲသော၊ ဉာဏ = ဉာဏ်နှင့်ယှဉ်သောစျာန်စိတ်)

ရိုးရိုးစျာန်စိတ်ထက် ထူးကဲစွာသိသော အသိဉာဏ်စျာန်စိတ်ကို- အဘိညာဏ်စိတ်ဟု ခေါ်သည်။ အဘိညာဏ်တန်ခိုးရအောင် ရူပါဝစရပဉ္စမ စျာန်ကို အခြေခံ၍ အဓိဋ္ဌာန်ကာ အပြန်ပြန်အလှန်လှန် ပွါးများသဖြင့် အဘိညာဏ်တန်ခိုးကို ရအပ်၏။ (ထို့ကြောင့် ရူပါဝစရကုသိုလ်ပဉ္စမစျာန်စိတ် နှင့် + ရူပါဝစရကြိယာပဉ္စမစျာန်စိတ်=၂ ပါးကို အဘိညာဏ်ဒွေးဟုခေါ် သည်။

## အဘိညာဏ်– ၅ မျိုး

၁။ **ဣဒ္ဓိဝိဓအဘိညာဏ်** = တန်ခိုးအမျိုးမျိုး အလိုရှိသလို ဖန်ဆင်းနိုင်ခြင်း။

၂။ **ဒိဗ္ဗစက္ခုအဘိညာဏ်** = နတ်မျက်စိကဲ့သို့၊ အလွန်ဝေးကွာ၍၊ အလွန်သေးငယ်သော ဖုံးလွှမ်းနေသော အဆင်းတို့ကို မြင်နိုင်ခြင်း၊

၃။ **ဒိဗ္ဗသောတ အဘိညာဏ်** = နတ်နားကဲ့သို့၊ အလွန်ဝေး၊ အလွန်သိမ်မွေ့သော အသံများကို ကြားနိုင်ခြင်း၊

၄။ **စေတောပရိယ အဘိညာဏ်** = ရှေ့-၇ ရက်၊ နောက်-၇ ရက်ကာလပတ်လုံး၌ဖြစ်သော သူတစ်ပါးစိတ်ကို သိနိုင်ခြင်း၊

၅။ **ပုဗ္ဗေနိဝါသာနုဿတိ အဘိညာဏ်** = မိမိနှင့် သူတစ်ပါးတို့၏ ခန္ဓာအစဉ် အမည်မျိုးနွယ် ဖြစ်ရပ်အားလုံးကို သိမြင်နိုင်ခြင်း၊

၆။ **ယထာကမ္မူပဂ အဘိညာဏ်** = ကံအလျောက်-သုဂတိ+ဒုဂ္ဂတိဘုံတို့သို့ ရောက်သော သတ္တဝါတို့ကို သိနိုင်ခြင်း၊

၇။ **အနာဂတံသ အဘိညာဏ်** = မိမိနှင့် သူတပါးတို့၏ နောင်ဖြစ်မည့် အကြောင်းအရာတို့ကို သိနိုင်ခြင်း။

*ဆောင် - ဣဒ္ဓိဝိဓ၊ ဒိဗ္ဗနှစ်ထွေ၊ စေတောပရိ၊ ပုဗ္ဗေနိဝါ၊ ယထာကမ္မံ၊ နာဂတံသ၊ ဤသတ္တ၊ မှတ်ကြအဘိညာ။*

**အဘိညာဏ်- ၅ ပါးဟု ရေတွက်လျှင်**

ယထာကမ္မူပဂဉာဏ်နှင့် အနာဂတံသဉာဏ် ၂ ပါးသည်-ဒိဗ္ဗစက္ခု အဘိညာဏ်၌ အကျုံးဝင်သွားသဖြင့် အထက်- ၅ ပါးကိုသာ ရေတွက်ပါ။

*ဆောင် - ငါးဖြာဖြစ်က၊ ယနှင့်+အ-ကို၊ ဓ-၌သွင်းယူ။*

**အဘိညာဏ်- ၆ ပါးဟု ရေတွက်လျှင်**

၎င်း အထက်- ၅ ပါးတွင်- အာသဝက္ခယအဘိညာဏ်ကိုထည့်၍ ၆ ပါးဖြစ်သည်။

*ဆောင် - ခြောက်မူ-အာသဝက်၊ ထိုဝယ်စွက်၊ သုံးချက်နားလည်စေ။*

## အဘိညာဏ်ဈာန်စိတ်ဖြစ်အောင် ပွါးများပုံ

အဘိညာဏ်ဈာန်စိတ် တန်ခိုးရအောင် ပွါးလိုသော ယောဂီပုဂ္ဂိုလ်သည်-

၁။ ရူပါဝစရပဉ္စမဈာန်ကို အခြေခံအားဖြင့် နိုင်နင်းအောင် ပထမ ပွါးများရ၏။

၂။ ထိုရူပါဝစရပဉ္စမဈာန်ကို နိုင်နင်းပြီးသောအခါ မိမိရလိုသော အဘိညာဏ်ကို ရည်မှန်း၍ အဓိဋ္ဌာန်ရ၏။

ဥပမာ = (အဝေးမှအဆင်းကို မြင်နိုင်ရပါစေ၊ အဝေးမှအသံကို ကြားနိုင်ပါစေ၊ ရေပြင်သည် မြေပြင်အတိဖြစ်ပါစေ- စသည်ဖြင့် အဓိဋ္ဌာန်ရ၏)

၃။ ထိုသို့ အဓိဋ္ဌာန်ပြီးသောအခါ အခြေခံ ရူပါဝစရပဉ္စမဈာန်ကိုပင်၊ ကသိုဏ်းအနုလုံ၊ ပဋိလုံ (ကသိုဏ်းအားဖြင့် အပြန်ပြန်အလှန်လှန်)

စျာန်အနုလုံ၊ ပဋိလုံ(စျာန်အားဖြင့် အပြန်ပြန်အလှန်လှန်)စသည်ဖြင့် ၁၄- မျိုးသောနည်းတို့ဖြင့် အကြိမ်ကြိမ်နိုင်နင်းအောင် ပွါးများသော အခါ စျာနသိဒ္ဓိ=စျာန်တစ်မျိုးပေါက်ကာ ရူပါဝစရကုသိုလ်(သို့) ရူပါဝစရ ကြိယာပဥ္စမစျာန်တွင် အဘိညာဏ်စိတ်တစ်မျိုးမျိုးဖြစ်ပေါ်လာ၏ (စတုက္ကနည်းအားဖြင့် ရူပါဝစရကုသိုလ်(သို့) ကြိယာစတုတ္ထစျာန်တွင် အဘိညာဏ်စိတ်တစ်မျိုးမျိုး ဖြစ်ပေါ်လာ၏)၊ ထိုအခါ မြင်လိုကြား လိုသမျှမြင်နိုင်ကြားနိုင်ပြီး မြေလျှိုး၊ မိုးပျံ၊ အဓိဋ္ဌာန်သည့်အတိုင်း ဖြစ်တော့၏။

ဝီထိပုံစံ – ဘဝင်–ဘဝင်–ဘဝင်–န+ဒ+မ–ပ+ဥ+နု+ဂေါ+အဘိညာဏ်ဇော–ဘဝင် –ဘဝင်–

**ဆောင် – ပါဒကစျာန်၊ အဓိဋ္ဌာန်နှင့်၊ တစ်ဖန်ပါဒက၊ ပဉ္စမ၊ ကျတုံအဘိညာ။**

(မှတ်ချက်) မန္ဒပညာ = ဉာဏ်နုံ့သူအတွက် စျာန်- ၅ မျိုးဖြစ်သည်။
တိက္ခပညာ = ဉာဏ်ထက်သူအတွက် ဝိတက်+ဝိစာရ- ၂ပါး ကို တစ်ပြိုင်တည်းပယ်နိုင်–လွန်နိုင်သဖြင့် စျာန်–၄ မျိုးသာဖြစ်သည်။

ထို့ကြောင့်–မန္ဒပုဂ္ဂိုလ်အတွက် ရူပါဝစရနောက်ဆုံးစျာန်သည် ပဥ္စမစျာန်ဖြစ်ပြီး တိက္ခပုဂ္ဂိုလ်အတွက် ရူပါဝစရနောက်ဆုံးစျာန်သည် စတုတ္ထ စျာန်ဖြစ်သည်။

**သမထကမ္မဋ္ဌာန်း အပိုင်းပြီး၏။**

*****

# ဝိပဿနာကမ္မဋ္ဌာန်းနည်း

(အနိစ္စ+ဒုက္ခ+အနတ္တ၊ စသည်ဖြင့် ရှုပွါးကာ မဂ်ဖိုလ်ရအောင် အားထုတ်သောလုပ်ငန်း)

## ဝိသုဒ္ဓိ–၇–ပါး (အထူးစင်ကြယ်မှု ၇–မျိုး)

၁။ **သီလ ဝိသုဒ္ဓိ** (သီလ အထူးစင်ကြယ်ခြင်း)

၂။ **စိတ္တ ဝိသုဒ္ဓိ** (စိတ်တည်ကြည်သဖြင့် စိတ်အထူး စင်ကြယ်ခြင်း)

၃။ **ဒိဋ္ဌိ ဝိသုဒ္ဓိ** (အတ္တမှုကင်းစင်၍၊ လက္ခဏ+ရသ+ပစ္စုပဋ္ဌာန်+ပဒဋ္ဌာန်–အားဖြင့် နာမ်ရုပ်တို့ကို သိမ်းဆည်းထားနိုင်သဖြင့် အယူ၏စင်ကြယ်ခြင်း။)

၄။ **ကင်္ခါ ဝိတရဏ ဝိသုဒ္ဓိ** (ကင်္ခါ=ယုံမှားမှု–၁၆ မျိုး၊ ဝိစိကိစ္ဆာ=မဆုံးဖြတ်နိုင်မှု–၈ မျိုးတို့မှ စင်ကြယ်ခြင်း။)

၅။ **မဂ္ဂါမဂ္ဂ ဉာဏဒဿန ဝိသုဒ္ဓိ**=မဂ်ဟုတ်သည်၊ မဟုတ်သည် သိမြင်၍ အထူးစင်ကြယ်ခြင်း။

၆။ **ပဋိပဒါ ဉာဏဒဿန ဝိသုဒ္ဓိ**=ဥဒယဗ္ဗယဉာဏ်မှ အနုလောမဉာဏ်တိုင်အောင်သော ဉာဏ်တို့ဖြင့် အဆင့်ဆင့် ပွါးများအားထုတ်သဖြင့် အကျင့်မှန်၍ ဉာဏ်အမြင် စင်ကြယ်ခြင်း။

၇။ **ဉာဏ ဒဿန ဝိသုဒ္ဓိ**=မဂ်လေးပါးကို ရသဖြင့် ဉာဏ်အမြင်၏ အထူးစင်ကြယ်ခြင်း။

## ၁။ သီလဝိသုဒ္ဓိ (သီလ အထူးစင်ကြယ်ခြင်း)

**သီလလေးမျိုး**

(က) **ပါတိမောက္ခ သံဝရသီလ** = ရဟန်း ယောက်ျား၊ ရဟန်းမိန်းမတို့အတွက် ပညတ်အပ်သော ၂၂၇–သွယ်သော ဝိနည်းသိက္ခာပုဒ်များကို သဒ္ဓါတရားဖြင့် စောင့်ထိန်းခြင်း။

(ခ) **အာဇီဝ ပါရိသုဒ္ဓိသီလ** = အသက်မွေးမှု စင်ကြယ်ခြင်းသီလ။
လူပုဂ္ဂိုလ်များ သမ္မာအာဇီဝဖြင့်
အသက်မွေးခြင်း၊ ရဟန်းများ သစ် သီးပေးခြင်း၊ ပန်းပေးခြင်း၊ ဆေးကု ခြင်း စသည်ဖြင့် ဒကာ/ဒကာမများ လျှချင်အောင် ပြု၍ရသော မအပ် စပ်သောပစ္စည်းဖြင့် အသက်မမွေးရ၊ ဘုရားရှင်၏နည်းအတိုင်း ဆွမ်းခံခြင်း စသည်ဖြင့် ဝီရိယအားထုတ်၍ စင်ကြယ်စွာ အသက်မွေးရမည်။

(ဂ) **ပစ္စယ သန္နိဿိတသီလ** = ပစ္စည်းကို မှီ၍ဖြစ်သော သီလ။
(တရားသဖြင့် စင်ကြယ်စွာရလာသော
ဆွမ်း+သင်္ကန်း+ကျောင်း+ဆေး =ပစ္စည်း- ၄ပါးကို မေ့မေ့လျော့လျော့ မသုံးဆောင်ရ၊ ပညာဖြင့် ပစ္စဝေက္ခဏာတင်၍ (ဆင်ခြင်၍) သုံးဆောင်ရ မည်။)

(ဃ) **ဣန္ဒြိယ သံဝရသီလ** = မျက်စိ+နား+နှာ+လျှာ+ကိုယ်+စိတ်၊
တံခါးပေါက်တို့ကို အကုသိုလ် မဖြစ်
ရအောင် စောင့်ထိန်းရမည်၊ အကုသိုလ်ဖြစ်စေနိုင်မည့် အဆင်း+အသံ+ အနံ့+ အရသာ+ အတွေ့အထိ+ တွေးခေါ်ကြံစည် စဉ်းစားခြင်းတို့ကို မကြည့်မိ+မကြားမိ+မနံမိ+မစားမိ+မစဉ်းစားမိအောင် မိမိကိုယ်ကို သတိ တရားဖြင့် စောင့်ရှောက်ရမည်။

ဤလေးမျိုးကို စောင့်ထိန်းခြင်းသည် သီလဝိသုဒ္ဓိ (သီလအထူး စင်ကြယ်မှု)မည်၏။

**ဆောင် - ပါတိမောက္ခ၊ သံဝရနှင့်၊ ဇီဝပါရိ၊ သုဒ္ဓိတစ်လှစ်၊**
**ပစ္စယသန်၊ နိဿိတ်တည့်၊ ခြောက်တန်ဣန္ဒြေ၊**
**လုံခြုံစေမှု၊ သုဒ္ဓိစု၊ စတုလေးလီဖြာ။**

၂။ **စိတ္တဝိသုဒ္ဓိ** (စိတ်စင်ကြယ်မှုဟူသည်)

**ဥပစာရ သမာဓိစိတ်**(ဈာန်ရကာနီး တည်ကြည်သောစိတ်=ဥပစာရ
သမာဓိဇော-၈ ခု)

**အပ္ပနာ သမာဓိစိတ်** (စျာန်ရပြီး၍ စျာန်ဖြင့် တည်ကြည်နေသော
စိတ်=မဟဂ္ဂုတ်ဇော ၁၈-ခု)

ထိုဥပစာရ သမာဓိစိတ်နှင့် အပ္ပနာသမာဓိစိတ်များ ဖြစ်နေခြင်းကို စိတ္တဝိသုဒ္ဓိ ဟုခေါ်သည်။

၃။ ဒိဋ္ဌိဝိသုဒ္ဓိ - ရုပ်နာမ်တစ်မျိုးစီကို - လက္ခဏာ+ရသ+ပစ္စုပဋ္ဌာန်+ပဒဋ္ဌာန်အားဖြင့်- နှလုံးသွင်းဆင်ခြင်နိုင်ခြင်းသည် ဒိဋ္ဌိဝိသုဒ္ဓိမည်၏။ ရုပ်နာမ်တရားတို့ကို အမှန်အတိုင်းခွဲခွဲခြမ်းခြမ်းရှုမြင်နိုင်မှ ပုဂ္ဂိုလ်+သတ္တဝါ+ငါ+သူတစ်ပါး+ယောကျ်ား+မိန်းမ+အတ္တ-ဟူသောအမြင်မှားများပျောက်မည်၊ ထိုအမြင်မှားများပျောက်အောင် ရုပ်+နာမ်တရားတို့၏ ကိုယ်ပိုင်လက္ခဏာစသည်တို့ကို အသီးသီး ရှုပွားခြင်းဖြင့် အမြင်မှန်ရအောင်ပြုရ၏။

**ပွါးများပုံမှာ–**

ဤရုပ်ခန္ဓာကိုယ်ကြီးသည် ဖေါက်ပြန်သောလက္ခဏာရှိ၏။

စိတ်သည် အာရုံကိုသိခြင်း လက္ခဏာရှိ၏။

ဝေဒနာသည် ခံစားခြင်း လက္ခဏာရှိ၏။

သညာသည် မှတ်သားခြင်း လက္ခဏာရှိ၏-

ကြွင်းသောရုပ်တရားနာမ်တရား အသီးသီးတို့လည်း သူ့ဆိုင်ရာဆိုင်ရာလက္ခဏာ အသီးသီးရှိကြ၏-ဤသို့ အစိတ်စိတ်အားဖြင့် ဆင်ခြင်လိုက်သည်ရှိသော်–သြော်–"ရုပ်နာမ်တို့ဟာ အသီးသီး သူ့ကိုယ်ပိုင်လက္ခဏာနှင့်သူ၊ သူ့ကိစ္စသူ ဆောင်ရွက်နေကြတာပါလား၊ သူ့ဆိုင်ရာကိစ္စ သူဆောင်ရွက်ပြီးတော့ ရုပ်နာမ်အစုကြီး ဖြစ်နေတာပါလား၊ ငါ+သူတပါး+ယောကျ်ား+မိန်းမ+ပုဂ္ဂိုလ်+သတ္တဝါတို့ဟာ အမြင်မှားနဲ့ ခွဲခေါ်နေကြတာပဲ၊ တကယ်တော့ ရုပ်နာမ်အစုတို့ ဖြစ်ပျက်နေတာဖြစ်လို့ ဘာမှမမြဲပါလား၊ ဘာမှအစိုးမရပါလား။ အစိုးရသည့်အတ္တမဟုတ်၊ အနတ္တပါလား"ဟု အမှန်အတိုင်း မြင်ခြင်းသည် ဒိဋ္ဌိဝိသုဒ္ဓိ(အမြင်စင်ကြယ်မှု)ဖြစ်သည်။

ဤကား လက္ခဏာအားဖြင့်သာ နှလုံးသွင်းပုံကို နားလည်လွယ်အောင် ပြခြင်းဖြစ်သည်။

စိတ်-ဟူသော နာမ်တရားလေးတစ်ခုသည်။

(၁) အာရုံကို သိခြင်းဟူသော ကိုယ်ပိုင်လက္ခဏာရှိ၏။ **(အာရမ္မဏ ဝိဇာနန လက္ခဏာစိတ္တံ)**

(၂) **ပုဗ္ဗင်္ဂမရသံ** = အရာရာတိုင်း၏ ရှေ့သွားခေါင်းဆောင် ကိစ္စရသလည်း ရှိ၏။ (နေရာတကာ စိတ်ကအရင်ဖြစ်ပြီးမှ ကာယကံ+ဝစီကံတို့ဖြစ်ရ၏)

(၃) **သန္ဓါနပစ္စုပဋ္ဌာနံ**=နောက်နောက်စိတ်များ ဖြစ်ပေါ်အောင် ဆက်စပ်ပေးတတ်သည့်ပစ္စုပဋ္ဌာန်ခေါ်=အကျိုးတရားလည်းရှိ၏၊ ဆက်စပ်ပေးသည်ဟု ဉာဏ်၌ ထင်လာခြင်းသည် ပစ္စုပဋ္ဌာန် မည်၏။ (အနန္တရ၊ သမနန္တရသတ္တိတို့ဖြင့် ကျေးဇူးပြုပုံကို ကြည့်ပါ)

(၄) **နာမရူပ ပဒဋ္ဌာနံ**=နာမ်ရုပ်လျှင် နီးသောအကြောင်း(ပဒဋ္ဌာန်)ရှိ၏။ စိတ်တစ်ခုဖြစ်လာဘို့ ယှဉ်ဘက်စေတသိက် နာမ်တရား+ရုပ်တရားတို့ မရှိလျှင်မဖြစ်နိုင်ပေ၊ ထို့ကြောင့် နာမ်+ရုပ်တရားတို့သည် စိတ်၏ နီးသောအကြောင်း ပဒဋ္ဌာန်ဖြစ်သည်။

**ဒေါသ**-ဟူသော စေတသိက်နာမ်တရားလေးတစ်ခုသည်-

(၁) **ခဏ္ဍိက္က လက္ခဏော** = ကြမ်းတမ်းသောစိတ်၏ ဖြစ်ကြောင်းလျှင် ကိုယ်ပိုင်လက္ခဏာရှိ၏။ (ဒေါသဖြစ်လျှင် ကိုယ်ရော စိတ်ပါ ကြမ်းတမ်းလာ၏။)

(၂) **နိဿ ယ ဒါဟ ရသဏော** မိမိမှီရာ-စိတ်+သတ္တဝါကို (မိမိနှင့် ယှဉ်ဖက် ရုပ်နာမ်တို့ကို ပြင်းစွာလောင်ကျွမ်းခြင်းကိစ္စ ရသရှိ၏။

(ဒေါသဖြစ်လာသောအခါ မိမိ၏ ကိုယ်စိတ်တို့ ပူလောင်၏။ မိမိပတ်ဝန်းကျင် ဆိုင်ရာပုဂ္ဂိုလ်တို့ကိုလည်း ပူလောင်စေ၊ စိတ်မချမ်းမသာ ဖြစ်စေ၏။)

(၃) **ဒုဿန ပစ္စုပဋ္ဌာနော** = ကိုယ်+စိတ် ၂-ပါး ပျက်စီးခြင်းသည် အကျိုးတရား ဖြစ်သည်၊ ကိုယ်+စိတ် ၂-ပါးကို ဖျက်စီးတတ်သော တရားဟု ဉာဏ်၌ ထင်လာခြင်းသည် ပစ္စုပဋ္ဌာန် မည်၏။

(၄) **အာယာတဝတ္ထု ပဒဋ္ဌာနော**=(၁)မိမိစီးပွါးမဲ့ (၂) မိမိချစ်သူ၏ စီးပွါးမဲ့ (၃) မိမိမုန်းသူ၏ စီးပွါး၊ ၎င်းသုံးမျိုးဆောင်ရွက်သူ သုံးဦးကို (က)ရှေးကလဲပြုပြီး (ခ)ယခုလဲပြုဆဲ (ဂ)နောင်လဲပြုလတ္တံ့ဟူသော ကာလ (၃)ပါးနှင့် မြှောက်-အာဃာတဝတ္ထု ၉-ပါး+အဋ္ဌာနကောပ ၁-ပါး၊ ပေါင်း ၁၀-ပါးသည်၊ ဒေါသဖြစ်ဖို့ နီးစွာသောအကြောင်း ပဒဋ္ဌာန်ဖြစ်သည်။ (အဋ္ဌာနကောပ=မိုးကလဲ ရွာလိုက်တာ+နေကလဲပူလိုက်တာဟု အရာ မဟုတ်သည်၌ မကျေမနပ်ဖြစ်နေခြင်း။)

**ပထဝီဓာတ်**-ဟူသော ရုပ်တရားလေးတစ်ခုသည်-

(၁) **ကက္ခဠ လက္ခဏာ** = ခက်မာမှုဟူသော ကိုယ်ပိုင်လက္ခဏာရှိ၏။

(၂) **ပတိဋ္ဌာန ရသာ**= တကွဖြစ်ဖက်ရုပ်တရားတို့၏ တည်ရာ ကိစ္စရသ ရှိ၏။ (ပကတိမြေကြီးသည် သစ်ပင်စသည်တို့၏ တည်ရာဖြစ် သကဲ့သို့၊ ပထဝီဓာတ်သည် သဟဇာတ်=အတူ ဖြစ်ဖက် ရုပ်တရားတို့၏ တည်ရာဖြစ်သည်။

(၃) **သမ္ပဋိစ္ဆန ပစ္စုပဋ္ဌာနာ** = သဟဇာတ =တကွဖြစ်ဖက် ရုပ်တရား တို့ကို လျောကျမသွားရအောင် ခံထားသကဲ့သို့ ဖြစ်ပါလား-ဟု ဉာဏ်၌ ထင်လာခြင်းသည် ပစ္စုပဋ္ဌာန် မည်၏။

(၄) **သေသဘူတ ပဒဋ္ဌာနာ** ကြွင်းသော-တေဇော+ဝါယော+ အာပေါ ဟူသော မဟာဘုတ်သုံးပါးလျှင် ပထဝီဓာတ်ဖြစ်ဖို့ နီးသောအကြောင်း ပဒဋ္ဌာန်ဖြစ်သည်။ (ထိုသုံးပါး မပါလျှင်လည်း ပထဝီဓာတ်မတည်နိုင်)

ဤသို့လျှင် စိတ်ကိုလည်းကောင်း၊ စေတသိက်အသီးသီးကိုလည်း ကောင်း လက္ခဏာစသော-၄ ချက်တို့ဖြင့် သိမ်းဆည်း နှလုံးသွင်းသွား နိုင်လျှင်၊ **ပုဂ္ဂိုလ်+သတ္တဝါ+ငါ+သူတစ်ပါး+ယောကျ်ား+မိန်းမ+ ဇီဝ=အတ္တ လိပ်ပြာ၊ အတ္တ=အစိုးရခြင်းတို့ ပျောက်ကင်း၍ ရုပ်+နာမ်တို့၏ သဘောကို အမှန်အတိုင်း** မြင်ခြင်း-ဒိဋ္ဌိဝိသုဒ္ဓိ (အမြင် အယူအဆ စင်ကြယ်ခြင်း) ဖြစ်တော့သည်။

**လက္ခဏာစသည်တို့၏ အစီပွါယ်**

၁။ အများနှင့် မဆက်ဆံသော ကိုယ်ပိုင်သီးခြားသဘောသည် လက္ခဏာမည်၏။

၂။ (က) ဆိုင်ရာရုပ်+နာမ် ပရမတ်တို့၏ ဆောင်ရွက်မှုကိစ္စသည်လည်းကောင်း။

(ခ) သမ္ပတ္တိ=ပြီးပြည့်စုံစေမှုသဘောသည်လည်းကောင်း ထို-၂ မျိုးသည် ရသမည်၏။

၃။ ဆင်ခြင်ဖန် များသဖြင့် ဆိုင်ရာပရမတ်တရားတို့၏ လက္ခဏာ(သို့)ကိစ္စရသ(သို့)အကျိုး(သို့)အကြောင်း တစ်ခုခု ဉာဏ်၌ထင်ရှားလာခြင်းသည် ပစ္စုပဋ္ဌာန်မည်၏။

၄။ ထိုပရမတ်တရားတို့၏ အနီးကပ်ဆုံးသော အကြောင်းသည် ပဒဋ္ဌာန်မည်၏။

**ဆောင် – လက္ခဏာနှင့်၊ ရသ–၂ ခု၊ ပစ္စုပဋ္ဌာန်၊ ပဒဋ္ဌာန်၊**
**သိမ်းရန်နာမ်နှင့်ရုပ်။**
**= လေးချက်ပိုင်ပိုင်၊ ပိုင်းခြားနိုင်က၊ သတ္တ+ဇီဝ၊**
**အတ္တအယူ၊ ကင်းစင်ဖြူ၊ မှတ်ယူဒိဋ္ဌိဝိသုဒ္ဓိ။**

၄။**ကင်္ခါ ဝိတရဏ ဝိသုဒ္ဓိ** (နာမ်ရုပ်တို့ဖြစ်လာပုံ အကြောင်းကို ပိုင်းခြားသိသဖြင့် ယုံမှားကင်း၍ စင်ကြယ်ခြင်း)

[**ကင်္ခါ**=ငါ အတိတ်ကဖြစ်ခဲ့တာ ဟုတ်မှဟုတ်ရဲ့လားဟူသော ယုံမှားခြင်းကင်္ခါ ၁၆–မျိုးနှင့် အလုံးစုံသိတဲ့ ဘုရားဆိုတာ ဟုတ်မှဟုတ်ရဲ့လားဟူသော မဆုံးဖြတ်နိုင်ခြင်း ဝိစိကိစ္ဆာ–၈ မျိုးတို့မှ။ **ဝိတရဏ**=လွန်မြောက်သဖြင့်။ **ဝိသုဒ္ဓိ**=စင်ကြယ်သောဉာဏ်။]

ရုပ်ခန္ဓာအစဉ်+နာမ်ခန္ဓာအစဉ်တို့ ဖြစ်ပေါ်လာပုံအကြောင်းကို ပိုင်းခြားသိမြင်မှ– ကင်္ခါဝိတရဏဝိသုဒ္ဓိ သို့ရောက်မည်။ ရုပ်+နာမ် အကြောင်းကိုရှာရာ၌ ရုပ်ဖြစ်လာပုံက ပိုထင်ရှား၍ ရုပ်ဖြစ်လာပုံကို အရင်ပြဆိုအံ့။

(ပဋိသန္ဓေစဖြစ်ပုံ၊ အသေးစိတ်ကို ရုပ်ပိုင်း၌ ပြခဲ့ပြီ)

**ရုပ်ခန္ဓာကိုယ် စဖြစ်လာပုံ (ပဋိသန္ဓေတည်နေရပုံနှင့် ရုပ်ဖြစ်ကြောင်းတရားများ)**

**တသစ်+တကျက်၊ အောက်ထက်ဝန်းရံ၊ ပုပ်နံ့ညှီလှောင်း၊ ကျဉ်းမြောင်းမဲမိုက်၊ မိဝမ်းတိုက်ဝယ်၊ ဘင်၌လောက်လို၊ ကျောက်ကိုဝမ်းပြု၊ ဒူးနှစ်ခုကြား၊ ဦးခေါင်းထားလျက်၊ မေးကြားလက်ဆုပ်၊ သစ်ခွတိုမှာ၊ မျောက်အိုကုပ်သည့်နှယ်၊ မလှုပ်မယှက်၊ သေသောက်လက်ဝယ် ဆိတ်သူ ယယ်လို၊ အလမ္ဗာယ်မိ၊ မြွေငယ်ချီသို့၊ အမိစပ်+ခါ၊ ပူအေးစားလည်း၊ ကိုယ်သားဆတ်ဆတ်၊ သက်ပြတ်တစေ၊ တည်နေဆယ်လ၊ ဤကာယ၏။**

**ဖြစ်ရကြောင်းလျာ၊ အဝိဇ္ဇာနှင့်၊ တဏှာ+ဥပါဒါန်၊ ကံ+အာဟာရ၊ ပဉ္စကသည်၊ ရူပဟေတုပစ္စည်းတည်း။**

**(မဟာဝိသုဒ္ဓါရုံလင်္ကာ)**

ယခုဘဝ– ဤခန္ဓာကိုယ်ကြီး ဖြစ်လာရသည်မှာ၊ အဝိဇ္ဇာ(ရုပ်နာမ်အဖြစ်ကိုမသိမှု) တဏှာ(ရုပ်နာမ်ခန္ဓာအပေါ် တပ်နှစ်သက်မှု)၊ ဥပါဒါန်(ရုပ်နာမ်ခန္ဓာအပေါ် စွဲလမ်းမှု)၊ ကံ (ကုသိုလ်ကံ+အကုသိုလ်ကံ)၊ အာဟာရ(ရုပ်နာမ်ခန္ဓာဖြစ်ပေါ်အောင် ကျေးဇူးပြုတတ်သည့် ရုပ်အာဟာရ+နာမ်အာဟာရ)တို့ကြောင့် အမိဝမ်း၌ ပဋိသန္ဓေနေကာ တဖြည်းဖြည်း ကြီးထွားလာရ၏။ မည်သည့် ထာဝရဘုရား၊ ဗြဟ္မာ၊ ဗိဿနိုးတို့မှ ဖန်ဆင်း၍ မဟုတ်၊ အထက်ပါအကြောင်းတရား–၅ ပါးကြောင့်သာ ဖြစ်လာရသည်–ဟု ရုပ်တရားဖြစ်ပွါးလာပုံ အကြောင်းမှန်ကို သိမ်းဆည်းဆင်ခြင်သိရှိရမည်။

## နာမ်တရားအစဉ် ဖြစ်ပေါ်လာပုံကို သိမ်းဆည်းဆင်ခြင်သိရှိပုံ

ဝီထိပိုင်း၌ပြခဲ့သည့်အတိုင်း စက္ခုဒွါရဝီထိ(မျက်စိတံခါးမှ ဝင်လာသော အာရုံတို့ကြောင့် စိတ်(နာမ်တရားအစဉ်)ဖြစ်ဖို့ရန် ၁။စက္ခုဒွါရ ၂။ ရူပါရုံ ၃။ အာလောက ၄။ မနသိကာရ(စက္ခု+လောက၊ ရူပထင်ပြီ၊ မနသိ၊ လေးလီစက္ခုဘို့) ဆိုသည့်အတိုင်း ဤလေးပါးတို့ စုံသောအခါ စက္ခုဒွါရဝီထိစိတ် (အတီတဘဝင် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ပဉ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဏ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇော၊ တဒါရုံစသော နာမ်တရားအစဉ်များ)ဖြစ်ပေါ်လာသည်။ ထို့အတူ–သောတဒွါရဝီထိစိတ် (နာမ်တရားအစဉ်များ) ဖြစ်ပေါ်လာပုံကို ဝီထိပိုင်းအရ သိနိုင်ပြီ။

ဤသို့ ရုပ်+နာမ်ဖြစ်ပေါ်လာပုံ အကြောင်းမှန်ကို သိမ်းဆည်း သိမြင်နိုင်သောဉာဏ်ကို ပစ္စယပရိဂ္ဂဟဉာဏ်ဟုခေါ်သည်။ ထိုဉာဏ်ဖြစ်ပေါ်လာသောအခါ ပုဂ္ဂိုလ်+သတ္တဝါ+အတ္တ+လိပ်ပြာ-ဟု နာမ်ရုပ်အပေါ်၌ ယုံမှားတတ်သော ယုံမှားခြင်းကင်္ခါ-၁၆ ပါး ဝိစိကိစ္ဆာ-၈ ပါးတို့ ကင်းရှင်း၍ ဉာဏ်အမြင်စင်ကြယ်သော ကင်္ခါဝိတရဏဝိသုဒ္ဓိသို့ ရောက်တော့သည်။

(ပစ္စယ= နာမ်ရုပ်တို့၏ ဖြစ်ကြောင်းအမှန်ကို၊ ပရိဂ္ဂဟ=သိမ်းဆည်း သိမြင်နိုင်သောဉာဏ်)

**ဆောင်- နာမရူပ၊ သင်္ခါရ၏၊ ပဋိစ္စခေါ်တ်၊ သမုပ္ပါဒ်ကို၊ အတတ် ထင်ထင်၊ ပိုင်ပိုင်မြင်က၊ ကင်္ခါယုံမှား၊ ဆယ့်ခြောက် ပါးနှင့် ရှစ်ပါးဝိစိ၊ ဒိဋ္ဌိဖြာဖြာ၊ ကင်းစင်ကွာ၊ ကင်္ခါ ဝိတရဏဝိသုဒ္ဓိ။**

## ယုံမှားခြင်း—ကင်္ခါ—၁၆ မျိုး

**အတိတ်ကာလ၌ ယုံမှားခြင်း ၅—ပါး**

၁။ အတ္တ+လိပ်ပြာငါသည် အတိတ်အခါ၌ ဖြစ်ဖူးလေပြီလော။
၂။ (သို့မဟုတ်) မဖြစ်ဖူးလေပြီလော။ (မဖြစ်ဖူးဘူးထင်ပါရဲ့)၊
၃။ အတိတ်က အဘယ်သို့သောသူ ဖြစ်ဖူးလေသနည်း(မင်းလား၊ ပုဏ္ဏား လားစသည်)
၄။ အတိတ်က အဘယ်သို့သောပုံသဏ္ဌာန် ဖြစ်ဖူးလေသနည်း၊ (တို+ရှည်+ ပိန်+ဝ စသည်)
၅။ အတိတ်က ဘယ်လိုပုဂ္ဂိုလ်ဖြစ်ပြီး၊ ဘယ်လိုပုဂ္ဂိုလ်ဖြစ်ခဲ့ပါသနည်း။ (မင်းဖြစ်ပြီး ပုဏ္ဏားဆက်ဖြစ်သလား၊ သူကြွယ်ဆက်ဖြစ်သလား စသည် အဆက်ဆက်ဖြစ်ပုံကို ယုံမှားသည်)

**အနာဂတ်၌ယုံမှားမှု—၅ မျိုး**

၁။ အတ္တလိပ်ပြာငါသည် အနာဂတ်၌ ဖြစ်ဦးမှာလား၊ (သဿတဒိဋ္ဌိ)
၂။ မဖြစ်ပဲ၊ ပြတ်စဲတော့မှာလား၊ (ဥစ္ဆေဒဒိဋ္ဌိ)
၃။ ဘယ်လိုပုဂ္ဂိုလ် ဖြစ်ဦးမှာလဲ၊ (မင်းလား၊ ပုဏ္ဏားလား)

၄။ ဘယ်လိုပုံသဏ္ဍာန် ဖြစ်ဦးမှာလဲ (တို+ရှည်+ဝိန်+ဝ)
၅။ ဘယ်လိုပုဂ္ဂိုလ် ဖြစ်ပြီး၊ ဘယ်လိုပုဂ္ဂိုလ် ဆက်ဖြစ်ဦးမှာလဲ။
(မင်းပြီး-ပုဏ္ဏား-ပြီးတော့နတ်လား စသည်)

ပစ္စုပ္ပန်၌ ယုံမှားမှု ၆-မျိုး
၁။ ငါ-ဟုတ်မှဟုတ်ရဲ့လား။ ၂။ မဟုတ်ပဲများ ဖြစ်နေသလား။ ၃။ ငါ- ဘယ်လို ပုဂ္ဂိုလ်ပါလိမ့်။ ၄။ ငါ-ဘယ်လိုပုံသဏ္ဍာန်ပါလိမ့်။ ၅။ ငါ-ဘယ်ဘဝ ကလာသလဲ။ ၆။ ဒီဘဝပြီးတော့ ဘယ်ဘဝရောက်မှာလဲ။

(ဤ ၁၆-မျိုး ဖြစ်နေရခြင်းမှာ ရုပ်+နာမ်ဖြစ်ပုံ အကြောင်းမှန်ကို မသိ၍ ငါ+သူတစ်ပါး+ယောက်ျား+မိန်းမ+မင်း+ပုဏ္ဏားစသည့် ပညတ်ကိုစွဲနေခြင်းဖြစ်သည်။ ရုပ်+နာမ်ဖြစ်ပုံကို သိလာသောအခါ ပညတ်စွဲပျောက်ပြီး ကခါ-၁၆ မျိုးလည်း မဖြစ်တော့ပေ။

ဝိစိကိစ္ဆာ-၈ ပါး
၁။ ဘုရား၌ မဆုံးဖြတ်နိုင်ခြင်း။
၂။ တရား၌ မဆုံးဖြတ်နိုင်ခြင်း။
၃။ သံဃာ၌ မဆုံးဖြတ်နိုင်ခြင်း။
၄။ သီလ+သမာဓိ+ပညာ+သိက္ခာသုံးပါး၌ မဆုံးဖြတ်နိုင်ခြင်း။
၅။ သံသရာရှေ့ပိုင်း(အတိတ်သံသရာ)ရှိသည်ဟု မဆုံးဖြတ်နိုင်ခြင်း။
၆။ သံသရာနောက်ပိုင်း(အနာဂတ်သံသရာ)ရှိသည်ဟု မဆုံးဖြတ်နိုင်ခြင်း။
၇။ (၅+၆)-၂ မျိုးလုံး၌ မဆုံးဖြတ်နိုင်ခြင်း။
၈။ ပဋိစ္စသမုပ္ပါဒ်တရားတို့၌ မဆုံးဖြတ်နိုင်ခြင်း။

နာမ်ရုပ်ဖြစ်ပုံကို ပိုင်နိုင်စွာသိသွားသောအခါ ဤဝိစိကိစ္ဆာ-၈ မျိုး လည်း မဖြစ်တော့ပေ။

ကခါဝိတရဏဝိသုဒ္ဓိသည်=ပစ္စယပရိဂ္ဂဟဉာဏ်ပင် ဖြစ်သည်။
(ဝိပဿနာဉာဏ်စဉ်ကား မဟုတ်သေး)

ပစ္စယ=နာမ်ရုပ်ဖြစ်ကြောင်းကို၊ ပရိဂ္ဂဟ=သိမ်းဆည်းဆင်ခြင် သိရှိနိုင်သော ဉာဏ်

၅။ မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ=မဂ်-ဟုတ်+မဟုတ်၊ ဉာဏ်ဖြင့်မြင်၍ စင်ကြယ်ခြင်း)

ပြီးခဲ့သောဝိသုဒ္ဓိ-၄ ပါးသည် ဝိပဿနာဉာဏ်စဉ်များနှင့် မသက်ဆိုင်သေးပေ၊ (သီ+စိတ်+ဒိဋ်+ကင်၊ ဤလေးအင်၊ ဉာဏ်စဉ်မဆိုင်သင့်။) မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိအဆင့်သို့ရောက်မှ ဝိပဿနာဉာဏ်စဉ်များ အဆင့်ဆင့် တက်လာသည်။

ဝိပဿ နာဉာဏ်စဉ် ၁၀–ပါး (အဆုံးရှာဘတ်သော အသိဉာဏ်အမြင် ၁၀–ပါး)

| | |
|---|---|
| **သမ္မသနဉာဏ်** | ခန္ဓာဒိနည်း၊ ဖွဲ့စည်းပြီးခါ၊ သုံးဖြာလက္ခဏာ၊ သုံးသပ်ရ၊ သမ္မသနဉာဏ် |
| **ဥဒယဗ္ဗယဉာဏ်** | ဖြစ်ပွား+ပျက်မှု၊ အစုံရှု၊ ဥဒယဗ္ဗယဉာဏ် |
| **ဘင်္ဂဉာဏ်** | အပျက်ကိုသာ၊ ရှုတုံပါ၊ သညာဘင်္ဂဉာဏ် |
| **ဘယဉာဏ်** | အပျက်မြင်က၊ ဘယမစ္စု၊ ပျက်မှုခပင်း၊ ဘေးသေမင်းဟု၊ ကြောက်ခင်းထွေထွေ၊ ရှုတုံပေ၊ မှတ်လေ ဘယဉာဏ်။ |
| **အာဒီနဝဉာဏ်** | ကြောက်ဖွယ်ခပင်း၊ မြင်တုံလျှင်းက၊ ဘေး ဘယမျိုး၊ ရုပ်နာမ်ဆိုး၌ ကိုးရာမရှိ၊ ခက်မှန်းသိ၊ အာဒီနဝဉာဏ်။ |
| **နိဗ္ဗိဒါဉာဏ်** | ကိုးရာမထင်၊ ခက်ပုံမြင်က၊ မရွှင်မလန်း၊ စိတ်ကုန်ခန်း၍၊ မချမ်းမမြေ့ ငြီးငွေ့သောထွေ၊ စိတ်အနေ၊ မှတ်လေနိဗ္ဗိဒါဉာဏ်။ |
| **မုစ္စိတုကမျတာဉာဏ်** | ငြီးငွေ့အားသန်၊ စိတ်ပူပန်က၊ လျှင်မြန်တစ်၊ လွတ်လိုဘိ၊ မုစ္စိတုကမျတာဉာဏ်။ |
| **ပဋိသင်္ခါဉာဏ်** | လွတ်လိုလှ၍၊ လွတ်ရတဲ့ငါ၊ ဘာဝနာလေးဆယ်၊ အကျယ်ဖြန့်ချီ၊ အားတိုက်ဖိ၊ ပဋိသင်္ခါဉာဏ်။ |

| | |
|---|---|
| **သင်္ခါရုပေက္ခာဉာဏ်** | အားတိုက်ရှု၍၊ လွတ်မှုရရန်၊ အမြင်သန်က၊ ရုပ်နာမ်ဓမ္မ၊ သင်္ခါရဝယ်၊ မတွယ်သမှု၊ လျစ်လျူရှု၊ သင်္ခါရုပေက္ခာဉာဏ်။ |
| **အနုလောမဉာဏ်** | မဂ်ရောက်လိုသော်၊ အဆော်အနှုး၊ မဂ်လေးဦးအား၊ အထူးလျော်မှု၊ ကျေးဇူးပြု၊ အနုလောမဉာဏ်။ |

မဂ္ဂါမဂ္ဂဉာဏဒဿန ဝိသုဒ္ဓိသည်=သမ္မသနဉာဏ်နှင့်+ဥဒယဗ္ဗယဉာဏ်၏ ရှေ့အပိုင်း=ၚင်းဉာဏ်အမြင်-၂ မျိုး ပေါက်အောင် ရှုမြင်သုံးသပ်ခြင်းဖြင့် မဂ်-ဟုတ်သည်+မဟုတ်သည်ကိုသိသော ဉာဏ်အမြင်စင်ကြယ်ခြင်းဖြစ်သည်။

## သမ္မသနဉာဏ်အမြင်ပေါက်အောင် ရှုမြင်သုံးသပ်ပုံ

ကင်္ခါဝိတရဏဝိသုဒ္ဓိဖြင့်- ရုပ်+နာမ်တရားတို့၏ ဖြစ်ကြောင်းကုန်စင်ကို ထင်ထင်လင်းလင်း သိမြင်ပြီးသောယောဂီပုဂ္ဂိုလ်သည် မိမိသိမြင်ပြီးသော ရုပ်+နာမ်တရားတို့ကို မိမိနှစ်သက်ရာ ခန္ဓာတစ်ပါးစီအားဖြင့်လည်းကောင်း၊ အာယတနတစ်ပါးစီအားဖြင့်လည်းကောင်း၊ ဓါတ်တစ်ပါးစီအားဖြင့်လည်းကောင်း၊ သဲသဲမဲမဲဖိ၍ လက္ခဏာရေးသုံးချက်တင်ကာ သုံးသပ်ရမည်။

သုံးသပ်ပုံမှာ-ခန္ဓာ ၅ ပါးတွင် ရူပက္ခန္ဓာသည်၊(**အနိစ္စံခယဋ္ဌေန**=ကုန်ခန်းခြင်းသဘောကြောင့် အနိစ္စ။ **ဒုက္ခံဘယဋ္ဌေန**=ကြောက်မက်ဖွယ်ဘေးဖြစ်သောကြောင့် ဒုက္ခ။ **အနတ္တာ အသာရကဋ္ဌေန**=အနှစ်သာရမရှိသောကြောင့် အနတ္တ၊ စသည်ဖြင့် လက္ခဏာရေးသုံးပါးဖြင့် သုံးသပ်ရမည်။ (ဤသို့ခန္ဓာတစ်ခုချင်းအနေဖြင့် သုံးသပ်ခြင်းကို ကလာပသမ္မသနနည်း ဟုခေါ်သည်။)

**ကလာပ**=အပေါင်းအစုတစ်ခုအနေဖြင့်၊ **သမ္မသန**=သုံးသပ်ခြင်း)

အကျဉ်းအားဖြင့်-ရူပံ=**အနိစ္စံ**+**ဒုက္ခံ**+**အနတ္တာ**။ ဝေဒနာ=**အနိစ္စံ**+**ဒုက္ခံ** +**အနတ္တာ** စသည်ဖြင့်ပွားနိုင်သည်။

ဤသို့လျှင် ကြွင်းခန္ဓာ+အာယတန+ဓါတ်တို့ကို နှစ်သက်က ကြိုက်ရာကို သုံးသပ်နိုင်သည်။ မိမိနှစ်သက်ရာသည် မိမိနှင့်သင့်လျော်သော ကမ္မဋ္ဌာန်းပင်ဖြစ်သည်။

တဖန် (က) **အဒ္ဓါသမ္မသနနည်း** = ရုပ်+နာမ်တရားတို့ကို အတိတ်စသောကာလအားဖြင့် ခွဲခြား၍ အနိစ္စ စသည်ရှုမြင်သုံးသပ်ခြင်း။

(ခ) **သန္တတိသမ္မသနနည်း**= ရုပ်+နာမ်တရားတို့၏ ဖြစ်မှုကို အစဉ်လိုက်၍ အနိစ္စစသည်ဖြင့် ရှုမြင်သုံးသပ်ခြင်း။

(ဂ) **ခဏသမ္မသနနည်း** = ရုပ်+နာမ်တရားတို့၏ ဥပါဒ်+ဌီ+ဘင်၊ စသောခဏအားဖြင့် အနိစ္စ စသည်ရှုမြင်သုံးသပ်ခြင်း။

ဤသို့လျှင် ခန္ဓာ ၅-ပါး+အာယတန ၁၂-ပါး+ဓါတ် ၁၈-ပါး တို့ကို အနိစ္စ စသောလက္ခဏာရေးသုံးပါးတို့ဖြင့် ခန္ဓာတစ်စုခြင်း + တစ်စုခြင်း(ကလာပသမ္မသန)နည်းအားဖြင့်လည်းကောင်း၊ အနိစ္စစသောလက္ခဏာရေးသုံးပါးကို အဒ္ဓါစသောနည်းသုံးမျိုးတို့ဖြင့်လည်းကောင်း၊ သုံးသပ်ဆင်ခြင်သိမြင်သောဉာဏ်သည် သမ္မသနဉာဏ်မည်၏။ ဝိပဿနာဉာဏ်စဉ်၏အစ အခြေခံမူလဉာဏ်ပင်ဖြစ်သည်။ အထက်ဉာဏ်အဆင့်ဆင့်တက်ရာတွင် သူ့ကိုလက်မလွှတ်ဘဲ၊ အမြဲတွဲယူသိမ်းဆည်းသွားရမည်။

ထိုသို့သမ္မသနဉာဏ်အမြင် ရင့်သန်လာသောယောဂီပုဂ္ဂိုလ်သည် ထိုခန္ဓာ ၅-ပါး ရုပ်နာမ်တရားတို့၏ ဖြစ်ခြင်းအကြောင်း ၅-မျိုး+ပျက်ခြင်းအကြောင်း ၅-မျိုးတို့ကို တိုး၍သိမြင်လာမည်။

ရုပ်ဖြစ်ခြင်းအကြောင်းမှာ၊ အဝိဇ္ဇာ+တဏှာ+ဥပါဒါန်+ကံ+အာဟာရတို့ကြောင့်ဖြစ်၏။ ထို ၅-မျိုး ချုပ်ခြင်းကြောင့် ရုပ်ချုပ်ရ၏-ဟုသိသော အဖြစ်အပျက်ကို အဖန်တလဲလဲ ရှုမြင်သုံးသပ်သော ဥဒယဗ္ဗယဉာဏ်၏ ရှေ့ပိုင်းဖြစ်ပေါ်လာ၏။

ထိုသို့ သမ္မသနဉာဏ်+ဥဒယဗ္ဗယဉာဏ်၏ရှေ့ပိုင်း=၎င်းဉာဏ်-၂ မျိုးတို့ဖြင့် အသိဉာဏ်ရင့်သန်လာသော ယောဂီပုဂ္ဂိုလ်သန္တာန်၌ ရုပ်+နာမ် တို့အပေါ်တွင် အသိဉာဏ်အမြင် သန့်ရှင်းစင်ကြယ်လာသဖြင့် ထိုယောဂီ ပုဂ္ဂိုလ်၏ ရုပ်+နာမ်ခန္ဓာတို့လည်း စင်ကြယ်မှုတန်ခိုးကြောင့် ဩဘာသ (အရောင်တောက်ပခြင်း)စသော ထူးခြားချက်-၁၀ မျိုးတို့ ဖြစ်ပေါ်လာ လေသည်။

## ဥပက္ကိလေသ ၁၀-မျိုး

(သို့) ဝိပဿနာ၏ အန္တရာယ်-၁၀ မျိုး

(သို့) ဝိပဿနာညစ်ညူးကြောင်း-၁၀ မျိုး

(သို့) ဝိပဿနာပျက်ကြောင်း- ၁၀ မျိုး

(၁) **ဩဘာသ** = ကိုယ်ရောင်ကိုယ်ဝါများ ထွက်လာခြင်း၊

(၂) **ပီတိ** = ဝိပဿနာနှင့်ယှဉ်သော နှစ်သက်မှုငါးမျိုး ဖြစ်ပေါ်လာခြင်း၊

(က) ခုဒ္ဒိကာပီတိ = ကြက်သီးမွေးညှင်းထရုံ သေးငယ်စွာ ဖြစ်သောပီတိ၊

(ခ) ခဏိကာပီတိ = လျှပ်စီးပျက်သလို **ခဏ ခဏ**ဖြစ်၍ **ခဏ ခဏ**ပျက်သောပီတိ၊

(ဂ) ဩက္ကန္တိကာပီတိ = ဒီရေလှိုင်းလုံးကြီးလွှမ်းဖုံးလာသကဲ့သို့ တစ်ကိုယ်လုံး၌ လွှမ်းဖုံးသက်ရောက်သော ပီတိ၊

(ဃ) ဥဗ္ဗေဂါပီတိ = မိမိအဟုန်ဖြင့် ကိုယ်ကိုအထက်သို့ မြှောက် နိုင်သောပီတိ၊

(င) ဖရဏာပီတိ = တစ်ကိုယ်လုံး၌ ကြာမြင့်စွာ ပြန့်နှံ့နေသော ပီတိ။

(၎င်းပီတိများကို မဂ်တရားဟုထင်နေတတ်၏)

(၃) **ပဿဒ္ဓိ** = ကိုယ်စိတ်တို့၏ ငြိမ်းချမ်းခြင်း၊ (၎င်းကို နိဗ္ဗာန်ဟု ထင်နေတတ်၏)

(၄) **အဓိမောက္ခ(သဒ္ဓါ)** = ကမ္မဋ္ဌာန်းအာရုံ၌ သက်ဝင်ဆုံးဖြတ်တတ်သော သဒ္ဓါတရားဖြစ်ခြင်း၊(မဂ်ဟု-----၏)

(၅) **ပဂ္ဂဟ(ဝီရိယ)** = ဝိပဿနာစိတ်ကို အားပေးထောက်ပံ့မှု ဝီရိယထက်သန်ခြင်း၊ (မဂ်ဟု-----၏)

(၆) **သုခ** = တစ်ကိုယ်လုံး၌ မွန်မြတ်သော သုခချမ်းသာတရား ဖြစ်ပေါ်နေခြင်း၊ (မဂ်ဟု-----၏)

(၇) **ဉာဏ(ဗုဒ္ဓိ)** = အလွန်ထက်မြက်သော ဝိပဿနာဉာဏ်ဖြစ်ပေါ်နေခြင်း၊ (မဂ်ဟု-----၏)

(၈) **ဥပဋ္ဌာန(သတိ)** = ကမ္မဋ္ဌာန်းအာရုံ၌ အလွန်ထင်လင်း(ထင်ရှား)နေသောသတိတရား ဖြစ်ပေါ်နေခြင်း၊ (မဂ်ဟု-----၏)

(၉) **ဥပေက္ခာ** = ဖြစ်မှုပျက်မှု (ဥဒယဗ္ဗယ)သဘော အလွန်ထင်ရှားနေရကား မထင်ထင်အောင်ကြောင့်ကြစိုက်ရမှု မပြုရတော့ဘဲ အသင့်အားဖြင့် ရှုနိုင်သော တတြမဇ္ဈတ္တတာမည်သော ဝိပဿနုပေက္ခာ+ဖြစ်မှုပျက်မှုကို အလိုရှိသလို လျှင်မြန်စွာဆင်ခြင်နိုင်သော အာဝဇ္ဇနုပေက္ခာတို့ ဖြစ်နေခြင်း (မဂ်ဟု-----၏)

၁၀။ **နိကန္တိ** = အထက် ၉-ပါးကို နှစ်သက်နေသည့် အလွန်သိမ်မွေ့သော တဏှာ ဖြစ်ခြင်း (မဂ်---၏) **မှတ်ချက်**- အထက် ၉-ပါးသည် ညစ်ညူးကြောင်း အစစ်မဟုတ်ဘဲ၊ နိကန္တိတစ်ခုသာ ညစ်ညူးကြောင်း အစစ်ဖြစ်၏။

ထိုသို့ နှစ်သက်နေလျှင် ဟုတ်လှပြီဟု ထင်နေခြင်းမာန၊ အယူမှားသွားခြင်း ဒိဋ္ဌိတရားတို့ ဖြစ်ကာ၊ တုန်လှုပ်၊ ပျံ့လွင့်မှုတို့ ပြန်၍ဖြစ်ပေါ်လာသဖြင့် ရပြီးဝိပဿနာဉာဏ်စဉ်များမှာ ပျောက်သွားရပြန်၏။

အထက်ပါ-၁၀ မျိုးပေါ်လာသောအခါ ထိုသြဘာသစသည်ကို မဂ်ဖိုလ်+နိဗ္ဗာန်တရားရပြီဟုအထင်ရှိပြီး ကျေနပ်နှစ်သက်ကာ ဝိပဿနာ

တရားဆက်လက်အားမထုတ်လျှင် ရပြီးသားဉာဏ်စဉ်များပါ ပျောက်၍ အထက်ဉာဏ်စဉ်များနှင့် မဂ်+ဖိုလ်တရားသို့လည်း မတက်နိုင်တော့ပေ၊ ထို့ကြောင့် အထက်ပါ–၁၀ မျိုးကို ဝိပဿနုပက္ကိလေသ(ဝိပဿနာညစ်ညူးကြောင်း၊ ဝိပဿနာပျက်ကြောင်း အန္တရာယ် ၁၀–မျိုးဟု ခေါ်ခြင်း ဖြစ်သည်။)

အချုပ်အားဖြင့်၊ ။ သမ္မသနဉာဏ်+ဥဒယဗ္ဗယဉာဏ်အမြင် ရင့်သန်အောင်
အားထုတ်၍ ဩဘာသစသည်ဖြစ်ပေါ်လာသောအခါ ဤဩဘာသစသည်သည် မဂ်+ဖိုလ်တရားများမဟုတ်သေး၊ ဝိပဿနာ၏အန္တရာယ်များသာ ဖြစ်သေးသည် အထက်ဉာဏ်စဉ် ၉–မျိုးကိုရရှိအောင် ဆက်အားထုတ်မှ မဂ်+ဖိုလ်တရားရနိုင်မည်ဟု မဂ်ဟုတ်သည် မဟုတ်သည်ကို သိတတ်သောဉာဏ်အမြင်သည် မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိမည်၏။

ဆောင် – ဥဒယဉာဏ်၊ ရင့်သန်တုံလတ်၊ ဖြစ်လာထတ်၊ ဆယ်ရပ်
အန္တရာယ်။
အရောင်+ပီတိ+ပဿဒ္ဓိနှစ်ဖြာ၊ သဒ္ဓါ(အဓိမောက္ခ)+ဝီရိယ
(ပဂ္ဂဟ)။
သုခ+ဗုဒ္ဓိ၊ နိကန္တိနှင့်၊ သတိ+ဥပေက္ခာ။
ဤဆယ်ဖြာ၊ မှတ်ပါအန္တရယ်။
ထိုဆယ်ချက်တွင်၊ မဂ်အထင်ကို+ပယ်ထွင်ရှင်းကာ၊ အလင်း
သာ၊ မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ။

| | |
|---|---|
| မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိသည် | သမ္မသနဉာဏ်+ဥဒယဗ္ဗယဉာဏ် ရှေ့အပိုင်းတို့နှင့် သက်ဆိုင်၏။ |

ဆောင် – မဂ္ဂါမဂ္ဂ၊ စခန်းကျသော်၊ သမ္မသန၊ ဉာဏ်အစနှင့်၊
ဥဒယဗ္ဗယံ၊ ရှေ့ပိုင်းဉာဏ်၊ အမှန်ပါသဖြင့်။

၆။ပဋိပဒါဉာဏဒဿန ဝိသုဒ္ဓိ (ဥဒယဗ္ဗယဉာဏ်ကို တစ်ဖန်ထပ်ပွားသဖြင့်
အစဉ်အတိုင်း အထက်ဉာဏ်စဉ်ကိုးပါးတို့
အဆင့်ဆင့်သိမြင်၍ စင်ကြယ်မှု)

မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိဟူသော အသိဉာဏ်အမြင်ရပြီးနောက် **(ပွါးဆဲဥဒယဗ္ဗယဉာဏ်)**ကိုပင် တစ်ဖန်ပွါးများသဖြင့် ရုပ်+နာမ်တို့၏ အဖြစ်အပျက်ကို လျင်လျင်မြန်မြန် မြင်လာ၏။ ထို့သို့ ဖြစ်+ပျက်မှုကို လျင်လျင်မြန်မြန် သိလာသောအခါ အဖြစ်ကိုမမြင်တော့ဘဲ အပျက်ကိုသာ မြင်လာသော**(ဘင်္ဂဉာဏ်)**ဖြစ်လာ၏။ အပျက်ကိုမြင်သဖြင့် ဩော်–"ရုပ်+နာမ်တရားဟူသည် ဘေးဒုက္ခကြီးပါလား"ဟု မြင်သော**(ဘယဉာဏ်)** ဖြစ်လာ၏။ ဘေးဒုက္ခမှန်း သိလာသောအခါ ရုပ်+နာမ်တရားတို့သည် "ဘာမှအားကိုးစရာ မရှိပါလား"ဟု အပြစ်ကို မြင်လာသောအခါ **(အာဒီနဝဉာဏ်)**ဖြစ်ပေါ်လာ၏။ ထိုဉာဏ်ဖြင့်ရှု၍ အပြစ်မြင်လာသောအခါ ဤခန္ဓာ၌ လွန်စွာငြီးငွေ့သော **(နိဗ္ဗိဒါဉာဏ်)**ဖြစ်ပြန်၏။ ရုပ်+နာမ်တို့၏ အပြစ်ကို သိသောအခါ ရုပ်+နာမ်တို့မှ လွတ်လိုသော **(မုစ္စိတုကမျတာဉာဏ်)** ဖြစ်လာ၏၊ လွတ်ချင်လွန်းအားကြီးသဖြင့် ကမ္မဋ္ဌာန်းဘာဝနာ(၄၀)ကို အင်တိုက်အားတိုက် ရှုမှတ်ပွါးများ အားထုတ်သော **(ပဋိသင်္ခါဉာဏ်)** ဖြစ်ပေါ်လာ၏။ ထိုသို့ အင်တိုက်အားတိုက် ရှုပွါးအားထုတ်လိုက်သောအခါ ရုပ်+နာမ်တရားတို့၌ ဖြစ်+ပျက်ကို ကောင်းကောင်းမြင်နေသဖြင့် တွယ်တာမှုလည်း မရှိတော့၊ ဖြစ်ပြီးပျက်ခြင်းသည် ရုပ်နာမ်တို့၏ သဘာဝဖြစ်ကြောင်း ဉာဏ်အဆင့်ဆင့်ဖြင့် ပိုင်ပိုင်ကြီးသိနေသဖြင့် ရုပ်+နာမ်တို့ ဖြစ်+ပျက်မှုအပေါ် နှလုံးမသာမှုလဲမဖြစ်တော့၊ အလယ်အလတ်သဘောဖြင့် သိပ်ကြောင့်ကြမစိုက်ရတော့ပဲ အဖြစ်+အပျက်ကို မြင်နေသော၊ တတြမဇ္ဈတ္တုပေက္ခာနှင့် ယှဉ်သော **(သင်္ခါရုပေက္ခာဉာဏ်)** ဖြစ်ပေါ်လာ၏။

ထိုသို့ ရုပ်+နာမ်တရားတို့၌ တွယ်တာမှုလဲမရှိ နှလုံးမသာမှုလဲမရှိတော့သောအခါ –

မဂ္ဂဝီထိပုံစံ

| |
|---|
| နု+ဒ+မ–––ပ+ဥ+နု+ဂေါ+မဂ်+ဖိုလ်– |

ဟူသော မဂ္ဂဝီထိစဉ်အတိုင်း အထက်–ဂေါတြဘူ+မဂ်+ဖိုလ်ဇောတို့အားလည်းကောင်း၊ မိမိနှင့် ဥပစာရသမာဓိဇောချင်းတူသော အောက်ပရိကံ+ဥပစာဇောအားလည်းကောင်း–

သင့်လျော်အောင် ကျေးဇူးပြုပေးသော(**အနုလောမဉာဏ်**)ဖြစ်ပေါ်လာ၏။ ဤဉာဏ်ကိုးပါး အဆင့်အဆင့်ပေါ်ပေါက်သိမြင်ခြင်းသည် ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိမည်၏။

**ဆောင် – ဥဒယဉာဏ်၊ တစ်ဖန်ပျိုးကာ၊ ကိုးဖြာဉာဏ်စဉ်၊**
**စခန်းထွင်၍၊ အမြင်လင်းဘိ၊ ထိုးထွင်းသိ၊**
**ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ။**

| | |
|---|---|
| ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိသည် | ဥဒယဗ္ဗယဉာဏ်နောက်အပိုင်းမှစ၍ အနုလောမဉာဏ်ထိ– ၉ ပါးသော ဝိပဿနာဉာဏ်စဉ်နှင့်ဆိုင်၏။ |

**ဆောင် – ပဋိပဒ၊ စခန်းကျသော်၊ ဥဒယလှိုင်း၊ နောက်**
**အပိုင်းမှ၊ စ၍နှလုံ၊ တိုင်အောင်ခြုံ၊ ဉာဏ်ကုန်**
**ကိုးပါးဆင့်။**

(မှတ်ချက်) သင်္ခါရုပေက္ခာဉာဏ်နှင့်+ အနုလောမဉာဏ်=၎င်း–၂ ပါးကို ဝုဋ္ဌါနဂါမိနီဝိပဿနာဉာဏ်ဟု နာမည်တစ်မျိုးတည်း ခေါ်သေးသည်။

(**ဝုဋ္ဌါ**=မဂ်သို့၊ **ဂါမိနီ**=အရောက်ပို့တတ်သော(ရောက်စေသော)ဝိပဿနာဉာဏ်)

**ဆောင် – သင်္ခါရနှင့်+အနုလောမ၊ ဉာဏ်နှစ်ဝ၊ ဝုဋ္ဌါနဂါမိနီ**
**လည်းခေါ်သတည်း။**

ဂေါတြဘူဉာဏ်။ ။ ဝိပဿနာဉာဏ်စဉ် ၁၀–ပါး ပြီးပြည့်စုံသောအခါ ဆက်လက်၍ နိဗ္ဗာန်ကို အစဆုံးလှမ်းမြင်နိုင်သော ဂေါတြဘူဉာဏ် ဆက်ဖြစ်လာ၏။ ထိုဉာဏ်သည် ပုထုဇဉ်အနွယ်ကို လွှမ်းမိုးနှိပ်စက်၍ အရိယာအနွယ်သို့ ရောက်စေတတ်၏။ (ဝိသုဒ္ဓိနှင့်ကားမဆိုင်)

ထိုဂေါတြဘူဉာဏ်စိတ်ဖြစ်ပြီးသောအခါ မဂ္ဂဝီထိစဉ်အတိုင်း မဂ်စိတ်+ဖိုလ်စိတ်တို့ ဆက်ဖြစ်လာ၏။

| သောတာပတ္တိမဂ္ဂဝီထိပုံစံ | န+ဒ+မ+ပ+ဥ+နု+ဂေါ+မဂ်+ဖိုလ် |
|---|---|

၇။ ဉာဏဒဿနဝိသုဒ္ဓိ=(မဂ်ဉာဏ်လေးပါးကို ရရှိ၍ ဉာဏ်အမြင်စင်ကြယ်ခြင်း)

အထက်ဝိသုဒ္ဓိ-၆ ပါးတို့ဖြင့် ပွါးများ၍ရအပ်သော လေးပါးသော မဂ်ဖိုလ်သည် ဉာဏဒဿနဝိသုဒ္ဓိမည်၏။

(သင်္ခါရုပေက္ခာဉာဏ်+အနုလောမဉာဏ်=ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ် ရင့်သန်အားကြီးလာသောအခါ ဂေါတြဘူဉာဏ်အလိုအလျောက်ဖြစ်ပြီး ယောဂီပုဂ္ဂိုလ်၏သန္တာန်၌ မဂ္ဂဝီထိစဉ်အတိုင်း မဂ်ဉာဏ်လေးပါးဖြစ်ပြီး နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်းကို ဉာဏဒဿနဝိသုဒ္ဓိ-ဟုခေါ်သည်။

ဆောင် - ဝုဋ္ဌာနဂါမ်၊ လွန်ရင့်သန်က၊ နိဗ္ဗာန်ပေါက်ကာ၊
မဂ်ရောက်လာ၊ ဉာဏဒဿနဝိသုဒ္ဓိ။

| ဉာဏဒဿနဝိသုဒ္ဓိသည် | မဂ်ဉာဏ်မည်၏။ (မဂ်ဉာဏ်နှင့်ဆိုင်၏) |
|---|---|

**မဂ်ဉာဏ်၏ ကိစ္စ–၄ မျိုးကို တစ်ပြိုင်နက်ဆောင်ရွက်ပုံ**

**ဆောင် - သိ+ပယ်+ဆိုက်+ပွါး၊ လေးပါးအချက်၊
တစ်ပြိုင်နက်၊ မဂ်၏ကိစ္စတည်း။**

(၁) **–သိ–** ဒုက္ခသစ္စာကို ပိုင်းခြား၍ သိ ခြင်း = ပရိညာကိစ္စ။

(၂) **–ပယ်–** သမုဒယသစ္စာ(လောဘ)ကို ပယ် ခြင်း = ပဟာနကိစ္စ။

(၃) **–ဆိုက်–** နိရောဓသစ္စာသို့ ဆိုက် ရောက်မျက်မှောက်ပြုခြင်း = သစ္ဆိကရဏကိစ္စ

(၄) **–ပွါး–** မဂ္ဂသစ္စာကို ပွါး များခြင်း = ဘာဝနာကိစ္စ။

ဤလေးပါးကို မဂ်ဉာဏ်သည် တစ်ပြိုင်တည်းပြီးစေနိုင် ဆောင်ရွက်စေနိုင်၏။

44
A

ဥပမာအားဖြင့် = ဆီမီးသည် မိမိဖြစ်သည်နှင့်တစ်ပြိုင်နက် (၁) အမှောင်ကိုဖျောက်ခြင်း၊ (၂) အလင်းကိုဖြစ်စေခြင်း၊ (၃) မီးစာကို ကုန်စေခြင်း၊ (၄) ဆီကိုကုန်စေခြင်း– ဤလေးပါးတို့ကို တစ်ပြိုင်နက် တည်း ပြီးစေသကဲ့သို့ မဂ်စိတ်ဖြစ်သည်နှင့် သစ္စာ–၄ ချက်ကို တစ်ပြိုင် နက်တည်းပြီးစီးစေပါသည်။

**မဂ်ကိစ္စ–၁၆ ချက်**။ ဤသို့လျှင်မဂ်စိတ်တစ်မျိုးလျှင် အထက်ပါကိစ္စ–၄ မျိုးစီ ရှိ၍ မဂ် ၄–ပါး x ကိစ္စ ၄–မျိုး=(၄ x၄)= ၁၆–ကိစ္စ ဖြစ်သည်။

မဂ္ဂပစ္စဝေက္ခဏာ (ရပြီးမဂ်ကို ဆင်ခြင်ခြင်း)

မဂ္ဂဝီထိကျပြီး(ရပြီး)သောအခါ ထုံးစံအတိုင်းရပြီးမဂ်ကို ပြန်၍ဆင် ခြင်သော မဂ္ဂပစ္စဝေက္ခဏာဝီထိများ ဖြစ်လာ၏။

(၁) မိမိရပြီးသောမဂ်ကိုလည်း ပြန်၍ဆင်ခြင်၏။

(၂) မဂ်ရလျှင် ဆိုင်ရာဖိုလ်လည်း တစ်ပြိုင်တည်း ရသည်ဖြစ်၍ ဆိုင်ရာဖိုလ်ကိုလည်း ဆင်ခြင်၏။

(၃) မဂ်တစ်ခုခုရလျှင် နိဗ္ဗာန်ကို ကေန်အာရုံပြုပြီး ဖြစ်သော ကြောင့် နိဗ္ဗာန်ကိုလည်း ဆင်ခြင်၏။

(၄) ပယ်ပြီးသော ကိလေသာကိုလည်း ဆင်ခြင်၏။

(၅) မပယ်ရသေးသော ကိလေသာကိုလည်း ဆင်ခြင်၏။

(မှတ်ချက်)– အမှတ်(၄) နှင့် (၅)ကို အချို့ဆင်ခြင်၏။ အချို့မဆင်ခြင်။

ပစ္စဝေက္ခဏာဉာဏ် (၁၉) တန်

(ရပြီးမဂ်+ဖိုလ်ကို ဆင်ခြင်မှု ၁၉–တန်) မဂ်တစ်မျိုးမျိုး ရပြီးလျှင် အထက်ပါ ပစ္စဝေက္ခဏာ ဝီထိ–၅ မျိုးစီ ရသောကြောင့်–

| | | |
|---|---|---|
| သောတာပတ္တိမဂ်၌ | – ၅ – | မျိုး |
| သကဒါဂါမိမဂ်၌ | – ၅ – | မျိုး |
| အနာဂါမိမဂ်၌ | – ၅ – | မျိုး |
| အရဟတ္တမဂ် | – ၄ – | မျိုး |
| စုစုပေါင်း | ၁၉ – | မျိုး |

(မှတ်ချက်) (အရဟတ္တမဂ်၌ ကြွင်းကျန်သော ကိလေသာမရှိ
တော့၍ ၄-မျိုးသာ ရသည်)

၎င်း ၁၉-မျိုးကို ပစ္စဝေက္ခဏာဉာဏ် ၁၉-တန်ဟု ခေါ်သည်။

ဆောင် - မဂ်+ဖိုလ်+နိဗ္ဗာန်၊ ပယ်+ကြွင်းကျန်၊ နှစ်တန်ကိလေသာ။
အစဉ်သမှု၊ အမြင်ရှု၊ ငါးခုဝေက္ခဏာ။
- ထက်မဂ်ကိုပင်၊ မရောက်ခင်၊ ဖိုလ်လျှင်လဲလျောင်းရာ

မဂ္ဂပစ္စဝေက္ခဏာဝီထိပုံစံ

နှ+ဒ---မ--ဇ ဇ ဇ ဇ ဇ ဇ ဇ---ဘွင်

အထက်မဂ်-၃ ပါး ဝီထိပုံစံ

မန္ဒ → နှ+ဒ+----မ+ +ပ+ဥ+နု+ဝေါ+မဂ်+ဖိုလ်+ဖိုလ်---ဘွင်
တိက္ခ→ နှ+ဒ+——မ+x+-ဥ+နု+ဝေါ+မဂ်+ဖိုလ်+ဖိုလ်+ဖိုလ်—ဘွင်

**ဝေါ = ဝေါဒါန်=ဖြူဖွေးကြည်လင် သန့်ရှင်းသောစိတ်**

ဖလသမာပတ္တိဝီထိပုံစံ (ရပြီးဖိုလ်ကို အထပ်ထပ်ဝင်စားခြင်း)

မန္ဒ → နှ+ဒ+----မ+-နု+နု+နု+နု+ +ဖိုလ်စိတ်များစွာ---ဘွင်
တိက္ခ→ နှ+ဒ+----မ+-+နု+နု+နု+ +ဖိုလ်စိတ်များစွာ---ဘွင်

## ဝိသုဒ္ဓိ–၇ ပါးနှင့် ဉာဏ်စဉ်များတွဲစပ်ပုံ ကမ္မဋ္ဌာန်းပိုင်းအကျဉ်းချုပ်ဇယား

| ဝိသုဒ္ဓိအမည် | ဉာဏ်စဉ်အမည် | | မှတ်ချက်–လင်္ကာ |
|---|---|---|---|
| (၁)သီလဝိသုဒ္ဓိ | သီလအထူးစင်ကြယ်ခြင်း | | |
| (၂)စိတ္တဝိသုဒ္ဓိ | ဥပစာရသမာဓိ၊ အပ္ပနာသမာဓိရအောင် အားထုတ်သဖြင့် စိတ်၏စင်ကြယ်ခြင်း၊ | | သီ+စိတ်+ဒိဋ်+ကင်၊ –ဤလေးအင်၊ –ဉာဏ်စဉ်မဆိုင်သင့်။ |
| (၃)ဒိဋ္ဌိဝိသုဒ္ဓိ | နာမရူပပရိစ္ဆေဒဉာဏ် | | (ဤဝိသုဒ္ဓိ–၄ ပါးသည် ဝိပဿနာဉာဏ်စဉ်နှင့် မဆိုင်သေးပေ) |
| (၄)ကင်္ခါဝိတရဏဝိသုဒ္ဓိ | ပစ္စယပရိဂ္ဂဟဉာဏ် | | |
| (၅)မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ | ဝိပဿနာဉာဏ် ၁၀–ပါး | သမ္မသနဉာဏ်နှင့်ဥဒယဗ္ဗယဉာဏ်၏ပထမအပိုင်း | မဂ္ဂါမဂ္ဂ၊ စခန်းကျသော်၊သမ္မသန၊ ဉာဏ်အစနှင့်၊ ဥဒယဗ္ဗယ်၊ ရှေ့ပိုင်းဉာဏ်၊ အမှန်ပါသဖြင့်။ |
| (၆)ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ | | ဥဒယဗ္ဗယဉာဏ်၏နောက်အပိုင်းမှစ၍၊ အနုလောမဉာဏ်တိုင်အောင် ဝိပဿနာဉာဏ်–၉ ပါး | ပဋိပဒ၊ စခန်းကျသော် ဥဒယလျှိုင်း၊ နောက်အပိုင်းမှ၊ စ၍နုလုံ၊ တိုင်အောင်ခြုံ၊ ဉာဏ်ကုန်ကိုးပါးဆင့် |
| | ဂေါတြဘူဉာဏ် | | |

| | | |
|---|---|---|
| (၇)ဉာဏဒဿန ဝိသုဒ္ဓိ | မဂ်ဉာဏ် | ဝုဋ္ဌာနဂါမိ၊ လွန်ရင့် သန်က၊ နိဗ္ဗာန်ပေါက် က၊ မဂ်ရောက်လာ၊ ဉာဏဒဿနဝိသုဒ္ဓိ၊ |
| | ဖိုလ်ဉာဏ် | |
| | ပစ္စဝေက္ခဏာဉာဏ်များ | |

## ပုဂ္ဂလဘေဒ

## (မဂ်ပုဂ္ဂိုလ်–၄ ယောက်တို့ ကိလေသာအဆင့်ဆင့်ပယ်ပုံ)

| | | |
|---|---|---|
| သောတာပတ္တိမဂ်သည် | ဒိဋ္ဌိ+ဝိစိကိစ္ဆာကို အကြွင်းမဲ့ပယ် သတ်သည် | *ဒိဋ္ဌိ+ဝိစိ၊ ပယ်သတ်ဘိ၊ အာဒိမဂ်သောတာ။* |

သောတာပတ္တိမဂ်သည် ဒိဋ္ဌိနှင့်ဝိစိကိစ္ဆာအပြင် အပါယ်သို့ရောက်စေနိုင်သော အကုသိုလ်အားလုံးကိုပါ ပယ်ပြီးဖြစ်သည်။

**သောတာပန်–၃ မျိုး**

၁။ ကာမဘုံ၌ တစ်ကြိမ်သာပဋိသန္ဓေနေ၍ ရဟန္တာဖြစ်မည့် **ကေဗီဇသော တာပန်။**

၂။ ကာမဘုံ၌-၂ ဘဝမှ၊ ၆-ဘဝအထိပဋိသန္ဓေနေပြီး ရဟန္တာဖြစ်မည့် ကောလံကောလ သောတာပန်။ ( မြင့်မြတ်သောဘဝတစ်ခုမှ မြင့်မြတ်သောဘဝတစ်ခုသို့သွား)

၃။ ကာမဘုံ၌-၇ ဘဝပဋိသန္ဓေနေ၍ ရဟန္တာဖြစ်မည့် **သတ္တက္ခတ္တုပရမ သောတာပန်**ဟူ၍-၃ မျိုးရှိသည်။

(မှတ်ချက်)– (သောတာပန်ဖြစ်ပြီးလျှင် ကာမဘုံ၌-၇ ဘဝထက်ပို၍မဖြစ်နိုင်တော့)

(၇–ဘဝနှင့် ရဟန္တာဖြစ်လျှင်ဖြစ် မဖြစ်လျှင်လည်းကာမဘုံ၌ကား မနေနိုင်တော့ပြီ)

( )ရုပ+အရူပဖြဟ္မာဘုံများ၌ကား - ၇ ဘဝထက်ပို၍နေနိုင်ပါသည်။

| | |
|---|---|
| သကဒါဂါမိမဂ်သည် | **(ရုန့်ရင်းသော)**ကာမရာဂ +ဗျာပါဒနှင့် မောဟတို့ကို အကုန်ပယ်၏။ |

(မှတ်ချက်) သကဒါမိမဂ်ဖြင့် ရုန့်ရင်းသော-ကာမရာဂ(လောဘ)၊ ဗျာပါဒ (ဒေါသ)နှင့် မောဟတို့ကိုသာ အကုန်ပယ်၍၊ သိမ်မွေ့သော ကာမရာဂ၊ ဗျာပါဒနှင့် မောဟတို့ကိုကား မပယ်နိုင်သေးပေ၊ ထို့ကြောင့်သကဒါဂါမိမဂ်ဖြင့် အကြွင်းမဲ့ပယ်သတ်သော ကိလေသာအထူးမရှိသဖြင့် သောတာပတ္တိမဂ်နှင့် အကြွင်းမဲ့ကိလေသာပယ်သတ်ပုံတူ၏။ သကဒါဂါမိမဂ်၏အစွမ်းကား ကာမရာဂ (လောဘ)+ ဗျာပါဒ(ဒေါသ)+မောဟ တို့ကို ခေါင်းပါးသာရုံသာ တတ်နိုင်သေးသည်။ **တစ်ကြိမ်သာ ဤကာမဘုံသို့ လာတတ်သောကြောင့် သကဒါဂါမ်မည်၏။**

**သကိံ+အာဂါမိ-သကဒါဂါမိ**၊ (သကိံ=တစ်ကြိမ်၊ အာဂါမိ= ဤကာမဘုံသို့လာ တတ်သောပုဂ္ဂိုလ်)

| | | |
|---|---|---|
| အနာဂါမိမဂ်သည် | (သိမ်မွေ့သော) ကာမရာဂ+ ဗျာပါဒတို့ကို အကြွင်းမဲ့ပယ်သတ်၏ | **ကာ+ဗျာနှစ်ထွေ၊ အကုန်ခြွေ၊ ရောက်လေ အနာဂါမ်။** |

**န+အာဂါမိ- အနာဂါမိ** [(အာဂါမိ=ကာမဘုံသို့ပြန်လာခြင်း၊ န=မရှိတော့ပြီ၊ **တစ်ခါမပြန်၊ အနာဂါမ်**)]

အနာဂါမိမဂ်ဖြင့်သာ-ကာမရာဂ, ဗျာပါဒတို့ကို အကြွင်းမဲ့ပယ်နိုင်၏။ ကာမဘုံသို့ကား ပြန်မလာတော့ပြီ၊ (အကြွင်းမဲ့ပယ်သတ်နိုင်သည်ကိုသာ အဓိကအားဖြင့် ယူရမည်။)

**(ရဟန္တာ)**- ကိလေသာအားလုံးပယ်သတ်ပြီး၍၊ လူနတ်ဖြဟ္မာသတ္တဝါအားလုံးတို့ ၏ ပူဇော်အထူးကို ခံယူတော်မူထိုက်သောပုဂ္ဂိုလ်ကို ရဟန္တာဟုခေါ်သည်။

| | | |
|---|---|---|
| **အရဟတ္တမဂ်သည် (ရဟန္တာ)** | အနောတ္တပ္ပ+ အဝိဇ္ဇာ(မောဟ) ကျန်ကိလေသာအားလုံး အကုန်ပယ်သတ်၏။ | အရဟတ္တာ |

**ဖလသမာပတ်–ဖိုလ်ဝင်စားခြင်း(ဖိုလ်ချမ်းသာခံစားခြင်း)**

လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့သည် မိမိတို့ရရှိထားသော လူမင်းစည်းစိမ်၊ နတ်မင်းစည်းစိမ်၊ ဗြဟ္မာမင်းစည်းစိမ်တို့ကိုခံစားသကဲ့သို့ ဆိုင်ရာမဂ်ကိုရပြီးသော အရိယာပုဂ္ဂိုလ်တို့သည်လည်း ဆိုင်ရာဖိုလ်ကို ပြန်လည်ဆင်ခြင်၍ ဖိုလ်စိတ်များအဆက်မပြတ်ဖြစ်ပြီး နိဗ္ဗာန်ကိုအာရုံပြုကာ ငြိမ်းအေးမှုချမ်းသာကို ခံစားကြကုန်၏။ ထိုသို့ခံစားနေခြင်းကို ဖလသမာပတ်ဝင်စားသည် (ဖိုလ်ချမ်းသာခံစားသည်)ဟု ခေါ်ပါသည်။

မိမိရရှိထားသောဆိုင်ရာဖိုလ်ကိုသာ ဝင်စားနိုင်၏။သောတာပန်ပုဂ္ဂိုလ်သည် သောတာပတ္တိဖိုလ်ကိုသာဝင်စားနိုင်၏။ (အစဉ်အတိုင်း)

*ဆောင်–ထက်မဂ်ကိုပင်၊ မရောက်ခင်၊ ဖိုလ်လျှင်လဲလျှောင်းရာ။*

နိရောဓသမာပတ်ဝင်စားခြင်း

(အနာဂါမ်ပုဂ္ဂိုလ်နှင့် ဘုရား+ ရဟန္တာပုဂ္ဂိုလ်တို့သည်) ခန္ဓပရိနိဗ္ဗာန်မစံခင် ငြိမ်းအေးမှုအရသာ(နိဗ္ဗာန်အရသာ)ကို ခံစားလို၍၊ စိတ်+ စေတသိက်+ စိတ္တဇရုပ်တို့(၇)ရက်ခန့် ချုပ်ငြိမ်းအောင်ပြုခြင်းကို နိရောဓသမာပတ်ဝင်စားသည် ဟုခေါ်သည်။

နိရောဓသမာပတ်ကို သမာပတ် ၈–ပါးနှင့် ပြည့်စုံသော ကာမ၊ ရူပဘုံသား ဈာနလာဘီအနာဂါမ်နှင့်ဘုရား+ ရဟန္တာပုဂ္ဂိုလ်တို့သာ ဝင်စားနိုင်သည်။ လူ့ပြည်+ နတ်ပြည်၌ အလွန်ဆုံး(၇) ရက်သာ ဝင်စားနိုင်သည် ဗြဟ္မာပြည်၌ကားအလိုရှိသလောက် ဝင်စားနိုင်သည်။

(၁) နိရောဓသမာပတ် ဝင်စားလိုသော အနာဂါမ်+ ဘုရားရဟန္တာပုဂ္ဂိုလ်တို့သည် အစဉ်အတိုင်း– ရူပါဝစရ(ပ+ ဒု+ တ+ စ+ ပဉ္စမ)

စျာန်၊ အရူပါဝစရ(အာကာသာနဉ္စာယတန+ဝိညာနဉ္စာယတန+
အာကိဉ္စညာယတန)စျာန်ထိအောင် အဆင့်ဆင့် ဝင်စားရ၏။
**စျာန်တစ်ခုဝင်စားပြီးတိုင်း ပြီးတိုင်း ထိုစျာန်ကို အနိစ္စ+ဒုက္ခ+**
**အနတ္တဟု လက္ခဏာရေးသုံးပါးတို့ဖြင့် ဝိပဿနာရှုပွါးရ၏။**

(၂) **အာကိဉ္စညာယတနစျာန်ကို** ဝင်စားပြီးသောအခါ၌ကား
**လက္ခဏာရေးသုံးပါးတို့ဖြင့် ဝိပဿနာဆက်မရှုဘဲ**-အဓိဋ္ဌာန်ခြင်း
၄-မျိုးကို ပြုရ၏။

(က) မိမိနှင့်အပ်စပ်သော သက်န်းစသော ပရိက္ခရာပစ္စည်းများ
မပျက်စီးရန်၊

(ခ) ဘုရားရှင်က အလိုရှိ၍ ခေါ်တော်မူသောအခါ သိရှိရန်၊

(ဂ) သံဃာတော်က အလိုရှိ၍ ခေါ်တော်မူသောအခါ သိနိုင်ရန်၊

(ဃ) (၇) ရက်နေမည် (၇)ရက်အတွင်း ခန္ဓာမပျက်စီးရန်)၊

စသည်ဖြင့် အဓိဋ္ဌာန်ခြင်း ပုဗ္ဗကိစ္စလေးမျိုးတို့ကို ပြုရမည်။

(၃) ထို့နောင်မှ နေဝသညာနာသညာယတနစျာန်ကို ဆက်ဝင်စား၍
ထိုစျာန် နှစ်ကြိမ်ဖြစ်ပြီးသောအခါ-စိတ်+စေတသိက်+စိတ္တဇရုပ်
တို့ ချုပ်ငြိမ်းခြင်း (နိရောဓသမာပတ်)သို့ ရောက်တော့၏။
(ယင်းကို နိရောဓသမာပတ်ဝင်စားသည်ဟု ခေါ်သည်။)

(၄) (၇) ရက်စေ့၍ နိရောဓသမာပတ်မှထသောအခါ အနာဂါမ်ပုဂ္ဂိုလ်
အား အနာဂါမိဖိုလ်ဇောတစ်ကြိမ်၊ ဘုရားရဟန္တာပုဂ္ဂိုလ်တို့အား
အရဟတ္တဖိုလ်ဇောတစ်ကြိမ်ဖြစ်၍ ဘဝင်ကျ၏။

နိရောဓသမာပတ္တိဝိထိပုံစံ။ န+ဒ+မ--ပ+ဥ+နု+ဂေါ+နေဝသညာစျာန်
၂-ကြိမ် + (နိရောဓ)+ဖိုလ်+ဘဝင်။

## ဝိမောက္ခဘေဒ

**ဝိမောက္ခ** = ကျွတ်ခြင်း၊ လွတ်ခြင်း။ **ဘေဒ** = အပြား

ဝိမောက္ခဟူသည်(ကိလေသာတို့မှကျွတ်လွတ်သော) မဂ်+ဖိုလ် တို့၏အမည် ဖြစ်သည်။

**ဆောင် – ဝိမောက္ခနက်၊ ကျွတ်လွတ်ချက်၊ မဂ်+ဖိုလ်မည်သညာ။**

**ဝိမောက္ခ– ၃ မျိုး**

၁။ **အနိမိတ္တဝိမောက္ခ** = အနိစ္စဟု အဖန်ဖန်ရှုသဖြင့် ရအပ်သောမဂ်+ဖိုလ်

၂။ **အပ္ပဏိဟိတဝိမောက္ခ** = ဒုက္ခဟု အဖန်ဖန်ရှုသဖြင့် ရအပ်သော မဂ်+ဖိုလ်

၃။ **သုညတဝိမောက္ခ** = အနတ္တဟု အဖန်ဖန်ရှုသဖြင့် ရအပ်သောမဂ် +ဖိုလ်၊

ဆောင် – **အနိမိတ္တ+အနိစ္စ၊ ဒုက္ခ+ပဏိဟိတာ၊**
**အနတ္တမူ+သုညယူ၊** သုံးဆူနုပဿနာ။

**ဝိမောက္ခမုခ–၃ မျိုး (သို့) အနုပဿ နာ–၃ မျိုး**

**(ဝိမောက္ခ** = မဂ်+ဖိုလ်။ **မုခ** = ဝင်ရာတံခါးပေါက်
**အနုပဿနာ** = အဖန်ဖန်ရှုခြင်း)

(၁) အနိစ္စဟုအဖန်ဖန်ရှုခြင်းသည် အနိမိတ္တာနုပဿနာ(ဝိမောက္ခမုခ)မည်၏။
(၂) ဒုက္ခဟုအဖန်ဖန်ရှုခြင်းသည် အပ္ပဏိဟိတာနုပဿနာ (ဝိမောက္ခမုခ) မည်၏။
(၃) အနတ္တဟုအဖန်ဖန်ရှုခြင်းသည် သုညတာနုပဿနာ(ဝိမောက္ခမုခ)မည်၏။

ထိုအနုပဿနာ–၃ မျိုးသည် အနိစ္စ+ဒုက္ခ+အနတ္တဟု လက္ခဏာ ရေးသုံးပါးကို အဖန်ဖန်ရှုခြင်းဖြင့် ဝိမောက္ခမည်သော မဂ်+ဖိုလ်သို့ဝင် ရောက်ကြောင်း တံခါးပေါက်သဖွယ်ဖြစ်သောကြောင့် ဝိမောက္ခမုခမည်၏။

**ဆောင် - ဝိမောက်မုခ၊ တံခါး၀၊ အရလက္ခဏာ၊**
**ဝုဋ္ဌာနဂါမိနီ၊ ဉာဏ်ဆိုက်သီ၊ ဝိ+မု-နယ်အပါ**

သင်္ခါရုပေက္ခာဉာဏ်နှင့် အနုလောမဉာဏ်ကို ဝုဋ္ဌာနဂါမိနီ ဝိပဿနာဉာဏ်ဟုခေါ်သည်။ ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်ကိုပင် ဝိမောက္ခမုခ ဟူ၍ ခေါ်သည်။

**ဝိမောက္ခမုခ** = ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်၊

**ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်** ——— သင်္ခါရုပေက္ခာဉာဏ် / အနုလောမဉာဏ်

ထို့ကြောင့် ဝိမောက္ခမုခ=သင်္ခါရုပေက္ခာဉာဏ်+အနုလောမဉာဏ်

အနိစ္စ+ဒုက္ခ+အနတ္တဟု အဖန်ဖန်ရှုမြင်သိရှိခြင်းသည် သင်္ခါရုပေက္ခာ ဉာဏ်နှင့် အနုလောမဉာဏ်များ ရင့်သန်လာခြင်းပင်ဖြစ်သည်။ ထိုဉာဏ် ၂ မျိုးကိုပင် ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်ဟု နာမည်တစ်မျိုးတည်းဖြင့်ခေါ် ၏။ ထိုဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်သို့ရောက်လျှင်၊ ဝိမောက္ခမုခ=မည်သော မဂ်+ဖိုလ်+နိဗ္ဗာန်တံခါး၀သို့ရောက်၍ မဂ်+ဖိုလ်+နိဗ္ဗာန်ကို လှမ်း၍ကြည့် မြင်နိုင် သိရှိနိုင်တော့သည်။
(အခြားနည်းဖြင့် သိမြင်နိုင်ရိုး မရှိ)

## အနိမိတ္တစသည်တို့၏ အဓိပ္ပာယ်

### (၁)နိမိတ္တနှင့် အနိမိတ္တာနုပဿနာ

လက်+ခြေ+ဦးခေါင်းစသည်အပေါင်းသည်၊ ပုဂ္ဂိုလ်+သတ္တဝါ+လူ+ နတ်+ဗြဟ္မာ+မိန်းမ+ယောက်ျားစသည်ပုံသဏ္ဌာန်အားဖြင့်မှတ်ယူကြောင်း ဖြစ်သောကြောင့်နိမိတ္တမည်၏၊ ရုပ်နာမ်တရားတို့ကို အနိစ္စ-အမြဲမရှိဟု-ဝုဋ္ဌာ နဂါမိနီ ဝိပဿနာဉာဏ်ဖြင့် အဖန်ဖန်ရှုမြင် သိရှိလိုက်သောအခါ၊ ပုဂ္ဂိုလ်+ သတ္တဝါ+ ယောက်ျား+မိန်းမ နိမိတ်သဏ္ဌာန်များ ကျေပျောက်ပျက်စီး သွား၏။ ထိုသို့ နိမိတ်ပုံသဏ္ဌာန်များပျောက်အောင် အဖန်ဖန်ရှုခြင်းသည် အနိမိတ္တာ နုပဿနာမည်၏။

**ဆောင်- ပုဂ္ဂိုလ်+သတ္တဝါ၊ အင်္ဂါကြီးငယ်၊ ဆန်းတကြယ်၊ မှတ်ဖွယ်
နိမိတ္တာ၊ အကုန်နိမိတ်၊ ပျောက်အောင်ကြိတ်၊ အနိမိတ္တသာ။**

## (၂)ပဏိဟိတနှင့် အပ္ပဏိဟိတာနုပဿနာ

မိမိ နှစ်သက်စရာအာရုံများကို တွေ့သောအခါ တဏှာလောဘဖြင့် ကောင်းသည်၊ တင့်တယ်ပါပေသည်၊ ဖွယ်ဖွယ်ရာရာရှိသည်၊ မင်္ဂလာရှိသည်၊ သုဘပဲ၊ သုခပဲ၊ ဣဋ္ဌပဲ-ဟု မှတ်ထင်ခြင်းသည် ပဏိဟိတမည်၏။ ရုပ်+နာမ်တရားတို့ကို ဆင်းရဲကြောင်းတရားဟု ဝုဋ္ဌာနဂါမိနီဝိပဿနာ ဉာဏ်ဖြင့် ရှုမြင်သိရှိလိုက်သောအခါ ထိုနှစ်သက်စရာတို့ အကုန်ပျောက်ပျက်သွား၏၊ ထိုသို့ နှစ်သက်စရာတို့ ပျောက်အောင် အဖန်ဖန်ရှုခြင်းသည် အပ္ပဏိဟိတာနုပဿနာ မည်၏။

**ဆောင်-အတင့်အတယ်၊ အဖွယ်အရာ၊ မင်္ဂလာ+သုဘ၊
သုခ+ဣဋ္ဌ၊ ထင်သမျှ၊ မှတ်ကြပဏိဟိတာ၊
အကုန်ပဏိဟိ၊ ပျောက်စေဘိ၊ အပ္ပဏိဟိတာ။**

## (၃)အသုညတနှင့် သုညတာနုပဿနာ

လူ+နတ်+ဗြဟ္မာ+ငါ+သူတပါး+ယောကျ်ား+မိန်းမဟူ၍လည်းကောင်း၊ အစိုးရသည်၊ ပိုင်နိုင်သည်၊ ခိုင်ခန့်သည်၊ မိမိအလိုသို့လိုက်သည်၊ ကာလရှည်ဖြင့် တည်သည်ဟုလည်းကောင်း အထင်မှားသမျှ မရေမတွက်နိုင်သော အယူဒိဋ္ဌိအမျိုးမျိုးကို အတ္တဟုလည်းကောင်း၊ ဇီဝဟုလည်းကောင်း ခေါ်သည်။

အတ္တ=မိမိအလိုသို့လိုက်သည်၊ အစိုးရသည်၊ ပိုင်နိုင်သည်။

ဇီဝ= ကာလရှည်မြင့်အသက်ရှည်သည်။

၎င်းအတ္တ+ဇီဝသည် အသုညမည်၏။ ထိုအသုညကို သုညဖြစ်သွားအောင် အနတ္တ(မိမိအလိုသို့မလိုက် အစိုးမရ၊ မပိုင်နိုင်၊ သူ့သဘောသူဆောင်နေခြင်းသာဖြစ်သည်)ဟု ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်ဖြင့် ရှုမြင်သိရှိ

လိုက်သောအခါ ထိုအတ္တ+ဇီဝ(အသုည)သဘော အကုန်ဆိတ်သုန်းသွားအောင် (သုညဖြစ်သွားအောင်) ဖျက်ဆီး ပယ်ဖျောက်လိုက်၏၊ ထိုသို့ ဘာမှအစိုးမရ(သုညဖြစ်သွားအောင်) အဖန်ဖန်ရှုလိုက်ခြင်းသည် သုညတာနုပဿနာမည်၏။

**ဆောင်-လူ+နတ်+ဗြဟ္မ ၁+ငါ+သူတပါး၊ ယောကျ်ား+မိန်းမ+ပုဂ္ဂလနှင့်၊ စိုးရပိုင်ပိုင်၊ ခံ့ခိုင်မြင့်ရှည်၊ သက်ဆိုးတည်ဟု၊ အားစည်သမျှ၊ အနတ္တ၊ အတ္တ+ဇီဝသာ၊ (အတ္တ+ဇီဝ=အသုည) အတ္တ+ဇီဝေ၊ ပျောက်ကင်းစေ၊ မှတ်လေ သုညတာ။**

## ဝိမောက္ခ-၃ မျိုးပြားရပုံ

ဝိမောက္ခဟူသောမဂ်သို့ ရောက်ပုံခြင်းတူသော်လည်း၊ ရှုပွားပုံအခြင်းအရာ-၃ မျိုးကွဲပြားသွားသဖြင့် ဝိမောက္ခဟူသော မဂ်-၃ မျိုး ပြားသွားရသည်။

(၁) ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်ဖြင့် **အနိစ္စဟုရှုနေခိုက်** အနိမိတ္တာနုပဿနာ(ဝိမောက္ခမုခ)မည်၏။ ထိုသို့ရှုသဖြင့် မဂ်သို့ရောက်သည်ရှိသော် အနိမိတ္တဝိမောက္ခ မည်၏။

(၂) **ဒုက္ခဟုရှုနေခိုက်** အပ္ပဏိဟိတာနုပဿနာ(ဝိမောက္ခမုခ)မည်၏။ ထိုသို့ရှုသဖြင့် မဂ်ရသည်ရှိသော် အပ္ပဏိဟိတဝိမောက္ခ မည်၏။

(၃) **အနတ္တဟုရှုနေခိုက်** သုညတာနုပဿနာ(ဝိမောက္ခမုခ)မည်၏။ ထိုသို့ရှုသဖြင့် မဂ်ရသော် သုညတဝိမောက္ခ မည်၏။

ဥပမာ ရန်ကုန်မြို့သို့ ဆိုက်ရောက်လာခြင်း တူသော်လည်း-

(က) လေယာဉ်ဖြင့် ရန်ကုန်သို့ ဆိုက်ရောက်လာသူကို - လေယာဉ်ဖြင့်ရန်ကုန်သို့ ရောက်လာသူဟု လည်းကောင်း၊

(ခ) ရထားဖြင့် ရန်ကုန်သို့ ဆိုက်ရောက်လာသူကို - ရထားဖြင့်ရန်ကုန်သို့ ရောက်လာသူဟု လည်းကောင်း

(ဂ) ကားဖြင့် ရန်ကုန်သို့ ဆိုက်ရောက်လာသူကို - ကားဖြင့်ရန်ကုန်သို့ ရောက်လာသူဟု လည်းကောင်း

ရောက်သည့်နေရာ တူသော်လည်း ရောက်လာပုံအခြင်းအရာ မတူသည်ကို စွဲ၍ အမည်များ ကွဲသွားရသည်။

**ဆောင်**-သူ့တံခါးမှ၊ ပေါက်ရောက်က၊ မောက္ခသူ့မဂ်သာ။

(မဂ်+ဖိုလ်+နိဗ္ဗာန်=မြို့ကြီး)သို့ ရောက်လိုကြသောသူတို့သည်

(က) အနိစ္စကို အဖန်ဖန်ရှုခြင်းတံခါးပေါက် (ခ)ဒုက္ခကို အဖန်ဖန်ရှုခြင်းတံခါးပေါက် (ဂ) အနတ္တကို အဖန်ဖန်ရှုခြင်းတံခါးပေါက်သုံးပေါက်မှ နှစ်သက်ရာ တံခါးပေါက်ဖြင့် ဝင်ရောက်နိုင်ကြကုန်၏။

ဒုက္ခခပ်သိမ်းအပြီးတိုင်ချုပ်ငြိမ်းရာ=မဂ်+ဖိုလ်+နိဗ္ဗာန်=မြို့ကြီးသို့ဝင်ရောက်နိုင်ကြပါစေကုန်။

## သမထ ဝိပဿနာအကျိုး

(၁) သမထဘာဝနာကို ပွားများခြင်းကြောင့် စျာနသုခ စသော အကျိုးကို ရနိုင်၏။

(၂) ဝိပဿနာဘာဝနာကို ပွားများခြင်းကြောင့် ဖလသုခ စသောအကျိုးကို ရနိုင်၏။

ကမ္မဋ္ဌာန်းပိုင်းပြီး၏။

* ဂတိငါးပါး၊ ဆုံလည်နွား၊ သွားရှဲမဆုံးပြီ။
* ဘဝတိုင်းသေ၊ သင်းချိုင်းမြေ၊ ပွါးစေလှလေပြီ။
* လမ်းကောက်လည်းသွား၊ လူအများ၊ အမှားကြိုက်ခဲ့ပြီ။
* လမ်းကြောင်းမမှန်၊ မြိုက်နိဗ္ဗာန်၊ ကေန်လွဲခဲ့ပြီ။
* ဘဝမဆုံး၊ ဒုက္ခတုံး၊ လုံးလုံးခံရပြီ။
* လောကစက္ခု၊ သဗ္ဗညု၊ ယခုရှိရက်မင်း။
* ဘုရားဖြစ်ခါ၊ သာသနာ၊ ရောင်ဝါတဝင်းဝင်း။
* မနုဿတ္တ၊ ဒုလ္လဘ၊ ရအောင်ခဲကြမင်း။
* ဖြဟ္မာ့ပြည်က၊ အပ်ကိုချ၊ မြေကအပ်တစ်စင်း၊
* အပ်သွားခြင်းသာ၊ ထိဘွယ်ရာ၊ ပမာမှတ်ကြမင်း။
* နိယျာနိက၊ မြတ်ဓမ္မ၊ ကြားရခဲ၏မင်း။
* သဒ္ဓါဗလပ၊ ဒုလ္လဘ၊ ရအောင်ခဲကြမင်း။
* အရတော်ခိုက်၊ လူတသိုက်၊ ခဲလိုက်ကြကုန်မင်း။
* ကိုယ့်ဖို့အရ၊ သည်နောင်တ၊ ဖြစ်တတ်ကြ၏မင်း။
* ဤသို့ဘဝ၊ ဖြစ်သမျှ၊ ရမည်ခဲ၏မင်း။
* ထူးမြတ်စွာလှ၊ လူ့ဘဝ၊ နှမြောကြကုန်မင်း။
* မြတ်သည်ကိုမှ၊ မသိကြ၊ ဗာလနှလုံးသွင်း။
* ဗာလဖြစ်က၊ လူ့ပါပ၊ ကြာကြကုန်ပြီမင်း။
* လူဖြစ်ကျိုးမှ၊ မခံရ၊ ရှုံးကြလေ၏မင်း။

